စာမူခွင့်ပြုချက် အမှတ်(၄၅၀)
မျက်နှာဖုံးခွင့်ပြုချက်အမှတ်(၄၉၁)
မျက်နှာဖုံးပန်းချီ တင်မောင်မျင့်
မျက်နှာဖုံးရိုက် သိန်းမြင့်ဝင်းအော့ဖ်ဆက်

၁၉၈၈- လ
ပထမအကြိမ်
အုပ်ရေ-တစ်ထောင်
စာအုပ်ချုပ် - ပပစိုးနှင့်အဖွဲ့

ဒေါ်ခင်စီ(၀၂၅၀၇)၊ပြည်ဦးတောပုံနှိပ်တိုက်၊
အမှတ်၁၅၈၊၃၇ လမ်း၊ ရန်ကုန်မြို့တွင် ရိုက်နှိပ်ပြီး၊
ဦးသန်းမြင့် (၀၁၀၄၀)၊ လင်းလင်းစာပေ၊
အမှတ် ၉၃၇၊ ၁၀ မိုင်၊ အင်းစိန်မှ ထုတ်ဝေသည်။



# မြသန်းတင့်

## ခန်းဆောင်နီအိပ်မက်

## A DREAM OF RED MANSIONS

TSAO HSUEH CHIN
& KAO NGO

တန်ဖိုး - လေးဆယ့်နှစ်ကျပ်။



## အခန်း ၃၀

### ပေါက်ကြည်သည် ယပ်တောင်ကိုင်၍ အရိပ်အယောင်ပြခြင်း။ မြေကြီးပေါ်တွင် လင်ကွမ်းစာရေးသဖြင့် လူငယ်တစ်ဦး စိတ်ထိခိုက်ရခြင်း။

ပေါက်ယုနှင့် ရန်ဖြစ်မိသည့်အတွက် ထိုက်သုမှာလည်း စိတ်မချမ်းသာဖြစ်ကာ နေ့ခင်းတွင် ရောက်ရှိသေး၏။ သို့ရာတွင် ပေါက်ယုနှင့် ပြေလည်အောင် စကားစမြည်ပြောရန်မှာ အကြောင်းရှာမရဘဲဖြစ်နေ၏။ သို့ဖြင့် ထိုက်ယုသည် နေ့ခရာညပါပူခဆွေးလျက်ရှိ၏၊ ထိုက်ယု၏ အခြေအနေကိုသိသော အစေခံ ဇွဲချွန်းသည် အနီးမှနေ၍ ဖျောင်းဖျနှစ်သိမ့်လျက်ရှိ၏။

"မလေးက မနေ့ကသိပ်လောကြီးသွားတာကိုမလေးရဲ့၊ အနည်းဆုံး ဒီပြင်လူကို နားမလည်အောင်မှ သခင်လေး ပေါက်ယုကိုတော့ မသေးနားသည့်သင့်တာပေါ့၊ အလျင်တစ်ခါတုန်းကလဲ ဒီကျောက်စိမ်းတုံးကြောင့်ဖြစ်၊ ခုလဲ ဒီကျောက်စိမ်းတုံးကြောင့်ဖြစ် ဆိုတော့"

"ဪ၊ နင်ကလဲ ငါ့ကိုအပြစ်ဖို့ဘယ်ပေါ့၊ သူများတွေဘက်ကပါတယ်ပေါ့၊ လောကြီးရအောင် ငါကဘာလုပ်လို့လဲ"

"မလေးက ဘာဖြစ်လို့ ကျောက်စိမ်းတုံးက ပန်းပွားကိုသွားပြီး ကတ်ကြေးနဲ့ဖြတ်ပစ်ရတာလဲ၊ ဒုလိုလုပ်လိုက်တော့ မလေးက သခင်လေး ပေါက်ယုထက်တောင် ဆိုးသွားတာပေါ့၊ တကယ်တော့ သခင်လေး ပေါက်ယုဟာ မလေးကိုချစ်ရှာပါတယ် မလေးရယ်၊ မလေးကသာ ဆတ်ဆတ်ထိမခံဖြစ်နေပြီး အထအနကောက်နေတာ"

ထိုက်ယု မည်သို့မျှပြန်မပြောရသေးမီ အပြင်ဘက်ဝင်းတံခါးဆီမှ ခေါင်းသံတစ်ခုကို ကြားလိုက်ရလေ၏။

"ဟော...သခင်လေးပေါက်ယုရဲ့အသံပဲ၊ ကေန္တ မမလေးကိုလာပြီးတောင်းပန်တယ်ထင်တယ်"

"တော်ပြီ၊ မလာပေ့စေနဲ့"

"ဘယ်ကောင်းမလဲ မလေးရယ်၊ အပြင်ဘက်က ပူက ပူပါဘိသနဲ့။ တော်တော်ကြာ အပူရှပ်နေပါဦးမယ်"

ဇူချွန်းသည်ထသွားကာ တံခါးကို ဖွင့်ပေးလိုက်ပြီး ခပ်ပြုံးပြုံးပင် ပေါက်ယုကို အဆောင်ထဲသို့ခေါ်လာခဲ့၏။

"ကျွန်မတို့အဆောင်ကို သခင်လေးမလာတော့ဘူးလို့ အောက်မေ့နေတာ၊ ခုတော့ လာသေးတယ်နော်"

"ဒါတော့ ဇူချွန်းတို့ကသိပ်ပြီးအလေးအနက်ထားနေကြတာကိုး၊ ဘာဖြစ်လို့မလာရမှာလဲ၊ တကယ်လို့ မောင်သေသွားယင်တောင် မောင့်လိပ်ပြာဟာ ဇူချွန်းတို့ဆီကိုလာပြီး တစ်နေ့ကို အခါတစ်ရာလောက်လာပြနေမှာ၊ မလေးကော နေကောင်းပြီလား"

"လူကတော့ကောင်းပါပြီ၊ စိတ်ကတော့မကောင်းသေးဘူး"

"သူဘာဖြစ်နေတယ်ဆိုတာ မောင်သိပါတယ်"

အိပ်ဆောင်ထဲသို့ ဝင်သည့် အခါတွင် တရှုပ်ရှုပ် ငိုနေသည့် ထိုက်ယုကိုတွေ့ရ၏။ ထိုက်ယုသည် သူ့ဆီသို့ ပေါက်ယုလာသည့်အခါတွင် ဝမ်းနည်းသွားကာ ငိုနေခြင်းဖြစ်၏။

ပေါက်ယုက ရှင်လန်းသောမျက်နှာထားဖြင့် သူ့အိပ်ရာအနီးသို့ လျှောက်လာကာ

"နေကောင်းပြီလား မလေး"





ထိုက်ယုသည်ဘာမျှမပြောဘဲ မျက်ရည်များကိုသုတ်နေ၏။ ပေါက်ယုက ခုတင်စွန်းတွင်ဝင်ထိုင်လျက်

"မလေး မောင့်ကိုဘာကယ်စိတ်ဆိုးသလားဟင်၊ မလေးနဲ့ မောင်တို့ တစ်ယောက်နဲ့တစ်ယောက်မတွေ့ဘဲနေကြယင် ရန်ဖြစ်ကြပြန်ပြီဆိုပြီး မလေးနဲ့မောင်တို့ဟာ သူစိမ်းတင်ရိုက်ဆုံကြီးတွေလို့ ဖွားကဝင်ပြီးသင့်မြတ်အောင်လုပ်ပေးကြဦးမယ်၊ ဒီတော့ မလေး မောင့်ကိုထုချင်ထု၊ ရိုက်ချင်ရိုက်၊ ရေနွေးပူနဲ့လောင်းချင်လောင်း၊ ကြိုက်သလိုလုပ်ပါ၊ ဒါပေမယ့် မောင့်ကို ဥပေက္ခာတော့မပြုပါနဲ့နော် ဟုတ်လား မလေး"

ထိုက်ယုသည် ပေါက်ယုကို လျစ်လျူပြုထားလိုက်ရန်ဆုံးဖြတ်ပြီးဖြစ်၏။ သို့ရာတွင် သူ့စကားများကိုကြားလိုက်သည့်အခါ၌မူကား လောကတွင် သူနှင့်အရင်းနှီးဆုံး၊ အချစ်ခင်ဆုံးမှာ ပေါက်ယုတစ်ယောက်သာ ရှိတော့သည်ကို သတိရလိုက်၏။ ထို့ပြင် ပေါက်ယု၏ သာယာချိုပျောင်းသော စကားများကြောင့်လည်း ထိုက်ယုမှာ စိတ်မဆိုးနိုင်တော့ဘဲ သူ့အပေါ်တွင် စိတ်ပြေသွား၏။

ထိုက်ယုက ရှိုက်လိုက်ရင်း

"တော်စမ်းပါမောင်ရယ်၊ ခုမှ လာမြှောက်ပင့်မပြောမနေစမ်းပါနဲ့၊ နောင်မှာ မောင်နဲ့ဘယ်တော့မှ မိတ်ဆွေမဖြစ်ရဲတော့ပါဘူး၊ ကြောက်ပါပြီ၊ လောကကြီးမှာ မလေးမရှိတော့ဘူး၊ သွားပြီလို့ပဲ အောက်မေ့လိုက်ပါတော့"

"ဘယ်ကိုသွားမှာလဲ"

"အိမ်ကိုပြန်တော့မယ်"

"မလေးပြန်ယင် မောင်လဲလိုက်မယ်"

"တကယ်လို့ မလေးသေသွားတယ်ဆိုယင်ကော"

"ဘုန်းကြီးဝတ်မယ်"

"တော်စမ်းပါ၊ နောက်သလိုပြောင်သလိုနဲ့၊ ဒီက အတည်ပြောနေတာ၊ မောင့်မှာ ခင်ရာမင်ရာ အစ်မတွေ ညီမတွေတစ်ပုံကြီးပါ၊ သူတို့ကိုလဲ ထည့်စဉ်းစားပါဦး၊ သူတို့အထဲက တစ်ယောက်ယောက်သေတိုင်း

မောင်ဇာတိုန်းကြီးဝတ်ရအောင် မောင့်ကိုယ်မောင် ဘယ်နှစ်ကိုယ်ခွဲထားနိုင်လို့လဲ၊ ဒီစကားကိုသူတို့ကြားယင် စိတ်တောင်ဆိုးလိမ့်ဦးမယ်''

ပေါက်ယုသည် သူ့စကားမှားသွားသဖြင့် သူ့ကိုယ်သူထုထောင်းပစ်လိုက်ချင်၏။ သူသည် စကားတစ်ခွန်းမျှမပြောဘဲ မျက်နှာနီရဲလျက်ရှိရင်းက ခေါင်းငိုက်စိုက်ချထား၏။ အခန်းဆောင်ထဲတွင် မည်သူမျှ မရှိသည်ကိုပင် ကျေးဇူးတင်ရသေး၏။ ထိုက်ယုသည် စိတ်ဆိုးဆိုးဖြင့် စိုက်ကြည့်လျက်ရှိသည်တွင် ပေါက်ယု၏ပါးများမှ ခြစ်ခြစ်တောက်ပူလာသည်ဟုပင် ထင်ရ၏။ ထိုနောက် ထိုက်ယုသည် အံကိုတင်းတင်းကြိတ်လိုက်ပြီး ပေါက်ယု၏နဖူးကို လက်ညှိုးဖြင့်ထောက်လိုက်ရင်းက 'သူသိပ်ဆိုးတယ်'ဟု ပြောလိုက်၏။

ထိုနောက် ထိုက်ယုသည် သက်ပြင်းတစ်ချက်ချကာ လက်ကိုင်ပဝါဖြင့် မျက်ရည်များကို သုတ်လျက်ရှိ၏။

ပေါက်ယုမှာလည်း စိတ်ထိခိုက်လျက်ရှိကာ စကားမပြောနိုင်ဘဲ ဖြစ်နေ၏။ ထိုက်ယုက သူ့နဖူးကိုလက်ညှိုးဖြင့်ထောက်၍ ငိုနေသည့်အခါတွင် ပေါက်ယုမှာလည်း မျက်ရည်မဆည်နိုင်တော့ဘဲ ငိုလျက်ရှိ၏။ လက်ကိုင်ပဝါ ပါမလာသဖြင့် ပေါက်ယုသည် သူ့အင်္ကျီလက်ဖြင့် မျက်ရည်များကိုသုတ်နေ၏။ ပေါက်ယုသည် နှင်းပန်းပွင့်အဖြူများရိုက်ထားသည့် အပြာရောင်အင်္ကျီအသစ် ဝတ်ထားသည်ကို မျက်ရည်များကြားမှ မြင်ရလေ၏။ ထိုက်ယုသည် သူ့မျက်လုံးများကို သုတ်နေရင်း ခေါင်းအုံးအောက်မှ ပိုးလက်ကိုင်ပဝါတစ်ထည်ကို ဆွဲထုတ်၍ ပစ်ပေးလိုက်ပြီး မျက်နှာကို လက်ဝါးဖြင့်အုပ်ထား၏။

ပေါက်ယုသည် လက်ကိုင်ပဝါဖြင့်မျက်ရည်များကို သုတ်ပစ်လိုက်ပြီးနောက် အနီးသို့တိုးလာကာ ထိုက်ယု၏ လက်ကိုဆွဲကိုင်လိုက်လေ၏။

''မငိုပါနဲ့ မလေးရယ်၊ မလေး ငိုတာကိုမြင်ယင် မောင် ရင်နာလွန်းလို့ပါ။လာ၊ မယ်မယ်ဆီကို သွားကြရအောင်''

ထိုက်ယုက သူ့လက်ထဲမှ ရုန်းလိုက်ရင်း





''ဖယ်ပါ၊ လွှတ်ပါ၊မောင်ဟာ ကလေးလေးတစ်ယောက်မဟုတ်တော့ဘူး၊ ကလေးလေးလိုအရှက်မရှိ လုပ်မနေနဲ့၊ မောင် အနေအထိုင်တွေဆင်ခြင်ပါ၊ ကောင်းကောင်းနေပါ''

''အလို၊ဘုရားရေ''

ထိုအသံကြောင့် သူတို့နှစ်ယောက်သည် လန့်သွားကြလေ၏။လှည့်ကြည့်လိုက်သည့်အခါတွင် မျက်နှာရှင်ရှင်ဖြင့်ဝင်လာသည့်နတ်ငှက်မယ်ကို မြင်လိုက်ရလေ၏။

''အဘွားကြီးတော့ တော်တော်စိတ်ဆိုးနေတယ်၊ မောင်တို့ နှစ်ယောက် ထင့်မြတ်ပလားဆိုတာ 'သွားကြည့်ချည်စမ်းဆိုလို့ ငှက်မယ် လာကြည့်ရတာရှင့်။ နေပါစေမယ်မယ်ရယ်၊ သူတို့နေနိုင် သုံးရက်ပေါ့လို့ ငှက်မယ်က ပြောပါသေးတယ်၊ ဒါပေမယ့် မရဘူး၊ ငှက်မယ်ကို အပျင်းထူသလေးဘာလေးနဲ့ ဆူလွှတ်လိုက်လို့ လာကြည့်ရတာ ရှင်ရေ။ ကဲ၊ ခုတော့ ကျုပ် ဘာပြောရမလဲဟင်၊ ဘာကြောင့် ရန်ဖြစ်တယ်လို့ ပြောရမလဲ။ မောင်တို့နှစ်ယောက်ဟာ ခက်ကိုခက်တယ်၊ ခုရန်ဖြစ်လိုက်၊ တော်တော်ကြာ ပြန်ခေါ်လိုက်နဲ့၊ ခုကျတော့ တစ်ယောက်လက်တစ်ယောက်ကိုင်လို့ ငိုနေလိုက်ကြတာ၊ မနေ့တုန်းကတော့လဲ တိုက်ကြက်ကြီး နှစ်ကောင်လိုပဲ၊ တစောင်စောင်နဲ့။ ကဲလာ၊လိုက်ခဲ့ကြ၊ နို့မို့ယင် မယ်မယ် စိတ်ပူနေလိမ့်မယ်''

နတ်ငှက်မယ်က ထိုက်ယု၏လက်ကို ဆွဲခေါ်လိုက်၏။ ထိုက်ယုက နောက်ပြန်လှည့်ကာ သူ့အစေတော်များကို လှမ်းခေါ်လိုက်လေ၏။ သို့ရာတွင် တစ်ယောက်မျှမရှိကြချေ။

''အံမယ်လေး၊ အစေတော်တွေကို ဘာလုပ်ခေါ်ဦးမလို့လဲ၊ငှက်မယ်ပဲ ထိုက်ယုရဲ့အစေတော်အဖြစ်ပြုစုစောင့်ရှောက်ပါ့မယ်တဲ့ရှင်''

ထိုသို့ပြောဆိုပြီးနောက် နတ်ငှက်မယ်သည် ထိုက်ယုကို ဆွဲခေါ်သွားလေ၏။ ပေါက်ယုလည်း သူ့နောက်မှနေ၍ မယ်မယ်၏ အဆောင်များဘက်သို့ လိုက်လာခဲ့လေ၏။

''ကဲ ငှက်မယ် အစကမပြောဘူးလား၊ သူတို့ဘာသာသူတို့ ပြန်တည့်သွားကြမှာ ပါလို့ ငှက်မယ်ပြောတယ် မဟုတ်လား။မယ်မယ်ကမယုံ

ဘူးတဲ့၊ ငှက်မယ် သွားပြီး ကျေအေးအောင်လုပ်ချည်တဲ့၊ ခုတော့ တည်ငြိမ်နေလိုက်ကြတာ၊ လင်းယုန်က စွန်ကို ကုတ်ထားတဲ့ အတိုင်းပဲ။ သူတို့ကို ဘယ်သူ့မှ ပြောစရာ မလိုပါဘူးလို့ ပြောတယ်မဟုတ်သား''

ငှက်မယ်၏စကားကြောင့် တစ်ခန်းလုံးပွဲကျသွားလေ၏။ ပေါက်ကြည်လည်း အခန်းထဲတွင် ရောက်နေ၏။ ထိုက်ယုက မည်သို့မျှမပြောဘဲ မယ်မယ်၏ဘေးတွင် ဝင်ထိုင်လိုက်၏။

ပေါက်ယုက ပေါက်ကြည်ဘက်သို့ လှည့်လိုက်ပြီးလျှင်

''အစ်ကိုဆွေ့ဖန်ရဲ့မွေးနေ့မှာ နေထိုင်မကောင်းဖြစ်ဘာနာတယ် မလေးပေါက်ကြည်ရာ၊ ဒါ့ကြောင့် မောင်ဖြင့် လက်ဆောင်လဲ မပို့နိုင်ခဲ့ဘူး၊သွားလဲမသွားနိုင်ခဲ့ဘူး။ မောင် နေမကောင်းဘူးဆိုဘာကိုမသိယင်တော့ သူ့မွေးနေ့မလာရကောင်းလားလို့ စိတ်ဆိုးမှာပဲ၊ မလေးပေါက်ကြည်ကတောင်းပန်ပေးပါနော်''

''အံမယ်လေး၊မစိုးရိမ်ပါနဲ့မောင်ရယ်၊ မောင်တို့လိုလူဘေ့ကိုစိတ်မဆိုးရဲပါဘူး၊ နေထိုင်ကောင်းရက်သားနဲ့ မလာဘူးဆိုယင်လဲ စိတ်မဆိုးရဲပါဘူး၊ နေထိုင်မကောင်းယင်တော့ မပြောနဲ့တော့ပေါ့။ ပြီးတော့လဲ မလေးတို့နဲ့မောင်တို့ဆိုဘာ ဆွေမျိုးတွေပဲ၊ တစိမ်းတွေလို တောင်းပန်တာတွေ ဘာတွေ မလိုပါဘူး''

''မလေးလို ခွင့်လွှတ်ကြပြီး မလေးလို နားလည်တတ်ယင်တော့ ကောင်းတာပေါ့လေ။ နေစမ်းပါဦး၊ ဘာဖြစ်လို့ ဇာတ်ပွဲမကြည့်တော့ဘဲ ဒီ့ရောက်နေကြတာလဲ''

''ပူလွန်းလို့ မောင်ရဲ့၊ နှစ်ပိုင်းလဲကြည့်ပြီးရော ဆက်ကြည့်လို့ မရတော့ဘူး၊ သိပ်ပူတာပဲ။ ဒါပေမယ့် ဧည့်သည်တွေရှိနေတော့ ကိုယ်ကထလို့ မကောင်းဘူးမဟုတ်သား၊ ဒါ့ကြောင့် နေမကောင်းချင်ယောင်ဆောင်ပြီးအသာကလေး လစ်လာတာ''

ပေါက်ယုက ခပ်ပြုံးပြုံးဖြင့်

''ဒါကြောင့် မလေးကိုမိဖုရားယန်နဲ့တူတယ်သို့ ပြောကြဘာကိုး''

ဟုလှမ်း၍ နောက်လိုက်၏။ (တန်မင်းဆက်ဘုရင်တွမ်၏ မိဖုရားယန်မှာ ဝသဖြင့် အပူဒဏ်ကို မခံနိုင်ဘု ပြောစမှတ်ပြုကြသည်။)





ပေါက်ကြည်သည် သူ့ကို ဤသို့ ပြောလိုက်သဖြင့် ထောင်းခနဲဖြစ်သွားသော်လည်း စိတ်ကိုချုပ်တည်းထားလိုက်၏။ သို့ရာတွင် ထိုသို့ပြောလိုက်သည့်အတွက် စိတ်ထဲတွင်ကား အကြီးအကျယ်ဒေါပွလျက်ရှိလေပြီ။ ပေါက်ကြည်သည် ခပ်မဲ့မဲ့ပြုံးလိုက်ကာ

''မလေးက မိဖုရားယန်နဲ့တူတယ်ဆိုလို့ရှိယင် ယန် ကို့ ချုံ လို မောင်မျိုး မရှိတာ နာတာပေါ့''ဟုပြော၏။ (ယန်ကို့ချုံ့မှာမှာမိဖုရား၏မောင်ဖြစ်ပြီး နမမြောက်စား၊သဖြင့် နန်းရင်းဝန်ကြီးဖြစ်ကာ အာဏာကိုအလွဲသုံးစားပြုခဲ့သည်ဟု နာမည်ကြီးခဲ့သည်။)

ထိုစဉ် ပေါက်ကြည်၏ အစေတော်တစ်ဦးဖြစ်သည့် တန်အဲက

''သခင်မလေး၊ကျွန်မယပ်တောင်ပျောက်သွားလို့။ သခင်မလေး များနောက်ထားသလား။ နောက်ယင်ပြန်ပေးပါ သခင်မလေးရယ်၊ ရှိကြီးခိုးပါရဲ့''

ပေါက်ကြည်က သူ့ကို မျက်နှာထား ဖြင့်လှည့်ကြည့်ကာ လက်ညှိုးထောင်ပြလိုက်ပြီး

''ကောင်မ ငြိမ်ငြိမ်နေစမ်း၊ ညည်းယပ်တောင်ကို ငါယူတယ်လို့ထင်ရအောင် ညည်းကို ငါဘယ်တုန်းကများ အနေရာဘဝင် နေခဲ့ဖူးလို့လဲ။ ညည်းကိုနောက်နေကျ တခြားသခင်မလေးတွေကို မေးကြည့်ပါလား၊ ငါမယူပါဘူး''

တန်အဲသည် နောက်ထပ် ဘာမျှမပြောရဲတော့ဘဲ ထွက်သွား၏။

ပေါက်ယုသည် ပေါက်ကြည်ကို လူပုံထဲတွင် သွားစလိုက်မိသဖြင့် ဒေါသထွက်နေသည်ကိုသိလိုက်လေပြီ။ ထို့ကြောင့် အစေတော်ကို မာန်မဲနေခြင်းဖြစ်သည်ကိုလည်း သိလိုက်၏။ ပေါက်ယုသည် ရှက်ရှက်ဖြင့် အခြားသူများနှင့်လှည့်၍ စကားပြောနေလေ၏။

ပေါက်ကြည်အား ပေါက်ယုက နောက်ပြောင်နေသံကို ကြားသည့်အခါတွင် ထိုက်ယုသည်ကျိတ်၍ ဝမ်းသာလျက်ရှိ၏။ သူကိုယ်တိုင်ဝင်နောက်တော့မည့်ဆဲဆဲတွင် ပေါက်ကြည်က ယပ်တောင်အကြောင်းကို စောင်းမြောင်းပြောလိုက်သည့်အတွက် ထိုက်ယုသည် မနောက်တော့ဘဲ ကိုယ်ရှိန်သတ်လိုက်ရ၏။ ပေါက်ယုက စကားလမ်းလွှဲသည့်အနေဖြင့်

"ပြဇာတ်က ကောင်းရဲ့လားမလေး"

မိမိအား ပေါက်ယုက နောက်ပြောင်သည့်အခါတွင် ထိုက်ယုဝမ်းသာလျက်ရှိကြောင်းကို ပေါက်ကြည်ကလဲ သတိမပြုဘဲ နေလိုက်သည်မဟုတ်ချေ။ ပေါက်ကြည်ကပြုံးလိုက်ရင်း

"ပြဇာတ်တစ်ခုကတော့ မဆိုးပါဘူး၊ လီကွေ့က ဆွန်ကျန်းကို မာန်မဲဆူပူပြီး ပြန်တောင်းပန်တဲ့အခန်းလေ"

(ယင်းမှာ ရှုဟုဆိုသည့် ရှေးဟောင်း ဇာတ်ဝတ္ထုမှ အခန်းတစ်ခန်းဖြစ်ပြီး လယ်သမား သူပုန်ဖြစ်သည့် လီကွေ့က ခေါင်းဆောင် ဆွန်ကျန်းကိုကတောက်ကဆတ်ပြောပြီးနောက် ပြန်တောင်းပန်ရသည့် အခန်းဖြစ်သည်။)

ပေါက်ယုကပြုံးလိုက်ရင်း

"မလေးက ဘယ်ဆိုးလို့လဲ၊ရှေးဟောင်းဂန္ထဝင်တွေကိုလဲ တော်တော်နှံ့စပ်သားပဲ။ အဲဒီဇာတ်ရဲ့ နာမည်ကိုပါ ပြောလိုက်ပေါ့။ ဇာတ်ရဲ့ နာမယ်က 'ဒူးထောက်အရှုံးပေးခြင်း' ဆိုတဲ့ ဇာတ်မဟုတ်လား"

"ဘာ၊ 'ဒူးထောက်အရှုံးပေးခြင်း' တဲ့ဟုတ်လား၊ မောင်နဲ့ထိုက်ယုက ရှေးဟောင်းဂန္ထဝင်တွေကို တော်တော်နှံ့စပ်တာပဲ၊ 'ဒူးထောက်အရှုံးပေးတယ်' ဆိုတာ ဘယ်လိုဟာလဲဆိုတာ မောင်တို့နှစ်ယောက် သိမှာပေါ့၊ ပေါက်ကြည်တို့ကတော့ ဒါမျိုးကို ဉာဏ်မမီပါဘူး"

ပေါက်ယုနှင့် ထိုက်ယုတို့နှစ်ယောက်စလုံးမှာ သူတို့အဖြစ်ကို သူတို့ မလုံမလဲဖြစ်နေကြသူများဖြစ်သည့်အတွက် ထိုစကားကြောင့် မျက်နှာနီရဲသွားကြ၏။ နတ်ငှက်မယ်သည် မည်သည်ကိုရည်ရွယ်၍ ပြောဆိုနေကြကြောင်းကို မရိပ်မိသည့်တိုင် သူတို့နှစ်ယောက် မျက်နှာပျက်သွားသည်ကို မြင်လိုက်ရာ အကြောင်းတစ်ခုခု ရှိမည်ဟု တွက်လိုက်၏။

"ဒီလောက်ပူတဲ့ ရာသီကြီးမှာ ဘယ်သူများ ငရုတ်ကောင်းစားသလဲမသိဘူးနော်" ဟု ပြုံးစနဲ့နဲ့ဖြင့် ပြော၏။

"ဘာဖြစ်လို့လဲ၊ ဘယ်သူမှမစားပါဘူး"

နတ်ငှက်မယ်က ပါးနှစ်ဖက်ကို လက်ဝါးဖြင့်အုပ်ကာ မျက်လုံးပြူး၍ ပြလိုက်ပြီး







"မသိဘူးလေ၊ တချို့လူတွေမှာ ပါးတွေ မျက်နှာတွေနီရဲနေလို့ မေးကြည့်တာပါ"

သူ့စကားကြောင့် ပေါက်ယုနှင့် ထိုက်ယုတို့မှာ ပို၍ မလုံမလဲဖြစ်သွားကြ၏။ ပေါက်ယု မျက်နှာပျက်နေသည်ကို မြင်လိုက်သည့်အခါတွင် ပေါက်ကြည်သည် ထိုစကားကို မဆက်တော့ဘဲ အသာငြိမ်နေလိုက်၏။ သူတို့လေးယောက်စကားကို ကောင်းကောင်းနားမလည်သည့် အခြားသူများကလည်း ဘာမျှမပြောတော့ဘဲ ငြိမ်နေလိုက်ကြလေ၏။

ခဏနေလျှင် ပေါက်ကြည်နှင့် နတ်ငှက်မယ်တို့ ပြန်သွားကြ၏။ ထိုက်ယုက ပေါက်ယုဘက်သို့ ပြုံး၍ ကြည့်လိုက်ပြီးလျှင်

"မောင်က မလေးတို့ကိုသာ နိုင်တာပါ၊ မလေးတို့ထက် နှုတ်သီးကောင်းလျှာပါးတဲ့ဟာမျိုးကျတော့ ငြိမ်နေလိုက်ရပြီမဟုတ်လား။ မလေးလို နုံတဲ့အတဲ့သူကိုသာ စရဲတာပါ၊ ဒီပြင်လူကို ဒီလိုသွားစမ်းလို့တော့ ဘယ်ရမလဲ"

ပေါက်ယုသည် စောစောကပင် ပေါက်ကြည်စကားကြောင့် စိတ်တိုလျက်ရှိရာ ယခု ထိုက်ယုက ခနဲ့လိုက်သည့်အခါတွင် ပို၍စိတ်တိုသွားပြန်၏။ သို့ရာတွင် နောက်ထပ် အကျယ်ကျယ် မဖြစ်လိုတော့သည့်အတွက် သုန်မှုန်သည့် မျက်နှာဖြင့် အခန်းထဲမှ ထွက်လာခဲ့၏။

အချိန်မှာ နေ့လယ်ဖြစ်၏။ နေ့တာရှည်လှသဖြင့် သခင်များနှင့် အစေတော်များပါ နေ့လယ်စာစားပြီး ချိန်ဆိုလျှင် ပင်ပန်းနေလေပြီ။ ပေါက်ယုသည် လက်နှစ်ဖက်ကို နောက်သို့ပစ်ကာ ဥယျာဉ်ထဲတွင် လမ်းလျှောက်လျက်ရှိ၏။ ပေါက်ယုသည် မယ်မယ်၏အဆောင်မှ ဆင်းလာကာ အနောက်ဝင်းတံခါးမှထွက်ခဲ့ပြီးလျှင် နတ်ငှက်မယ်၏ အဆောင်ထက်ဆီသို့ လာခဲ့၏။ ဝင်းတံခါးမှာ ပိတ်လျက်ရှိ၏။ နေ့ဆိုလျှင် နတ်ငှက်မယ်သည် နေ့လယ်စာစားပြီး အိပ်လေ့ရှိသည့် အတွက် သူ့အဆောင်သို့ မဝင်တော့ဘဲ သူ့မေဖျားသခင်မငယ်၏ အဆောင်များဘက်သို့လာခဲ့ရာ တက်တင်းထိုးရင်း အိပ်ငိုက်နေကြသော အစေတော်များကိုတွေ့ရ၏။ မေဖျားမှာ အတွင်းဆောင်ရှိ ညောင်စောင်းတစ်ခုပေါ်တွင် အိပ်

ပျော်လျက်ရှိ၏။ မယ်မယ်၏ခြေသလုံးများကို နှိပ်ပေးနေသည့် အစေတော်ချင်ချွန်းမှာလည်း အိပ်ငိုက်လျက်ရှိ၏။

ပေါက်ယုသည် အသာခြေဖျားထောက်၍ ဝင်လာခဲ့ပြီးနောက် ချင်ချွန်း၏နားဆွဲများကို လှမ်းဆွဲလိုက်သည်တွင် ချင်ချွန်းလည်း အိပ်ငိုက်ရာမှ နိုးလာလေ၏။

"ဘာအိပ်ငိုက်နေတာလဲ"

ချင်ချွန်းက နှုတ်ခမ်းစူ၍ မှုပ်ပုံးပုံးပြုလိုက်ပြီးနောက် သူ့ကိုအနားမလာရန် လက်ပြလိုက်ကာ မျက်လုံးများကို ပြန်မှိတ်ထားလိုက်၏။ ထိုရာတွင် ပေါက်ယုမှာ အနားမှမခွာချင်သေး။ ပေါက်ယုသည် မေဖျားကို လှမ်းကြည့်လိုက်ရာ မျက်လုံးများမှိတ်ထားသည်ကို တွေ့ရ၏။ ပေါက်ယုက လက်ကိုင်အိတ်ထဲမှ ပရုပ်ပြားဆေးတစ်လုံးကို ထုတ်၍ ချင်ချွန်း၏ ပါးစပ်ထဲသို့ထည့်လိုက်ရာ ချင်ချွန်းကလည်း မျက်စိမဖွင့်ဘဲ ဆေးပြားကို ငုံထားလိုက်၏။ ပေါက်ယုသည် အနားသို့ကပ်လာကာ ချင်ချွန်း၏ လက်ကိုဆုပ်ကိုင်လိုက်လျက်

"မနက်ဖြန်ကျယင် အနားပေးဖို့မေဖျားကိုပြောလိုက်မယ်၊ မောင့်ဆီကိုလာမလား"

ချင်ချွန်းက မည်သို့မျှမဖြေ။

"ဒါမှမဟုတ်ယင်လဲ ခုနိုးလာတော့ ပြောလိုက်ရမလား"

ချင်ချွန်းသည် မျက်လုံးကိုဖွင့်ကြည့်ကာ သူ့ကို တွန်းလွှတ်လိုက်ရင်း

"ဘာဖြစ်လို့ ဒီလောက် အလျင်စလိုဖြစ်နေရတာလဲ၊ ရွှေအပ်ဟာ ရေတွင်းထဲကျပေမယ့် ကိုယ့်ပစ္စည်းဟာ ကိုယ့်ပစ္စည်းတဲ့၊ ဘယ်အချိန်ဆယ်ဆယ်ရတာပဲမဟုတ်လား၊အဲဒီစကားပုံကိုမကြားဖူးဘူးလား။ဒါတွေ အသာထားစမ်းပါဦး၊ သခင်လေးပျင်းနေယင် ပျော်စရာတစ်ခုပြောလိုက်မလို့။ အရှေ့ဘက်ကဝင်းကလေးထဲကို သွားချည်၊ သခင်လေးရဲ့ညီကျိဟုန်တို့နဲ့ဆေ့ယွန်တို့ ချိန်းတွေ့နေကြတယ်"

"ငါသူတို့ကိုစိတ်မဝင်စားပါဘူး၊နှင့်ကိုပဲ စိတ်ဝင်စားတာ"





ထိုစဉ် သခင်မဝမ်သည် အိပ်ရာမှထ,ထိုင်ကာ ချင်ချွန်း၏ ပါးကို ဖြန်းခနဲတစ်ချက်ရိုက်လိုက်ပြီး

"ကောင်မ၊ တော်တော်သောက်ကမြင်းထတဲ့ကောင်မ။ နင်တို့လို အရှက်မရှိတဲ့ဟာမတွေကြောင့် လူပျိုကလေးတွေ ဒုက္ခရောက်နေကြတာ"

သခင်မဝမ် ထ,ထိုင်လိုက်သည်နှင့် ပေါက်ယုမှာ မီးခိုးတန်းတစ်ခုကဲ့သို့ လစ်ခနဲပျောက်သွားခဲ့လေပြီ။ ချင်ချွန်း၏ပါးမှာ စပ်ဖျဉ်းဖျဉ်းဖြစ်လျက်ရှိသော်လည်း ပည်သို့မျှမပြောခဲ့ဘဲ ငြိမ်နေ၏၊ သခင်မကြီး၏အသံကို ကြားသဖြင့် အခြားအစေတော်များသည် ပြေးလာကြ၏။

"ယုချွန်း၊လာစမ်း၊ သွား၊ နင့်အမေကိုသွားခေါ်ချည်။ ပြီးတော့ ညည်းညီမကိုပြန်ခေါ်သွားတော့လို့ ပြောလိုက်"

ချင်ချွန်းသည် မျက်ရည်တွေတွေစီးကျလာကာ ဒူးထောက် ထိုင်လိုက်ပြီးလျှင်

"ကြောက်ပါပြီ သခင်မကြီးဖျား၊နောက် ဒါမျိုးမဖြစ်စေရပါဘူး။ ကျွန်မကို ဆဲချင်ဆဲပါ၊ ရိုက်ချင်လဲရိုက်ပါ၊ ပေးချင်တဲ့ အပြစ်ပေးပါ။ ဒါပေမယ့် သနားသောအားဖြင့် အိမ်ကိုတော့ ပြန်မပို့ပါနဲ့ သခင်မကြီးဖျား၊ သခင်မကြီးဆီမှာ ကျွန်မ အမှုထမ်းလာတာဆယ်နှစ်ရှိပါပြီ၊ သခင်မကြီးက ထုတ်ပစ်လိုက်ပြီဆိုယင် ကျွန်မ ဒီမျက်နှာတွေကို နောက်ဘယ်မှာကြည့်လို့ရပါတော့မလဲ။သနားပါသခင်မကြီးဖျား"

ယေဘုယျအားဖြင့် သခင်မကြီးသည် စိတ်ကောင်း နှလုံးကောင်းရှိ၍ ပျော့ပျော့နေတတ်သူဖြစ်သည့်အလျောက် အစေတော်များကို ရိုက်နှက်လေ့မရှိချေ။ ထိုရာတွင် ချင်ချွန်း ယခုကဲ့သို့ အရှက်မရှိ ပြောနေပုံကိုမူ သည်းမခံနိုင်ချေ။ ထို့ကြောင့် ဒေါသထွက်ကာ ထ၍ပါးကိုရိုက်လိုက်ခြင်းဖြစ်၏။ ချင်ချွန်းသည် သခင်မကြီးဝမ်ကို တဖွဖွ တောင်းပန်သည့်တိုင် လက်မခံတော့ချေ။ သူ့အမေ မပိုင်ကိုခေါ်ကာ အိမ်သို့ ပြန်ပို့လိုက်၏။ ထို့ဖြင့် ချင်ချွန်းသည် ယွန်းစံအိမ်ကြီးမှ အရှက်တကွဲဖြင့် ပြန်လာခဲ့ရပေ၏။

ပေါက်ယုသည် မဟာနန္ဒာဥယျာဉ်သို့ ပြန်လာခဲ့၏။ နေသည် ကောင်းကင်အမြင့်တွင် ရောက်နေပြီး သစ်ရိပ်တို့ ဝေလျက်ရှိ၏။ ပုစဉ်း

ရင်ကွဲများ၏ အော်မြည်သံများမှအပ လူသံသူသံဆို၍ဘာမျှမကြားရချေ။ သို့ရာတွင် နှင်းဆီချုံတင်ချုံအနီးသို့ ရောက်သည့်အခါတွင် ရှိုက်သံသဲ့သဲ့တစ်ခုကို ကြားလိုက်ရသည့်အတွက် ပေါက်ယုသည် ရပ်၍ နားစွင့်လိုက်မိ၏။ မှန်သည်၊ နှင်းဆီချုံတစ်ဘက်တွင် တစ်ယောက်ယောက်ငိုနေသည့်ကမှု သေချာနေလေပြီ။ ပဥ္စမလ ဖြစ်သည့်အတွက် နှင်းဆီချုံများတွင် နှင်းဆီပွင့်တွေဝေနေအောင် ပွင့်နေကြ၏။ နှင်းဆီချုံများကြားမှ ချောင်းကြည့်လိုက်သည့်အခါတွင် ပန်းပွင့်များဘေးတွင် ဒူးထောက်ထိုင်ရင်း ငိုရှိုက်ကာ မြေပြင်ကို ဆံညှပ်ကလေးတစ်ချောင်းဖြင့် ခြစ်၍ငိုနေသည့်မိန်းကလေးတစ်ယောက်ကို မြင်ရ၏။

"မလေးထိုက်ယုလို ပန်းပွင့်ကြွေလေးတွေကို မြေကြီးထဲမှာ လာမြှုပ်ရင်း ငိုနေတဲ့ မိန်းကလေးတစ်ယောက်ပေပဲလား။ ဒီလိုဆိုယင်တော့ တုန်ရှိက ဆီရှီကို အတုခိုးတာမျိုးပဲ ဖြစ်မှာပေါ့၊ ဘယ်မှာကြည့်ကောင်းပါ့မလဲ" ဟု ပေါက်ယု တွေးနေလေ၏။

(ဆီရှီမှာ ရှေးခေတ် ယွေ့နိုင်ငံတွင် အလှမယ်တစ်ဦးဖြစ်ပြီး တုန်ရှီမှာ ထိုအလှမယ်ကို အတုခိုးနေသည့် အကျည်းတန် မိန်းကလေးတစ်ဦးဖြစ်သည်။)

ပေါက်ယုက 'မလေး ထိုက်ယုကို တုပြီး ဒီလိုလုပ်တယ်ဆိုယင်တော့ အချည်းနှီးဖြစ်မှာပဲ' ဟု ပြောမည်ပြုစဉ် ထိုမိန်းမပျိုမှာ အစေတော်ထဲမှ မိန်းမပျိုတစ်ယောက်မဟုတ်ဘဲ ကချေသည် ဆယ့်နှစ်ဦးထဲမှ မိန်းမပျိုကလေးတစ်ယောက် ဖြစ်ကြောင်းကို တွေ့ရ၏။ သို့ရာတွင် မည်သည့်အခန်းက ပါဝင်ကပြသည့် မိန်းမပျိုဖြစ်ကြောင်းကိုမူ ကောင်းစွာမမှတ်မိချေ။ ပေါက်ယုသည် ပါးစပ်က ထွက်တော့မည်ပြုပြီးမှ ကိုယ့်ပါးစပ်ကို ပြန်၍ပိတ်လိုက်၏။

'ငါမပြောလိုက်ဘာမှန်တယ်၊ ငါက ပရိယာယ်တွေ ဘာတွေကို နားလည်တာမဟုတ်ဘူး။ ငါအပြောမတတ်လို့ မလေးထိုက်ယု စိတ်ဆိုးခဲ့ဖူးပြီ၊ မလေးပေါက်ကြည်လဲ ငါ့ကိုစိတ်ဆိုးခဲ့ဖူးပြီ။ ကချေသည်မလေးကို သွားပြောလိုက်ယင် သူလဲစိတ်ထိခိုက်ဦးမယ်' ဟု တစ်ယောက်တည်းတွေးနေ၏။





ထိုသို့စဉ်းစားပြီးနောက် ပေါက်ယုသည် ထိုမိန်းမပျိုကလေးကို သေသေချာချာကြည့်လျက်ရှိ၏။ မိန်းမပျိုမှာ ကွေးညွတ်သော မျက်ခုံး၊ ကြည်လင်သောမျက်လုံး၊ နုနယ်သည့်ရုပ်ဆင်း၊ သေးသွယ်သောခါးနှင့် ကြက်သရေရှိသောလှုပ်ရှားမှုတို့ကြောင့် ထိုက်ယုနှင့်တူနေ၏။ ပေါက်ယုသည် တခြားသို့မသွားနိုင်တော့ဘဲ မိန်းမပျိုသာ ငေးစိုက်ကြည့်နေမိ၏။ မိန်းမပျိုသည် ဆံညှပ်ကလေးဖြင့် မြေကြီးပေါ်တွင် စာလုံးများကိုရေးခြစ်လျက်ရှိ၏။

ပေါက်ယုသည် ဆံညှပ်ကလေးဖြင့် ရေးခြစ်နေသော စာလုံးများကို ငုံ့ကြည့်လိုက်၏။ 'နှင်းဆီ' ဟူသော စာလုံးများကို တွေ့ရ၏။

"အင်း၊ ကဗျာရေးနေဟန်တူရဲ့။ ပန်းပွင့်ကလေးတွေကိုမြင်တော့ ကဗျာစပ်ချစ်စိတ်ပေါ်လာတာနဲ့တူတယ်။ နေဦး၊ သူ့နောက်ထပ်ဘာရေးဦးမလဲမသိဘူး" ဟု တွေးကာစောင့်ကြည့်နေ၏။

မိန်းမပျိုသည် ဆံညှပ်ကလေးဖြင့် နှင်းဆီဆိုသည့် စာလုံးများကို တစ်လုံးပြီးတစ်လုံး ရေးလျက်ရှိလေ၏။

"တစ်ခုခုစိတ်ညစ်စရာရှိလို့ စိတ်ပြေလက်ပျောက် ဒီစာလုံးကလေးတွေကိုများ လျှောက်ရေးနေလေသလား။ ဒါပေမယ့် သူ့ကိုကြည့်ရတာက နုနုနယ်နယ်ကလေးရယ်၊ သောကရဲ့ဒဏ်ကို သူခံနိုင်ပါ့မလား၊ သူ့သောကတွေကို မျှခံလို့ရယင် မျှပြီးခံလိုက်ပါရဲ့"

နွေလယ်ရာသီဥတုမှာ အကဲခတ်ရခက်လှ၏။ မိုးတိမ်တိုက်တစ်တိုက်သည် တရွေ့ရွေ့တက်လာ၏။ ခဏကြာလျှင် မိုးသက်လေဆင်လာပြီးနောက် မိုးစက်မိုးပေါက်တွေကျလာလေ၏။ မိန်းမပျိုကလေးမှာ ရေတော့စိုရွှဲကာ ခေါင်းတွင်အုပ်ထားသည့် ဇာပဝါကလေးမှာလည်း ဆိုဖွယ်မရှိတော့ပြီ။ မိုးမှာ သည်းသည်ထက် သည်းလာခဲ့လေပြီ။ ဤမျှလောက်သဲသဲမဲမဲ ရွာနေသည့်မိုးဒဏ်ကို ခံနိုင်ဖွယ်မရှိ။ ပေါက်ယုသည်မနေနိုင်တော့ဘဲ

"ဘာတွေရေးနေတာလဲ၊ ရပ်တော့လေ၊ မိုးတွေဒီလောက်ရွာနေတဲ့အထဲမှာ ဘာဖြစ်လို့ ဆက်ရေးနေရတာလဲ"

နှင်းဆီချုံတစ်ဘက်မှ သူ့အသံကို ကြားလိုက်သည့်အခါတွင် မိန်းမပျိုသည် လန့်သွားကာ ခေါင်းကို ဆတ်ခနဲ ထောင်ကြည့်လိုက်၏။ ပေါက်ယူမှာ လုပချောမောသူဖြစ်ပြီး သူ့ကိုယ်ကို နှင်းဆီ ချုံကြီးကွယ်နေသဖြင့် မိန်းမပျိုသည် သူ့ကို အစေတော်မိန်းမပျို တစ်ဦး ထင်မှတ်သွားကာ ပြုံးလျက်

"ကျေးဇူးတင်ပါတယ်အစ်မရယ်၊ အစ်မမှာကော မိုးတွေစိုနေမှာပေါ့"

သူပြောသည့်အတိုင်း ပေါက်ယူ တစ်ကိုယ်လုံးမှာလည်း စိုရွှဲကာ ခိုက်ခိုက်တုန်လျက် ရှိသေပြီ။

"ငါတော့ သွားတော့မယ်" ဟု ဆိုကာ ပေါက်ယူသည် မိမိရိပ်သာအဆောင်ဆီသို့ ပြေးလာခဲ့၏။ မိန်းမပျိုကား မိုးရေထဲတွင် ကျန်ရစ်ခဲ့လေပြီ။

ထိုအချိန်ကား နဂါးလှေပွဲတော်နီးပြီဖြစ်သည့်အတွက် ကချေသည်များမှာ ဇာတ်တိုက်ပြီး၍ အနားယူလျက်ရှိချိန်ဖြစ်သည့်အလျောက် ဥယျာဉ်ကြီးထဲတွင် လျှောက်၍လည်နေကြ၏။ မိုးရွာသောအခါ၌ ဇာတ်ထဲတွင် သုခမိန်အမတ်ကြီးအခန်းမှ ပါရသည့် ကချေသည် ပေါက်ကွမ်းနှင့် နန်းတွင်းသူမိန်းမချောအဖြစ် ပါရသည့် ယုကွမ်းတို့သည် မာလာနှင့်အတူ လျှောက်လည်နေကြ၏။ သူတို့သုံးယောက်သည် မြောင်းကြီးကိုပိတ်လိုက်ပြီး မန်ဒါလီများ၊ စစ္စလီများ၊ တောဘဲများကို ဖမ်းလာကာ အတောင်များကို ကြိုးဖြင့်ချည်၍ မြောင်းထဲလွှတ်နေကြ၏။

ထိုနောက် မြောင်းထဲတွင်ကူးနေကြသည့် ဘဲများကို ဝရန်တာမှ ကြည့်နေကြလေ၏။ ပေါက်ယူသည် မိုးရွာကြီးထဲမှ ပြေးလာသည့်အခါတွင် တံခါးမကြီး ပိတ်ထားသည်ကို တွေ့ရသဖြင့် အပြင်ဘက်မှနေ၍ တံခါးကိုထုရင်း တကြော်ကြော်အော်ခေါ်သော်လည်း သူတို့တစ်သိုက်မှာ ရယ်မောစကားများနေကြသဖြင့် ပေါက်ယုခေါ်သံကို မကြားကြချေ။ အတန်ကြာ၍ ပေါက်ယုအသံကို ကြားသည့်အခါ၌ မိုးရွာကြီးထဲ





တွင် ပြန်လာသည်ကိုတွေ့ရသဖြင့် အံ့အားသင့်လျက်ရှိကြ၏။ မိုးရွာကြီးထဲတွင် ပြန်လာမည်ဟု မထင်ကြချေ။

"အပြင်ဘက်က ဘယ်သူလဲ"

"ငါပါ" ဟု ပေါက်ယုကအော်၏။

"မလေးပေါက်ကြည်နဲ့တူတာပဲ" ဟု ရွှေ့ယွေ့က ပြော၏။

"ကြုံကြိုးစည်ရာအေး၊ မိုးရွာကြီးထဲ လာမှာမဟုတ်ပါဘူး" ဟု ချင်ဝမ်းကပြောသည်။

မာလာက

"နေဦး၊ ချောင်းကြည့်ပေါက်ထနေပြီး ငါချောင်းကြည့်လိုက်ဦးမယ်၊ အရမ်းဖွင့်ပေးလို့မဖြစ်ဘူး၊ တော်တော်ကြာ ခန်းဆောင်ထဲမှာ ရေတွေစိုကုန်လိမ့်မယ်"

မာလာသည် အမိုးမိုးထားသော စင်္ကြံကလေးအတိုင်း ဝင်းတံခါးဆီသို့လာခဲ့၏။ တံခါးမှ ချောင်းကြည့်လိုက်သည့်အခါတွင် ရေနစ်ထားသောကြက်ဖလို ရွှဲရွှဲစိုနေသည့်ပေါက်ယုကို မြင်ရ၏။ မာလာသည် သူ့အဖြစ်ကိုကြည့်၍ ရယ်လည်းရယ်ချင်၊ သူအအေးမိမည်ကိုလည်း စိုးရိမ်လျက်ရှိရာမှ ဝင်းတံခါးကြီးကို ကပျာကယာဖွင့်ပေးလိုက်၏။ ထို့နောက် လက်ခုပ်လက်ဝါးတီး၍ရယ်လိုက်ရင်း

"သခင်လေးပြန်လာမယ်လို့ ဘယ်ထင်မလဲ၊ ကြည့်စမ်းပါဦး၊ မိုးရွာကြီးထဲမှာ ဘယ်တွေကိုလျှောက်သွားနေတာလဲ"

ပေါက်ယုသည် ခပ်စောစောက သူ့ကို တံခါးဖွင့်မပေးသဖြင့် တံခါးလာဖွင့်ပေးသူကို ဒဏ်ပေးမည်ဟုစိတ်ကူးထား၏။ တံခါးလာဖွင့်သည်နှင့် မည်သူမည်ဝါဟု မကြည့်ဘဲ လက် အောက် အစေခံမလေး တစ်ယောက်ဟုထင်ကာ မာလာ၏ဗိုက်ကို တအားပိတ်ကန်လိုက်လေရာ မာလာမှာ နာလွန်းသဖြင့် အော်လိုက်မိလေ၏။

"ဟင်၊ သောက်ကောင်မတွေ။ နင်တို့ကို မျက်နှာသာပေးလျှင် တော်တော်ရောင့်တက်တဲ့ကောင်မတွေ၊ ငါ့ကို နင်တို့ လှောင်စရာများ အောက်မေ့နေသလား"

အော်သံကိုကြားသဖြင့် ငုံ့ကြည့်လိုက်သည့်အခါတွင် မာလာကို မြင်သဖြင့် တောင်းပန်သည့်အပြုံးဖြင့်ပြုံးလျက်

"ဟင်၊ မာလာပါလား၊ ဘယ်ကိုကန်မိသွားသလဲဟင်"

မာလာသည် ပေါက်ယု၏ ဆဲဆိုကြိမ်းမောင်းခြင်းကို တစ်ခါမျှ မခံခဲ့ရဖူးချေ။ ယခု ပေါက်ယုက သူ့ကို လူရှေ့သူရှေ့တွင် ဆဲဆိုကြိမ်းမောင်းရုံမက ဘေးကိုပိတ်ကန်လိုက်သည့်အခါတွင်မူ မာလာသည် ရှက်လည်းရှက်၏၊ ဒေါသလည်းထွက်၏၊ နာလည်းနာ၏။ သို့ရာတွင် တမင်လုပ်ခြင်းမဟုတ်ဘဲ လူမှား၍ လုပ်လိုက်မိသည်ကို သိသည့် အခါတွင်မူ မာလာသည် နာကျင်မှုကိုမပေါ်အောင် အဘတ်နိုင်ဆုံးဟန်ဆောင်လျက် ရှိ၏။

"ဘာမှမဖြစ်ပါဘူး သခင်လေးရဲ့၊ ခဏနေယင်ကောင်းသွားမှာပါ။ သွားလေ၊ ရေစိုနေတဲ့အဝတ်အစားတွေကို လဲလိုက်ဦး"

အဆောင်သို့ရောက်သည့်အခါတွင် ပေါက်ယုက

"မောင့်တစ်သက်မှာ စိတ်ဆိုးလို့ လူတစ်ယောက်ထိထိခိုက်ခိုက်ဖြစ်အောင်လုပ်ဖူးတာ ဒီတစ်ခါပဲရှိသေးတယ်၊ ခုတော့ ဒီလိုလုပ်မိတဲ့လူကလဲ မာလာဖြစ်နေတော့ မောင်စိတ်မကောင်းဘူး"

မာလာသည် နာကျင်လျက်ရှိရာမှ ပေါက်ယုအား အဝတ်အစား ကူညီလဲပေးနေ၏။

"မာလာက သခင်လေးရဲ့ နံပါတ်ဘစ် အစေတော်မဟုတ်လား သခင်လေးရယ်၊ ဒီတော့ ဆိုးဆိုးကောင်းကောင်း၊ ကြီးကြီးငယ်ငယ် မာလာ ပထမဆုံးခံစားရမှာပေါ့၊ မဟုတ်ဘူးလားလို့။ တခြားလူတွေကိုသာ ဒီလိုထိထိခိုက်ခိုက်မလုပ်မိပါစေနဲ့လို့ မာလာဆုတောင်းပါတယ်"

"တမင်လုပ်လိုက်တာမဟုတ်ပါဘူး မာလာရယ်"

"မာလာကလဲ တမင်လုပ်တယ်လို့မပြောပါဘူး၊ ခါတိုင်းကတော့ အစေခံမလေးတွေက ဝင်းတံခါးလာဖွင့်ပေးနေကျကိုး၊ အစေခံမလေး





တွေက စည်းမရှိကမ်းမရှိ ဖြစ်ချင်တိုင်းဖြစ်နေကြတာ၊ အကြောက်အလန့်ဆိုလဲ မရှိတော့ဘူး၊ ဒီနေ့ အခုစခံကောင်မလေးတစ်ယောက်ယောက်ကို ကန်လိုက်မိယင်လဲ အကောင်းသား၊ ဒါမှ ဒီကောင်မလေးတွေ ကြောက်သွားကြမှာ၊ ဒီနေ့ သူတို့ကို တံခါးအဖွင့်မခိုင်းမိတာကတော့ မာလာ့ရဲ့ အပြစ်ပါ"

ထိုအချိန်၌ မိုးတိတ်သွားခဲ့လေပြီ။ ပေါက်ကွမ်းနှင့် ယုကွမ်းတို့လည်း ပြန်သွားကြလေပြီ။ ထိုနေ့ညနေတွင် မာလာမှာ အကန်ခံထားရသည့်ဒဏ်ရာကလည်း နာ၊ စိတ်ကလည်းညစ်သဖြင့် ထမင်းမစားတော့ချေ။ ရေချိုးရန်အဝတ်အစားလဲသည့်အခါ နံရိုးအောက်နား၌ လက်ဖဝါးရည်ပန်းကန်ပြားလောက်ရှိသည့် ညိုမည်းနေသော ဒဏ်ရာကို မြင်လိုက်သဖြင့် လန့်သွားသော်သည်း ထိုအကြောင်းကို မည်သူ့မျှမပြောဘဲ နေလိုက်၏။ ထိုနေ့ညအိပ်ရာဝင်သည့်အခါတွင် အနာမှာ ပို၍နာလာပြီး အိပ်ရင်းလည်း ညည်းတွားလျက်ရှိ၏။

ပေါက်ယုသည် မာလာ့မှန်းမသိ၍ ကန်မိလိုက်ခြင်းဖြစ်သည့်တိုင် မာလာ မသက်မသာဖြစ်နေသည်ကို မြင်ရသည့်အခါတွင် စိတ်မကောင်းဖြစ်လျက်ရှိ၏။ ညဘက်အိပ်ပျော်ရင်း ယောင်ယမ်း ညည်းတွားနေသည့်အသံကိုကြားသည့်အခါ၌ မိမိကန်လိုက်သည့်ဒဏ်ရာ မည်မျှပြင်းကြောင်းကို ပေါက်ယုသဘောပေါက်လိုက်လေပြီ။ ပေါက်ယုသည် အိပ်ရာမှထကာ မှန်အိမ်ကိုယူပြီးနောက် မာလာကိုကြည့်ရန်လာခဲ့၏။ မာလာ၏အိပ်ရာနားသို့အရောက်တွင် မာလာသည် ချောင်းဘစ်ဟွပ်ဟွပ်ဆိုးကာ သလိပ်ကို ထွေးထုတ်လိုက်ပြီးနောက် မျက်လုံးကို ဖွင့်ကြည့်လိုက်ရင်း ပါးစပ်ဟကာ ပင်ပန်းစွာအသက်ရှူလျက်ရှိ၏။ ပေါက်ယုကိုမြင်သည့်အခါတွင် အံ့အားသင့်လျက်ရှိကာ

"သခင်လေး ဘာလုပ်နေတာလဲဟင်"

"မာလာညည်းသံကြားလို့ ထကြည့်တာ၊ မောင်ကန်မိတာ တော်တော်နာသွားပြီထင်တယ်။ မှန်းစမ်း၊ မောင်ကြည့်စမ်းမယ်"

"ခေါင်းထဲသိပ်မူးတယ်။ ပြီးတော့ ပါးစပ်ထဲကလဲ ခါးတားတားနဲ့၊ ကြမ်းပြင်ပေါ်ကို မှန်အိမ်နဲ့ကြည့်စမ်းပါ"

ပေါက်ယုက မှန်အိမ်ဖြင့် ကြမ်းပြင်ကိုကြည့်လိုက်သည့်အခါတွင် သွေးတွေအန်ထားသည်ကို တွေ့မြင်ရ၏။

"ဟင်....သွေးတွေ" ဟု ပေါက်ယုက အော်လိုက်၏။

မာလာသည် သွေးကွက်ကြီးကိုကြည့်ပြီးလန့်သွား၏။

မည်သို့ဖြစ်သည်ကိုသိလိုလျှင် နောက်တစ်ခန်းကိုဖတ်ပါလော့။





PDF CREATOR - NYEYADHAMMA@GMAIL.COM

## အခန်း ၃၁

ငယ်ငယ်ရွယ်ရွယ်တွင် သွေးအန်ခြင်းသည် သက်ဆိုး မရှည်။ ရှည်မြင့်သော်လည်းတစ်သက်လုံးနာတာရှည်ကြီးဖြစ်နေတတ်သည်ဟု ကြားခဲ့ဖူးသည့်အတွက် ကြမ်းပေါ်တွင် သွေးများကို မြင်သည့်အခါတွင် မာလာထိတ်လန့်လျက်ရှိ၏။ မိမိ၏မျှော်မှန်းချက်တို့သည် မိုးခိုးကဲ့သို့ ပျောက်ကွယ်သွားကြလေပြီ။ မာလာသည် မျက်ရည်တွေတွေစီးကျလျက် ရှိ၏။ ပေါက်ယု၏နှလုံးသားသည်လည်း နာကျင်လျက်ရှိ၏။

"ဘယ့်နှယ်နေသေးသလဲဟင်"

မာလာက အားယူ၍ပြုံးလိုက်၏။

"ကောင်းပါတယ်"

ပေါက်ယုက အစေခံတစ်ယောက်ကို ခေါ်ကာ ရှောက်ဆင်းအရက်ကိုကြိုခိုင်းပြီး ဆိတ်သွေးဖြင့်ဖော်ထားသည့် ဆေးလုံးကို အယူခိုင်းမည်ပြုစဉ် မာလာက တားလိုက်၏။

"သိပ်ပြီး အရေးတကြီး လုပ်မနေပါနဲ့ သခင်လေးရယ်။ သခင်လေးက ဒီလောက် ရေးကြီးခွင့်ကျယ်လုပ်ယင် လူတွေ ဝိုင်းအုံ လာ ပြီး ဒီကောင်မက ကြီးကျယ်နေလိုက်တာလို့ မာလာကို အပြစ်ဆိုကြဦးမယ်။ ခုဆိုယင် ဘယ်သူမှသိတာမဟုတ်ဘူး။ ဒါပေမယ့် ဒီသတင်းကို တခြား

လူတွေသိကုန်ရင် မာလာတို့နှစ်ယောက်လုံးကို ပြောစရာဖြစ်နေလိမ့်မယ်။ ဒီတော့ မနက်ဖြန်ကျရင်သာ ကောင်လေးတစ်ယောက်ကို သမားတော်ဝမ်ဆီကိုလွှတ်ပြီး ဆေးအယူခိုင်းပေးပါ။ဆေးနည်းနည်းပါးပါးသောက်လိုက်ရင် ပျောက်သွားမှာပါ။ဒီအကြောင်းကို ဘယ်သူမှမသိတာကောင်းတယ်''

နောက်တစ်နေ့ မနက်အရုဏ်တက်သည်နှင့်ပေါက်ယုသည် အိပ်ရာမှ လူးလဲထ၏။ ထိုနောက် မျက်နှာမှမသစ်နိုင်၊ ခေါင်းကိုမျှမဖြီးနိုင်ဘဲ ပေါက်ယုသည် သမားတော်ဝမ်ယုဂျင်းထံသို့သာကာ အကျိုးအကြောင်းကို ပြောပြ၏။ သမားတော်ဝမ်သည် အကျိုးအကြောင်းကို သိရသည့်အခါတွင် အတွင်းကြေကြေသွားခြင်း ဖြစ်ကြောင်း ပြောဆိုကာ ဆေးအချို့ကိုပေးလိုက်ပြီးလျှင် တိုက်ရန် အညွှန်းကိုလည်း ပေးလိုက်သဖြင့် ပေါက်ယုသည်း အိမ်သို့ မြန်မြန်ပြန်လာခဲ့၏။ သို့ရာတွင် ဤအကြောင်း ဤတွင် ထားဦးမည်။

ထိုနေ့မှာ နဂါးလှေပွဲတော်နေ့ဖြစ်၏။ တခါးပေါက်များတွင် ဒေါနခက်များ၊ ကိုင်းပန်းခက်များကိုထားပြီး အိမ်ရှိလူကုန် ကျားလက်ဖွဲ့ အဆောင်အယောင်များကို ဝတ်ထားကြ၏။ နေ့လယ်ပိုင်းတွင်သခင်မဝမ်က အကျွေးအမွေးပြုလုပ်လေရာ ဒေါ်လေးဆွေ့နှင့် သူ့သမီးပေါက်ကြည်တို့ကိုလည်း ဖိတ်ကြား၏။

တစ်နေ့ကဖြစ်ခဲ့သောကိစ္စကြောင့် ပေါက်ကြည်သည် သူ့ကို ခပ်တန်းတန်းဖြစ်နေသည်ကို ပေါက်ယု သတိပြုမိလိုက်၏။ ပေါက်ယု စိတ်ညစ်နေခြင်းမှာ မနေ့က ချင်ချန်းနှင့် ဖြစ်ခဲ့သည့်ကိစ္စကြောင့် ရှက်နေခြင်းဖြစ်သည်ဟု သခင်မဝမ်က ပြောသည့်အတွက် ပေါက်ကြည်ကလည်း ခပ်တန်းတန်းနေပြလိုက်ခြင်းဖြစ်၏။ ထိုက်ယုကမူ ပေါက်ယု စိတ်ညစ်နေခြင်းမှာ ပေါက်ကြည်ကစိတ်ကောက်နေသည့်အတွက်ဟုထင်သဖြင့်ပေါက်ယုကို မကျေမနပ်ဖြစ်လျက်ရှိ၏။ နတ်ငှက်မယ်မှာမူ ပေါက်ယုနှင့်ချင်ချန်းတို့မနေ့ကဖြစ်ခဲ့သည့်ကိစ္စကို ဒေါ်လေးဝမ်ထံမှကြားပြီးဖြစ်သည့် အတွက်





ဒါတိုင်းကဲ့သို့ သွက်လက်ချက်ချာခြင်းမရှိလှဘဲ ခပ်ငြိမ်ငြိမ်ဖြစ်ကာ ညနေခံပွဲမှာ ခပ်ခြောက်ခြောက်ဖြစ်လျက်ရှိ၏။ ယင်းသို့ခြောက်တီးခြောက်သွေ့ဖြစ်ကာ ခပ်အေးအေးဖြစ်နေသည့်ပဘ်ာနီးကျင်သည် ယင်ချန်းနှင့်အခြားမိန်းမပျိုကလေးများကိုလည်း စောက်ကူးသွားသော ခဏကြာလျှင် လူစုကွဲသွားကြလေ၏။

ထိုက်ယုမှာ ပင်ကိုယ်ကပင်လျှင် အပေါင်းအသင်းထက်အထီးကျန်နေရခြင်းကို နှစ်သက်သူဖြစ်၏။

''ပြောရ ဘယ်လိုပဲ ချစ်ခင် ပေါင်းသင်းကြပေမယ့် တစ်နေ့မှာ ကွေကင်းခြင်းနဲ့သာ အဆုံးသတ်ကြရပေတာပဲ။ လူတွေဟာ အပေါင်းအသင်းတွေ၊ ပျော်ပွဲရှင်ပွဲတွေနဲ့ လုပ်ရတာကိုပျော်လေလေ၊ အဲဒီအပေါင်းအသင်းတွေ၊ ပျော်ပွဲရှင်ပွဲတွေမရှိတဲ့အခါကျတော့ စိတ်ဆင်းရဲရလေလေ၊ အထီးကျန်ဖြစ်လေလေ။ဒီတော့ အစကတည်းကအပေါင်းအသင်းအဖော်ကိုမရှာတာဟာအကောင်းဆုံးပဲ။ဥပမာ ကတော့ သစ်ပင်တွေဟာ ပန်းတွေနဲ့အတူတူပဲ။ပန်းတွေဖူးပွင့်နေတုန်းမှာတော့ ကြည့်ရတာ လှပါရဲ့၊တင့်တယ်ပါရဲ့။ ဒါပေမယ့် သူတို့တစ်တွေညှိုးနွမ်းသွားတာကို မြင်ရတာဟာ သိပ်ရင်နာစရာကောင်းပေတာပဲ။ သူတို့တစ်တွေ ဖူးပွင့်မလာတာကမှ ကောင်းလိမ့်မယ်''

ထိုက်ယုသည် ထိုသို့တွေးလျက်ရှိသဖြင့် အခြားသူများက ပျော်ပါးနေကြချိန်တွင် မပျော်နိုင်အောင်ဖြစ်လျက်ရှိ၏။

ပေါက်ယုကား ထိုသို့မဟုတ်ချေ။ပေါက်ယုသည် ပျော်ပွဲရှင်ပွဲတွေကိုလည်း ဘယ်အခါမှ အဆုံးမသတ်စေချင်။ပန်းတွေကိုလည်း ဘယ်အခါမှ မညှိုးစေချင်။ပေါက်ယုသည် ပျော်ပွဲရှင်ပွဲများကို အဆုံးမသတ်အောင် မတတ်နိုင်သည့်တိုင်၊ ပန်းပွင့်များကို မညှိုးအောင် မတတ်နိုင်သည့်တိုင် ပျော်ပွဲရှင်ပွဲတွေပြီးသွားတိုင်း၊ ပန်းတွေညှိုးကျသွားတိုင်း စိတ်မကောင်းဖြစ်လျက်ရှိလေ၏။

ယနေ့၌ ပျော်ပွဲရှင်ပွဲများသို့ သွားသူများသည် စိတ်နှလုံးညှိုးငယ်စွာနှင့် လူစုခွဲကြသည့်တိုင် ထိုက်ယုအဖို့ကား ပျော်ပွဲသို့ မသွားခဲ့သည့်အတွက် ဘာမျှထူးခြားခြင်း မရှိတော့ပြီ။ ပေါက်ယုမှာကား ပျော်ပွဲပြီး

သွားသည့်အတွက် မရှစ်သည့်နှလုံး မပြုံးသည့်မျက်နှာဖြင့် မိမိအဆောင်သို့ ပြန်လာခဲ့လေ၏။ အဆောင်သို့ပြန်ရောက်၍ အဘော်ချင်ဝမ်းက သူ့အဝတ်အစားများကို ကူညီလဲလှယ်ပေးနေစဉ် ယပ်တောင် လွတ်ကျသွားကာ ကျိုးသွားလေ၏။ ပေါက်ယုက သက်ပြင်းချလိုက်ရင်း

"နင်လုပ်လိုက်ယင် အရာရာနဲ့ အကြောင်းကြောင်းချည်းပဲ၊ နင်တို့ ဒီဏထွက်သွားပြီး ကိုယ့်အိုးကိုယ့်အိမ်နဲ့နေရယင် ဘယ်လိုများနေကြမလဲ မသိဘူး၊ အဲဒီအခါကျယင် ဒီလောက် နမော်နမဲ့နေလို့ ဘယ့်နှယ်လုပ် ဖြစ်မှာလဲ"

ချင်ဝမ်းက လှောင်သလိုလိုဖြင့်

"သခင်လေးကလဲ၊ သူ့ ယပ်တောင်ကလေး ကျိုးသွားတာ ဆူလိုက်တာ၊ ဒီနေ့ဘာများဖြစ်သလဲမသိဘူး။တစ်ဆိတ်ရှိ အစေတော်တွေကို ချည်းပဲ ဖိမဲတော့တာပဲ။ တစ်နေ့ကလဲ မာလာ့ကိုကန်လိုက်တာ၊ သေး အန်ယူတာပဲ၊ ခုလဲ ကျွန်မကို မာန်ပြန်ပြီ။ ကျွန်မတို့ကို ရိုက်ချင်ရိုက်ပါ၊ ကန်ချင်လဲကန်ပါ၊ သခင်လေးတို့ ကြိုက်သလောက် လုပ်နိုင်ပါတယ်။ ဒါပေမယ့် ခုလို ယပ်တောင်ကလေး တစ်ချောင်း ကျိုးတာမျိုးလောက်ကိုတော့ ဒီလောက်ဆူလို့မကောင်းပါဘူး။ ဟိုတုန်းကဆိုယင် ဖန်ပန်းအိုးကြီးတွေ၊ မဟူရာပန်းစိုက်အိုးကြီးတွေ ကျကွဲတာတောင် ဘာမှမပြောဘူး။ ယင်တောင်ကလေးတစ်ချောင်း ကျကျိုးတာများ၊ ခုတော့ အဖြစ်သည်း နေလိုက်တာ။ ဘာလဲ၊ သခင်လေးက ကျွန်မတို့နဲ့နေရတာ ငြီးငွေ့သွားပြီ မဟုတ်လား။ ဒီလိုဆိုယင်လဲ ကျွန်မတို့ကိုပြန်ပို့လိုက်ပြီး နောက်ထပ် အစေတော် အသစ်ကလေးတွေနဲ့ နေနိုင်ပါတယ်။ ခွဲကာနီးမှာ အေးအေးဆေးဆေး ပြန်ပါရစေ"

ပေါက်ယုသည် ပို၍စိတ်တိုသွားကာ

"မပူပါနဲ့၊ မကြာခင်မှာ ခွဲရတော့မှာ ပါ"

သူတို့ပြောနေသည့်စကားကို ကြားသည့်အခါတွင် မာလာသည် အဆောင်ထဲသို့ ခပ်သုတ်သုတ်ဝင်လာကာ

"သခင်လေး၊ ဘာတွေ စိတ်တိုနေပြန်တာလဲ။ မာလာမရှိတာနဲ့ သခင်လေး တစ်ခုခုအဆင်မပြေဖြစ်တော့မှာပဲလို့ အစကမပြောဘူးလား"





ချင်ဝမ်းက မာလာ့ဘက်သို့လှည့်၍

"လာစမ်းပါဦး မာလာရယ်၊ ညည်းကတော့ အကိုင်အတွယ်တတ်ပါတယ်၊ ညည်းလာယင် စိတ်ပြေသွားမှာပါ။ ညည်းကတော့ ရှေးပဝေသဏီကတည်းက သူ့ကိုပြုစုလာခဲ့တာ၊ တို့များကတော့ နောက်ပေါ်တဲ့ ရွှေကြာပင် မဟုတ်လားအေ့။ ညည်းဆိုယင် ကြည့်ပါလား၊ အပြုအစု ကောင်းတဲ့အတွက်ကြောင့် ဘေးပိတ်တောင် အကန်ခံရပြီးပြီမဟုတ်လား။ ညည်းလောက် အပြုအစုကောင်းတာတောင် ဘေးပိတ်ကန် ခံရသေးယင် တို့လိုကောင်မတွေ ဘယ်လိုများ ခံရဦးမလဲမသိဘူး"

မာလာမှာ သူပြောသည့်စကားကြောင့် စိတ်လည်းဆိုး၊ ရှက်လည်း ရှက်သဖြင့် တစ်စုံတစ်ရာပြန်ပြောမည်ပြုသေး၏။ သို့ရာတွင် ပေါက်ယုမှာ မျက်နှာကြီးမည်းကာ အကြီးအကျယ်စိတ်ဆိုးလျက်ရှိလေပြီ။ ထို့ကြောင့် မာလာသည် သူ့စိတ်ကိုသူချုပ်တည်းလိုက်ကာ

"ကဲ၊ ကောင်မ သွားသွား၊ အပြင်မှာသွားကစားချည်။ တို့အပြစ်ပဲ ထားလိုက်ပါတော့"

"တို့"ဟု ပြောလိုက်ခြင်းမှာ သူ့ကိုယ်သူနှင့် ပေါက်ယုကို ပြောလိုက်ခြင်း ဖြစ်သော်လည်း ချင်ဝမ်းမှာ ပို၍စိတ်တိုလာကာ သရော်လှောင်ပြောင်လိုက်သည့်ဟန်ဖြင့်

"ဘာ တို့အပြစ်ရမှာလဲအေ့၊ တို့ဆိုတာ ဘယ်သူတွေကိုပြောတာလဲ။ ဒီမှာ ကောင်မ၊ ဒီလောက်လဲ အောက်ကျို့မနေနဲ့၊ ညည်းအစားရှက်တယ်။ ညည်းတိတ်တိတ်ပုန်း ဘာတွေလုပ်နေတယ်ဆိုတာကို မသိဘူးများ အောက်မေ့နေသလား၊ အကုန်သိတယ်လို့မှတ်ထားလိုက်ပါ။ ညည်းလဲ အမြှောက်အဆင့်ကို မရောက်သေးပါဘူး၊ သူလိုကိုယ်လို အစေတော်ပါပဲ၊ အစေတော်ချင်းအတူတူ ညည်းက တစ်လုံး ပိုမရှုချင်စမ်းပါနဲ့။ တို့ ဆိုတဲ့အထဲမှာ ငါမပါဘူးအေ့"

မာလာမှာ မျက်နှာမေတွနီရဲလျက်ရှိ၏။ ပေါက်ယုက

"နင်တို့တစ်တွေ ဒီလောက်တောင် မနာလိုဝန်တို ဖြစ်ကြယင် မာလာကို အမြှောင်အဖြစ် ထားလိုက်ရုံပဲ၊ အဲဒီတော့ နင်တို့ ဒီ့ထက်ပိုပြီး မနာလိုဖြစ်ကြပေါ့"

မာလာက မပြောရန် ပေါက်ယု၏ လက်ကိုဆွဲ၍ သတိပေးလိုက်သေး၏။

"ကဲ၊ တော်ပါတော့သခင်လေးရယ်။ ချင်ဝမ်းက မလိမ်မိုးမလိမ်မာလေးမို့လို့ ပြောတာပါ၊ ခါတိုင်း ဒီထက်မကဟာတွေကိုတောင် သခင်လေး သည်းခံနေသေးတာပဲ။ ခု ဘာမဟုတ်တာကလေးနဲ့ ဘာဖြစ်လို့ ဒီလောက် စိတ်တိုနေရတာလဲ၊ ဒီနေ့ သခင်လေးဘယ်လိုဖြစ်နေတာလဲ ဟင်"

"ဘာ မလိမ်မိုး မလိမ်မာလဲ။ ညည်းကလဲ ဘယ်လောက်များ တတ်လို့သိလို့လဲ"

"ဒီမှာချင်ဝမ်း။ ညည်း ငါနဲ့ရန်ဖြစ်နေတာလား၊ သခင်လေးနဲ့ ရန်ဖြစ်နေတာလား၊ တကယ်လို့ ငါ့ကိုမကျေနပ်ဘူးဆိုယင် ငါ့ကိုပြောပါ၊ ဘာဖြစ်လို့ သခင်လေးကို သွားပြောနေရတာလဲ။ သခင်လေးနဲ့ ဖြစ်တယ်ဆိုယင်လဲ ဒီလောက် အော်ကျယ်ဟစ်ကျယ်ပြောနေဖို့ မကောင်းပါဘူး။ ငါက ညည်းတို့နှစ်ယောက် စကားများနေသံကိုကြားလို့ ပြီးတာ ပြီးသွားပါစေဆိုပြီး ဖျန်ဖြေအောင်လာတာ၊ ခုတော့ ညည်းက ငါ့ကိုပါ လှည့်ပြီး ရန်ထောင်တယ်။ ညည်း ဘယ်သူ့ကို စိတ်ဆိုးနေတာလဲ။ ငါ့ကိုလား၊ သခင်လေးကိုလား။ တွေ့သမျှသူကိုလိုက်ပြီး ရန်လုပ်နေတာလား။ တော်ပြီ၊ ညည်းကို ငါဘာမှမပြောတော့ဘူး။ ညည်းသဘော ညည်း ဘာသာညည်း ပြောချင်ရာပြောတော့"၊

မာလာသည် အပြင်သို့ ထွက်လာခဲ့၏။ ပေါက်ယုသာ ချင်ဝမ်းဘက်သို့လှည့်၍

"ဒီလောက် စိတ်ဆိုးလို့မကောင်းပါဘူး။ နင့်စိတ်ထဲမှာ ဘယ်လို ခံစားနေရတယ်ဆိုတာ ငါသိပါတယ်။ ကောင်းပြီ၊ နင်လဲ အရွယ်ရောက်ပြီ။ ဒီတော့ ခုလောက်ဆိုယင် အိမ်ကိုပြန်ချင်ရောပေါ့။ နင့်ကို အိမ်ပြန်ပို့ဖို့ ငါ မေဖျားကိုပြောပေးမယ် ဘယ့်နှယ်လဲ"

ချင်ဝမ်း၏မျက်လုံးတွင် မျက်ရည်တို့ဝဲကျလာကာ

"အိမ်ကိုမပြန့်ဘူး။ သခင်လေးက ကျွန်မကိုမကြိုက်လို့အကြောင်းရှာပြီး အိမ်ပြန်ပို့တာမဟုတ်လား၊ ကျွန်မ မပြန်ဘူး"





"တော်ပြီ၊ အလျင်တုန်းက နင်ဒီလိုဖြစ်တာကို ငါတစ်ခါမှ မမြင်ဖူးဘူး။ ခုတော့ နင့်လုပ်ပုံတွေက လွန်လာပြီ။ ဒီတော့ အိမ်ကိုပြန်ပို့တာပဲ ကောင်းတယ်၊ မေဖျားကို ခုသွားပြောမယ်"

ပေါက်ယုက ထွက်သွားမည်အပြုတွင် အခန်းဝ၌ မာလာက ဆီး၍ တားလိုက်ကာ

"သခင်လေး၊ ဘယ်သွားမလို့လဲဟင်"

"မေဖျားဆီကိုသွားပြီး ဒီကောင်မကို အိမ်ပြန်အပို့ခိုင်းမလို့"

မာလာက ချော့မြှူသည့်ဟန်ဖြင့် ပြုံးလိုက်လျက်

"မဟုတ်တာသခင်လေးရယ်၊ ဒီလိုလုပ်လို့ ဘယ်ဖြစ်ပါ့မလဲ။ သူ အရှက်တကွဲ အကျိုးနည်းပြီး ပြန်ရအောင် သခင်လေး လုပ်ရက်သလား။ တကယ်လို့ သူကိုယ်တိုင်က အိမ်ကိုပြန်ချင်တယ်ထား၊ သခင်လေးက သူ စိတ်ပြေသွားအောင်စောင့်ပြီးမှ ပို့သင့်တာပေါ့၊ အဲဒီတော့မှ သခင်မကြီးကို အမှတ်မဲ့ ပြောသင့်တာပေါ့။ ခုလို ဗြုန်းစားကြီး သွားပြောတယ်ဆိုယင် သခင်မကြီးက တစ်မျိုးတစ်မည်တွေထင်ကုန်ယင် မခက်ပါလား"

"ထုတ်ပစ်ဖို့ ပြောမှာမဟုတ်ပါဘူး၊ သူကိုယ်တိုင်ကိုက ပြန်ချင်တယ်ဆိုတာကို၊ သွားပြောမှာပေါ့"

"ကျွန်မက ပြန်ချင်တယ်လို့ ဘယ်တုန်းကပြောလို့လဲ သခင်လေး။ သခင်လေးဘာသာ သခင်လေးပြောတဲ့ စကားပဲ၊ သခင်လေးစကားကို ကျွန်မစကားမလုပ်ပါနဲ့။ ကောင်းပြီ၊ ဒီလောက် တောင် ပြောချင်တယ်ဆိုယင်လဲ သခင်လေး သွားပြောချည်။ ဒါပေမယ့် ကျွန်မကတော့ ဒီအိမ်က ပြန်ထွက်လိမ့်မယ်မထင်နဲ့၊ ဟောဒီအိမ်ထဲမှာတွင် ကိုယ့်ကိုယ်ကိုယ်သတ်သေသွားမယ်"

"တော်တော်ခက်တဲ့ကောင်မပဲ။ ဒီအိမ်က မသွားချင်ယင်လဲ ဘာဖြစ်လို့ နင် ဒီလောက် စကားများနေရတာလဲ။ တော်ပြီ၊ စကားများသံတွေကို ငါမကြားချင်ဘူး၊ နင်ထွက်သွားတာပဲ ကောင်းတယ်"

ပေါက်ယုသည် ထိုအကြောင်းကို သူ့အမေထံ သွားပြောမည် ပြုလေရာ မာလာလည်း မတတ်သာတော့ဘဲ ကြည့်နေရလေ၏။ ဤတွင် မာလာသည် ပေါက်ယုရှေ့တွင် ဒူးထောက် ထိုင်ချလိုက်ကာ တောင်းပန်

ခြင်းပြုလေ၏။ အကြီးဆုံးအစေခံဘော်ဖြစ်သည့် မာလာ ဒူးထောက်ထိုင်လိုက်သည့်အခါတွင် အငယ်များဖြစ်သည့် ပီဟင်း၊ ချူဝမ်၊ ရှိယွေ့တို့သည်း ပြင်ဘက်ပြဘင်းပေါက်အနီးတွင် ရပ်နေရာမှ ပြေးဝင်လာကြကာ မာလာခေါးတွင် ဒူးထောက်ထိုင်လိုက်ကြလေ၏။

ပေါက်ယုသည် မာလာကိုဆွဲထူလိုက်ကာ ခုတင်ပေါ်တွင် သက်ပြင်းချ၍ထိုင်လိုက်ပြီးနောက် အခြားသော အစေခံဘော်များကို အပြင်သို့ လွှတ်လိုက်လေ၏။

"မောင် ဘာလုပ်ရမလဲဟင် မာလာ။ မောင့်မှာတော့ စိတ်ညစ်လိုက်ရတာ၊ သောကရောက်လိုက်ရတာ၊ ဒါပေမယ့် ဘယ်သူကမှ ဂရုမစိုက်ကြဘူး"

ပေါက်ယုက ငိုသည့်အခါတွင် မာလာမှာလည်း မျက်ရည်တွေကျလာလေ၏။ သူတို့အနီးတွင်ရှိနေသည့် ချင်ဝမ်းက တစ်စုံတစ်ခု ပြောတော့မည်ပြုစဉ် ထိုက်ယုရောက်လာသဖြင့် ချင်ဝမ်းလည်း အသာထွက်လာခဲ့လေ၏။ ထိုက်ယုကပြုံးလျက်

'ဘာဖြစ်နေကြတာလဲ၊ ပေါက်စီအခဝမဘည့်လို ရန်ဖြစ်နေကြတာလား"

ထိုက်ယု၏စကားကြောင့် ပေါက်ယုနှင့်မာလာတို့သည် ရယ်လိုက်ကြ၏။

"ကောင်းပြီ၊ မောင်က မပြောဘူးဆိုယင် မာလာ့ဆီကပဲ မေးတော့မယ်။ ဆိုစမ်းမာလာ ဘာဖြစ်ဘာလဲ၊ ခု မာလာတို့နှစ်ယောက် ရန်ဖြစ်နေကြပြန်ပြီမဟုတ်သား။ ပြောစမ်း၊ မလေးထိုက်ယု ဆုံးဖြတ်ပေးမယ်" ဟုဆိုကာ မာလာ၏ပခုံးကိုဖက်ရင်း ပြောနေလေ၏။

မာလာက ထိုက်ယုဖက်ထားသည့်ကြားမှ ရုန်းထွက်လာကာ

"မမလေး၊ ကျွန်မတို့ ဒီလိုမနောက်နဲ့ မလေး။ ကျွန်မတို့က အစေခံတွေ၊ တော်တော်ကြာ သူများတွေမြင်ယင် မကောင်းဘူး"

"မာလာကတော့ အစေခံဘော်လို့ ပြောတာပဲ။ ဒါပေမယ့် မလေးထိုက်ယုတို့ကတော့ အစေခံတော်လို့မမြင်ဘူး၊ ကိုယ့်ယောင်းမလို့ပဲသဘောထားတယ်"





ပေါက်ယုက မကျေနပ်သည့်ဟန်ဖြင့်

"မလေးအလဲ ဘာတွေလျှောက်ပြောနေတာလဲ၊ တော်တော်ကြာ ဒီပြင်ကောင်မတွေကြားယင် သူ့ကို စနေကြလိမ့်ဦးမယ်။ မလေးက ဒီလိုမပြောဘဲနဲ့တောင် ခု မောင်တို့နှစ်ယောက်အကြောင်းကို ပြောကြလှပြီ"

"မာလာ့စိတ်ထဲမှာ ဘယ်လိုဖြစ်နေဘယ်ဆိုဘာကို မလေးမသိပါဘူး မလေးရယ်၊ ကျွန်မသေမှ အေးမှာပါ"

"မာလာသာသေယင် ဒီပြင်လူတွေ ဘယ်လိုဖြစ်မယ်ဆိုဘာတော့ မလေးမပြောတတ်ဘူး၊ မလေးကတော့ မာလာသေယင် ငိုတာနဲ့ပဲ သေလိမ့်မယ်ထင်တယ်"

"မာလာသေယင် မောင်ကတော့ ဘုန်းကြီးဝတ်မှာပဲ"

"တော်စမ်းပါ၊ နိမိတ်မရှိတာတွေ မပြောကြစမ်းပါနဲ့"

ထိုက်ယုကပြုံးလျက် လက်နှစ်ချောင်းကို ထောင်ပြလိုက်ရင်း

"မောင် ဘုန်းကြီးဝတ်မယ်လို့ပြောတာ နှစ်ခါရှိပြီနော်၊ မလေးမှတ်ထားတယ်"

ထိုက်ယုက သူ့အား တစ်ခါက ပြောဖူးသည်ကို ရည်ရွယ်၍ ပြောလိုက်ခြင်းဖြစ်၏။ ပေါက်ယုသည် ဘာမျှမပြောတော့ဘဲ တိတ်တိတ်နေလိုက်သေ၏။

ထိုနောက် ထိုက်ယုလည်း ပြန်သွားလေ၏။ ပေါက်ယုသည် သူတို့နှင့်လာ၍ အရက်သောက်ရန် ဆွေ့ဖန်က ဖိတ်ထားသော်ငြင်း၍မကောင်းသဖြင့် သွားရလေ၏။ ညှိခံပွဲသို့ ရောက်သည့်အခါတွင်လည်း မပြီးမချင်း မပြန်ရဘဲ အချိန်ကုန်မှပြန်ခဲ့ရလေ၏။ ပေါက်ယု ပြန်ရောက်လာသည့် အခါတွင် အတန်ငယ် မှောင်နေလေပြီ။ ပေါက်ယုမှာ အနည်းငယ်တွေလာလေပြီ။ အခဆောင်ထဲသို့ဝင်လာသည့်အခါ ထိုင်ခုံတစ်ခုပေါ်တွင် လဲလျောင်းနေသည့်သဏ္ဌာန်တစ်ခုကို တွေ့သဖြင့် မာလာထင်မှတ်ကာ အနီးတွင် ဝင်ထိုင်လိုက်ပြီး တံတောင်ဆစ်ဖြင့် တွက်လိုက်ရင်း

"ဘယ့်နှယ်လဲ တော်တော်နာနေသေးသလား"

ထိုင်ခုံပေါ်တွင် လှဲနေသည့်သဏ္ဌာန်သည် ထထိုင်လိုက်ကာ

"သခင်လေး၊ ကျွန်မကို လာနှောင့်ယှက်ပြန်ပလား"

ထိုသဏ္ဌာန်မှာ မာလာမဟုတ်ဘဲ ချင်ဝမ်းဖြစ်နေသည်ကို တွေ့ရလေ၏။ ပေါက်ယုက သူ့ကို အသိုင်းခိုင်းလိုက်ပြီးနောက်

"နင်ဟာ ခုတလောမှာ တော်တော့်ကို စိတ်တိုနေတယ်နော်။ ယပ်တောင်လေးကျကျိုးလို့ ငါက တစ်ခွန်းနှစ်ခွန်းဆူမိတာနဲ့ ပြန်ပြောလိုက်တာ၊ ပြီးပဲမပြီးနိုင်ဘူး။ ငါ့ကိုပြောတာကတော့ သိပ်အရေးမကြီးပါဘူးလေ၊ ထားပါတော့၊ ဒါပေမယ့် မဆီမဆိုင် မာလာကို ရန်ထောင်တာကတော့ မကောင်းပါဘူး။ နင့်ကို စောစောနဲ့ ပြောတာပဲဟာ"

"ပူရအိုက်ရတဲ့အထဲမှာ လက်က ငြိမ်ငြိမ်နေစမ်းပါ၊ တခြားလူတွေ မြင်ယင် မကောင်းပါဘူး။ ကျွန်မ ဒီနားမှာ သခင်လေးနဲ့ မထိုင်ချင်ဘူး၊ သွားမယ်"

"ဒါဖြင့် ဒီနားမှာ ဘာဖြစ်လို့ အိပ်နေရတာလဲ"ဟု ပေါက်ယုက ခပ်ပြုံးပြုံးဖြင့် မေးလိုက်၏။

ချင်ဝမ်းက တခစ်ခစ်ရယ်လိုက်ကာ

"သခင်လေး မလာခင်တုန်းကတော့ ဘာဖြစ်သလဲ။ ကိုယ့်ဘာသာ ကိုယ်အိပ်ချင်လို့ အိပ်နေတာပေါ့။ ဖယ်ပါ၊ ထပါ၊ ကျွန်မရေချိုးမလို့။ မာလာနဲ့ ရွှေ့ယွေ့တို့ကို ခေါ်ထား၊ သူတို့က ရေချိုးပြီးပြီ"

"ငါလဲ အရက်တွေသောက်ထားတော့ ပူတယ်၊ ရေချိုးချင်တယ်။ သွား၊ စည်ပိုင်းထဲမှာ ရေထည့်ထားနှင့်၊ တို့ အတူတူရေချိုးမယ်"

"အံမယ်လေးတော်၊ မလုပ်ပါနဲ့၊ မချိုးရဲပါဘူး။ တစ်ခါတုန်းက သခင်လေးကို ပီယင်းရေချိုးပေးတာကို မမေ့သေးပါဘူး။ အခန်းထဲမှာ ရေချိုးနေလိုက်ကြတာ၊ နာရီ နှစ်မောင်း သုံးမောင်းကြာတယ်၊ အပြင်ကလူတော့ အထဲဝင်မဝင်ရဲဘူး။ အထဲမှာ ဘာတွေလုပ်နေကြမှန်းတော့ မသိဘူး၊ သခင်လေးတို့လဲ ရေချိုးပြီးရော ကျွန်မတို့အထဲဝင်လာတော့ တစ်ခန်းလုံး ရေတွေကို ရွှဲနေတာပဲ။ ခုတင်တိုင်နားမှာလဲ ရေတွေစိုလို့၊ အိပ်ရာပေါ်မှာတောင် ရေတွေစိုနေတာပဲ၊ ဘယ်လိုချိုးကြမှန်းတော့မသိဘူး။ ကျွန်မတို့ဖြင့် အဲဒီအကြောင်းပြောပြောပြီး ရယ်လိုက်ရတာ။ ဒီတော့ ကျွန်မမှာ သခင်လေးကိုလဲ ရေချိုးပေးနေချိန်မရဘူး၊





ကျွန်မနဲ့လဲ အတူတူရေမချိုးနဲ့။ ပြီးတော့ ခုဆို နည်းနည်းအေးလာပြီ၊ သခင်လေးလဲ ရေမချိုးယင် ကောင်းမယ်ထင်တယ်။ ကျွန်မ ရေတစ်ဇလုံခပ်ပေးခဲ့မယ်၊ မျက်နှာသစ်ပြီး ခေါင်းလေးဘာလေး ဖြီးလိုက်။ စောစောတုန်းက ယုန်ယန်းရယ်၊ သခင်လေးဖို့ ဖန်အိုးထဲမှာ အအေးစိမ်ထားတဲ့ သစ်သီးယူလာလို့ ကျွန်မပြောလိုက်မယ်"

"ဒီလိုဆိုယင် နင်လဲရေမချိုးရဘူး၊ လက်ဆေးပြီး ငါ့ဖို့ သစ်သီးဇလုံယူလာခဲ့"

ချင်ဝမ်းက ရယ်လိုက်၏။

"ကျွန်မက နမော်နမဲ့မဟုတ်လား၊ ယပ်တောင်ကလေးတောင်မှ မကျိုးအောင် မကိုင်တတ်ဘဲ၊ သစ်သီးဖန်အိုးကို ယူလာလို့ဖြစ်ပါ့မလား။ တော်တော်ကြာ ဖန်အိုးကွဲသွားယင် ပြောလို့ဆုံးမှာမဟုတ်တော့ဘူး"

"အေး၊ ခွဲချင်ယင်လဲခွဲပစ်လိုက်၊ ပစ္စည်းဆိုတာ သုံးဖို့ထားတာ။ နင်က တစ်ခုကိုကြိုက်မယ်၊ ငါကျတော့ တခြားတစ်ခုကိုကြိုက်တယ်။ တစ်ယောက်နဲ့တစ်ယောက် အကြိုက်ချင်းဘယ်တူပါ့မလဲ။ ဥပမာ ယပ်တောင်ဆိုပါတော့၊ ယပ်တောင်ဆိုတာ ယပ်ခပ်ဖို့ထားတာ၊ ဒါပေမယ့် ငါက ချိုးပစ်လိုက်တယ်ဆိုယင် ဘာအဓိပ္ပာယ်ရှိဦးမှာလဲ။ အပျော်သဘောချိုးပစ်တယ်ဆိုယင် အကြောင်းမဟုတ်ဘူး၊ ဒါပေမယ့် စိတ်ဆိုးတာနဲ့ ချိုးပစ်တယ်ဆိုယင်တော့ မကောင်းဘူးပေါ့။ ပန်းကန်တွေ၊ ဖန်အိုးတွေလဲ ဒီနည်းအတိုင်းပေါ့။ သူတို့ကိုသုံးဖို့ထားတာ၊ ကွဲသံကိုကြားချင်လို့ တမင်သက်သက်ခွဲတယ်ဆိုယင် အကြောင်းမဟုတ်ဘူး၊ ဒါပေမယ့် စိတ်ဆိုးလို့ ခွဲပစ်တယ်ဆိုယင်တော့ မကောင်းဘူးပေါ့။ ဒါကြောင့် လူတွေကို ပစ္စည်းကိုရှိသေဖို့ ပြောတာပေါ့"

"ဒါဆိုယင် ကျွန်မကို ယပ်တောင်တစ်ချောင်း ပေးလေ၊ အဲဒီ ယပ်တောင်စုတ်တဲ့အသံကိုကြားရတာ သိပ်သဘောကျတာပဲ"

ပေါက်ယုကပြုံး၍ သူ့အိတ်ထဲတွင် ပါလာသည့် ယပ်တောင်ကို ထုတ်ပေးလိုက်၏။ ချင်ဝမ်းက ယပ်တောင်ကို နှစ်ပိုင်း ဆုတ်လိုက်ပြီး နောက် အစိတ်စိတ်အမွှာမွှာဖြစ်အောင် ဆက်ဆုတ်နေ၏။

"ကောင်းတယ်၊ ဒီထက်မြည်အောင်ဆုတ်"ဟု ပေါက်ယုကပြုံး၍ ပြော၏။

ထိုစဉ် ရွှေ့ယေ့ ရောက်လာကာ

"ကြည့်စမ်းပါဟယ်၊ အဓိပ္ပာယ်မရှိ ဖျက်ဆီးပစ်နေတယ်။ မလုပ်ပါနဲ့"

ပေါက်ယုက မည်သို့မျှမပြောဘဲ ရွှေ့ယေ့လက်ထဲတွင် ကိုင်လာသည့် ယပ်တောင်ကိုလုယူပြီး ချင်ဝမ်းကိုပေးလိုက်၏။ ချင်ဝမ်းက ချက်ချင်းလှမ်းယူကာ ရယ်၍ဆုတ်ပစ်လိုက်၏။

"ဘာလုပ်တာလဲဟင်၊ နင်တို့ဟာက ယပ်တောင်ကို အလျှော်သက်သက်ဖျက်ဆီးနေကြတာလား၊ ဟုတ်လား"

"သွား၊ ယပ်တောင်သေတ္တာထဲက တစ်ချောင်းသွားယူချည်ဦး။ ယပ်တောင်ကို ဘာနဲ့ပြောစရာရှိသလဲ"

"တစ်ချောင်းရယ်လို့တော့ ယူမနေပါနဲ့ သခင်လေးရယ်၊ တစ်သေတ္တာလုံးသာ ချပေးလိုက်ပါ။ စိတ်ရှိသလောက်ရှိဆုတ်ပစ်ရအောင်လို့"

"ဒါဖြင့် သွားယူချည်"

"ကျွန်မကတော့ ယူမပေးပေါင်၊ သူ့မှာ ခြေတွေ လက်တွေ အကောင်းပကတိရှိသားပဲ၊ သူ့ဘာသာသူသွားယူပေ!"

ချင်ဝမ်းကရယ်လျက်

"တော်ပါပြီ၊ ပျင်းသွားပြီ၊ မဆုတ်ချင်တော့ဘူး၊ မနက်ဖြန်မှ ဆုတ်တော့မယ်"

ပေါက်ယုက

"'အပြုံးတစ်ခုကို ရွှေစင်တစ်ထောင်ပေးဝယ်သော်လည်းမရနိုင်' ဆိုတဲ့ စကားပုံတစ်ခုရှိတယ်မဟုတ်လား။ ခုတော့ အပြုံးကို ငါမှာ ယပ်တောင်နဲ့ပေးဝယ်လိုက်ရတယ်၊ ဘယ်လောက် အဖိုးတန်သလဲ"ဟု ပြောလေ၏။

ပေါက်ယုသည် အဝတ်အစားသစ်တို့ကို လဲပြီးသည့် မာလာကို လှမ်းခေါ်ကာ အစေခံမလေး ကျိယီအား ယပ်တောင်စုတ်များကို အလွှဲ





ခိုင်းလိုက်၏။ ထို့နောက် သူတို့သည် အပြင်တွင် အေးအေးလူလူ စကားပြောနေကြ၏။

နောက်တစ်နေ့မွန်းတည့်ချိန်လောက်၌ သခင်မကြီးဝမ်နှင့်ကလေးမတစ်သိုက်သည် မယ်မယ်၏အခန်းသို့ လာရောက်၍ စကားစမြည်ပြောနေကြစဉ် မယ်မယ်၏မြေးတူမ ရှိစမ်းယဉ် ရောက်လာကြောင်းဖြင့် အစေတော်တစ်ယောက်က လာပြော၏။ ရှိစမ်းယဉ်သည် အစေတော်များ၊ အထိန်းတော်များခြံရံလျက် ဝင်းထဲသို့ဝင်လာသေရာ အိမ်ရှိမိန်းကလေးများက လှေကားဝမှဆီးကြိုကြ၏။ သူတို့ မတွေ့ကြသည်မှာ တစ်လလောက်ကြာသွားပြီဖြစ်ရာ ပြန်တွေ့ကြသည်နှင့် အပြန်ပြန်အလှန်လှန်နှုတ်ဆက်ကာ စကားလက်ဆုံကျလျက်ရှိ၏။ ရှိစမ်းယဉ်သည် မယ်မယ်ကိုလည်း သွား၍ကန်တော့၏။

"ပူကပူပါဘိသနဲ့ဟယ်၊ ငါ့မြေးရဲ့အပေါ်က ဝတ်ရုံကြီးတွေကို ချွတ်ထားလိုက်ပါလား"

ရှိစမ်းယဉ်က အပေါ်အင်္ကျီကြီးကို ချွတ်လိုက်သည့် အခါတွင် သခင်မဝမ်က

"အံမယ်လေးကွယ်၊ ငါ့တူမမှာလဲ ဝတ်ထားလိုက်တာ အထပ်ထပ်ပါကလား" ဟု ပြော၏။

"စမ်းယဉ်က ဝတ်ချင်တာမဟုတ်ဘူး ဒေါ်ကြီးရဲ့၊ ဒေါ်လေးက အဘင်းဝတ်ခိုင်းလို့ ဝတ်လာရတာ"

ပေါက်ကြည်ကပြုံးလျက်

"ဟုတ်ဘယ်၊ ဒေါ်လေးတို့မှာ၊ သူများကို အဝတ်အစားဆင်ပေးရတာ သိပ်ဝါသနာပါတာပဲ။ အသျှင်နှစ် ဒီကိုလာတုန်းက ကြည့်ပါလား၊ မောင်လေးပေါက်ယုကို ဖိနပ်တွေချုပ်ပေး၊ အဝတ်တွေချုပ်ပေးပြီး အဝတ်ခိုင်းနေတာပဲ။ အဲဒီကုလားထိုင်နားမှာရပ်ပြီး သူ့တူဝတ်စားထားတာကို ကြည့်နေတယ်လေ၊ ဒေါ်လေးက မောင်လေးပေါက်ယုနဲ့လဲ ရုပ်ချင်းဆင်တော့ သူ့ကိုပိုချစ်ဟန်တူပါရဲ့"

"ပေါက်ယု ဒီကိုလာစမ်းဟဲ့၊ နင့်ခေါင်းပေါ်က မီးပုံး ပန်းဖွားက ဖုန်တွေ မျက်လုံးထဲဝင်မယ်တဲ့။ မောင်လေးပေါက်ယုကလဲ့ တစ်ချက်မှ

မလှုပ်ဘူး၊ အဲဒီနေရာမှာပဲရပ်နေတယ်။ အဲဒီတုန်းက သူအစိုးရိမ်ကြီးပုံကို ကြည့်ပြီး ပေါက်ကြည်တို့မှာ ရယ်လိုက်ရတာ။ ပြီးတော့ ပြောသေးတယ်၊ နှင်က ယောကျ်ားကလေးနဲ့တူသားပဲတဲ့။ ယောကျ်ားကလေးပဲ၊ ယောကျ်ားလေးနဲ့မတူဘဲ ရှိပါ့မလား"

ထိုက်ယုက

"ပေါက်ကြည်က ဒါပဲသိတာကိုး၊ တစ်မြန်နှစ်က လာတုန်းက ကြည့်ပါလား၊ သူလဲ ဒီရောက်ရော မကြာခင် နှင်းတွေစကျတာပဲ။ အဲဒီတုန်းက ထိုက်ယုရဲ့ဘွားအေနဲ့ထိုက်ယုတို့က ဘိုးဘွားသချိုင်းက ကန်တော့ပြီး ပြန်လာကြတာလေ။ ဘွားဘွားရဲ့ သိုးမွေးလည်စည်းအနီက ကျကျန်ရစ်ခဲ့တယ်၊ ဒီတော့ စမ်းယဉ်ကကောက်ပြီး ခါးမှာစည်းထားလိုက်တယ်။ ပြီးတော့ နောက်ဖေးကွက်လပ်ထဲသွားပြီး အစေတော်တွေနဲ့ နှင်းလူလုပ်တမ်း သွားကစားကြလို့ချော်လဲလိုက်တာ၊ မျက်နှာမှာလဲ ရွှံတွေချည်းပဲ၊ တစ်ကိုယ်လုံးလဲ ပေရေလို့"

ထိုအဖြစ်အပျက်ကို ပြန်သတိရကြသဖြင့် အားလုံးရယ်ကြ၏။

"အထိန်းတော်ကြီး ချိုရေ၊ ဘယ့်နှယ်လဲ ရှင့်သခင်မလေးစမ်းယဉ် အလျင်တုန်းကလို ဆော့တုန်းပဲလား"

အထိန်းတော်ကြီးသည် ပြုံးနေလေ၏။

"ယင်ချန်းက တော့ ဆော့တာကို သည်းခံနိုင်တယ်၊ စကားများတာကို သိပ်စိတ်ပျက်တာပဲ။ အိုင်ယင်လဲ စကားပြောတာပဲ၊ တစ်ခါတလေ ရယ်တာရော ရန်တောင်တာရောလုပ်ဘာတွေရှိသေးတယ်၊ ပြောလိုက်တာလဲ ဘာတွေမှန်းမသိဘူး၊ ဒီစကားမျိုးတွေ သူ ဘယ်ကများကြားဖူးသလဲ မသိဘူး"

သခင်မ ဝမ်က

"ခုတော့ အလျင်ကလောက် ဆိုးတော့မယ် မထင်ပါဘူးကွယ်။ တစ်နေ့ကပဲ သူ့ကို စေ့စပ်ပြီးပြီမဟုတ်လား၊ နောက်နှစ်သောက်ဆိုယင် ယောကျ်ားမတွေ့နဲ့ လိုက်နေရတော့မယ်၊ ဒီတော့ အလျင်အတိုင်းနေသွားလို့ ဘယ်ဖြစ်တော့မလဲ၊ အချိုးပြောင်းရတော့မှာပေါ့"





"စမ်းယဉ်က ဒီမှာအိပ်မှာလား၊ နေ့ချင်းပြန်မှာလား"ဟုမယ်မယ်က မေးလေ၏။

အထိန်းတော်ကြီး ချိုက

"မယ်မယ်က သူယူလာတဲ့ အဝတ်အစားတွေ မမြင်သေးလို့မေးတာ။ ယူလာလိုက်တာတွေက နည်းတာတွေမဟုတ်ဘူး။ ဒီမှာ သုံးလေးရက်လောက် နေဦးမယ်တဲ့"

"မောင်လေး ပေါက်ယုကော အိမ်မှာရှိရဲ့လား"ဟု ရှိစမ်းယဉ်က မေး၏။

ပေါက်ကြည်က ရယ်ကာ

"လုပ်ပြီ၊ တစ်ခါလာယင် သူ့မှာ သူ့မောင်လေး ပေါက်ယုကိုပဲ သတိရတယ်။ သူတို့နှစ်ယောက်လုံး အဆော့သန်တဲ့ သူတွေချည်းဆိုတော့ သူတို့အချင်းချင်းကျယင် ဟန်ကျနေတာပဲ။ ကြည့်လေ၊ မေးကတည်းက မောင်လေး ပေါက်ယုကိုမေးတယ်ဆိုတော့ အလျင်တုန်းကလို ဆော့တုန်းပဲ ဆိုတာ ထင်ရှားတာပေါ့"

"အရွယ်တွေရောက်ကုန်ကြပြီနော်၊ ဟိုတုန်းကလို သိပ်မဆော့ကြနဲ့တော့။ ပြီးတော့ ငယ်နာမည်တွေ ဘာတွေကို တကြော်ကြော် ခေါ်မနေကြနဲ့"ဟု မယ်မယ်ကပြောလေ၏။

ထိုစဉ် ပေါက်ယု ရောက်လာလေ၏။

"ဟာ၊ မလေးစမ်းယဉ်ပါလား။ အလျင်တစ်ခါဖိတ်တုန်းက ဘာဖြစ်လို့မလာသလဲ၊ ပြောစမ်း"

"ကြည့်လေ၊ ခုတင် ငယ်နာမည်တွေကို သိပ်မခေါ်ကြနဲ့တော့လို့ မယ်မယ်က ပြောနေသေးတယ်"

ထိုက်ယုက ရှိစမ်းယဉ်ဘက်သို့လှည့်၍

"သူ့မှာ မလေးဖို့ ပေးစရာတစ်ခုရှိတယ်"

ပေါက်ယုက ရယ်လိုက်ရင်း

"သူပြောတာတွေ ယုံမနေနဲ့။ ကြည့်စမ်း၊ မလေး စမ်းယဉ် တော်တော်ထွားလာတယ်နော်၊ အရပ်ကြီးကလဲ ရှည်လာလိုက်တာ"

"မာလာကော နေကောင်းရဲ့လား"

"ကောင်းပါတယ်"

"မာလာ့ဖို့ လက်ဆောင်ပစ္စည်းပါလာတယ်" ဟုဆိုကာ ရှိစမ်းယဥ်သည် ထုံးထားသည့် လက်ကိုင်ပဝါတစ်ထည်ကိုထုတ်၍ပေးလေ၏။

"ဘာလဲ၊ ဟိုတစ်နေ့တုန်းက ပို့လိုက်တဲ့ မဟူရာနီ လက်စွပ်ကလေးတွေ မပေးဘဲကိုး"

"ဘာလို့ထင်လို့လဲ" ဟု ပြောကာ ရှိစမ်းယဥ်ကပြုံးလျက် လက်ကိုင်ပဝါကို ဖြေလိုက်သည့်အခါတွင် မဟူရာနီ လက်စွပ်လေးကွင်းကို တွေ့ရလေ၏။

ထိုက်ယုက

"ဟောတော့၊ ထိုက်ယုတို့ကို ပေးလိုက်တုန်းက သူ့ကိုတစ်ခါတည်း ဘာဖြစ်လို့မပေးလိုက်တာလဲ။ အဲဒီတုန်းကပေးလိုက်ယင်လဲ ပြီးတဲ့ဥစ္စာပဲ။ ခုတော့ သူကိုယ်တိုင်ယူလာရသေးတယ်။ ယူလာတော့လဲ ဘာမှထူးတာမဟုတ်ဘူး၊ ဒီပစ္စည်းပဲ။ အဲ့သလောက် ဉာဏ်ရှိဘာ"

ရှိစမ်းယဥ်က ပြုံးလိုက်ကာ

"ဘယ်သူက ဉာဏ်မရှိဘာလဲ၊ နားထောင်ဦး။ မလေးတို့ကို လက်ဆောင်ပစ္စည်းတွေ ပေးလိုက်တုန်းက မလေးတို့လွှတ်လိုက်တဲ့သူငယ်တော်ကလေးနဲ့ ပေးလိုက်တာ မဟုတ်လား။ သူငယ်တော်က ဘာမှမပြောလဲ ဒီပစ္စည်းတွေဟာ မလေးတို့ကိုပေးလိုက်ဘယ်ဆိုဘာ မလေးတို့သိမှာပါ။ ဒါပေမယ့် အဲဒီအထဲမှာ အစေတော်တွေအတွက်ရောပေးလိုက်ယင် ဘယ်အစေတော်အတွက်က ဘာပစ္စည်းပဲဆိုပြီး အမည်နာမတွေနဲ့ခွဲပေးလိုက်ရလိမ့်မယ်။ သူငယ်တော်က ဉာဏ်ကောင်းလို့မှတ်မိယင်တော်ပါရဲ့၊ ခပ်ထိုင်းထိုင်း သူငယ်တော်ဆိုယင် အမည်နာမတွေ မှားကုန်ပြီ၊ ဟိုလူ့ပစ္စည်းကို ဒီလူပေးမိ၊ ဒီလူ့ပစ္စည်းကို ဟိုလူပေးမိနဲ့ ရှုပ်ကုန်မှာ။ မလေးတို့လက်စွပ်တွေနဲ့ပါ မှားကုန်မှာ။ ပေးလိုက်တဲ့လူကြုံက အစေတော်တွေရဲ့ နာမည်တွေကိုကောင်းကောင်းမှတ်မိတဲ့ အထိန်းကြီးတွေဆိုယင်တော့အကြောင်းမဟုတ်ဘူးပေါ့။ ဒါပေမယ့် လက်ဆောင်ပေးလိုက်ရတဲ့ လူကြုံက သူငယ်တော် ကလေးရယ်၊ ဘယ့်နှယ်လုပ်ပြီး အစေတော်နာမည်တွေကိုကောင်း





ကောင်း သိနိုင်မလဲ။ ဒါကြောင့် ရှုပ်ကုန်မှာစိုးလို့ ကျွန်တော်မျိုးမ ကိုယ်တိုင် ယူလာခဲ့ရတာပါရှင့်၊ ကဲ ရှင်းပြီလား"

ရှိစမ်းယဥ်က လက်စွပ်လေးကွင်းကို လက်ကိုင်ပဝါထဲမှ ထုတ်ယူလိုက်၏။

"တစ်ကွင်းက မာလာ့ဖို့၊ နောက်တစ်ကွင်းက ယွန်းယမ်းဖို့၊ နောက်တစ်ကွင်းက ချင်မျှန်းဖို့၊ နောက်တစ်ကွင်းက ပင်အဲဖို့၊ သူငယ်တော်လေးတစ်ယောက်က သူတို့လေးယောက်ရဲ့နာမည်ကို ဘယ့်နှယ်လုပ်မှတ်မိနိုင်ပါမလဲ"

အားလုံးက ဝိုင်းရယ်လိုက်ကြ၏။

"ရှင်းပါပြီတယ်၊ ရှင်းပါပြီတယ်"

"မလေးစမ်းယဥ်ကတော့ စကားကလဲ တတ်ပါတယ်ဗျာ၊ ဘယ်တော့မှ အရှုံးမပေးဘူး" ဟု ပေါက်ယုက ပြောလေ၏။

"အံမယ်လေး၊ သူကမပြောတတ်လဲ သူ့မှာရှိတဲ့ ငွေမြင်းပျံရုပ်ကြီးက ပြောတတ်ပါတယ်" ဟုဆိုကာ ထိုက်ယုသည် သူတို့အနီးမှ ထသွားလေ၏။

ကံအားလျော်စွာ သူ့စကားကို ပေါက်ယုနှင့် ပေါက်ကြည်တို့မှအပ မည်သူမျှ မကြားလိုက်ကြချေ။ ပေါက်ကြည်က ပြုံးလိုက်သည့်အခါတွင် ပေါက်ယုမှာလည်း မလုံမလဲဖြင့် ပြုံးလိုက်ရလေ၏။ ပေါက်ယုပြုံးလိုက်သည်ကိုမြင်သည်တွင် ပေါက်ကြည်လည်းထိုင်ရာမှထကာ ပေါက်ယုနောက်သို့ လိုက်လာလေ၏။

မယ်မယ်က ရှိစမ်းယဥ်အား

"ကဲ၊ လက်ဖက်ရည်လေးဘာလေးသောက်ပြီး နားလိုက်ဦး။ ပြီးတော့ ညီအစ်မတစ်တွေ ဥယျာဉ်သွားပြီး အေးအေးလူလူ နေချည်ကြ"

ရှိစမ်းယဥ်သည် မယ်မယ်ပြောသည့်အတိုင်း အနားယူလိုက်၏။ ထို့နောက် လက်ကိုင်ပဝါဖြင့် ထုပ်ထားသည့် လက်စွပ်သုံးကွင်းကို ထုတ်ကာ မာလာနှင့်တွေ့၍ လက်ဆောင်ပေးရန်၊ စကားမြည်ပြောဆိုပြီးနောက် ဥယျာဉ်ထဲသို့ထွက်လာကာ လိမ်းဆီသို့ ... ခဲ့လေ၏။ ထို့နောက် ... မောင်းပျော်ဖွယ်ရိပ်သာရှိ မာလာ့ထံသို့ လာခဲ့လေ၏။

"စွံလူတစ်ယောက်ပဲ ငါနဲ့နေရစ်ခဲ့" ဟု ပြောကာ ကျွန်ုပ်အစေတော်များ၊ အထိန်းတော်များကို ထားပစ်ခဲ့လေ၏။ သူတို့နှစ်ယောက်တည်း ကျန်သည့်အခါတွင် စွံလူက

"ကြာတွေဘာဖြစ်လို့မပွင့်သလဲ မသိဘူးနော် မြလေး" ဟု ပြော၏။

"အချိန်မှမရောက်သေးတာ၊ ဘယ်ပွင့်မလဲဟဲ့"

"သူတို့ကြာပွင့်ကြီးတွေက ကျွန်မတို့ကန်ထဲမှာရှိတဲ့ ကြာမျိုးနဲ့ အတူတူပဲနော်၊ နှစ်ထပ်ကြာကြီးတွေ"

"ဒါပေမယ့် တို့ကြာတွေလောက်တော့ မလှပါဘူး"

"ဟောဟိုမှာ သလဲပင်တစ်ပင်ရယ် မဝေးရေး၊ အကိုင်းလေးငါးကိုင်းလောက်ကို သင်ထားတယ်၊ တစ်ကိုင်းပေါ်တစ်ကိုင်းထပ်လို့။ကြည့်လို့ကောင်းတယ်နော် မလေး။ ဒီလိုလှအောင် ပြုပြင်ရတာ သိပ်တော့လွယ်မှာမဟုတ်ဘူး"

"သစ်ပင်တွေလဲ လူလိုပဲပေါ့အေ၊ သူတို့မှာ ကိုယ်တွင်းအားရှိနေယင် မြန်မြန်ကြီးထွားလွယ်တာပေါ့"

စွံလူက ခေါင်းကိုယမ်းလိုက်ရင်း

"ကျွန်မတော့ တူတယ်လို့ မထင်ပေါင်။ တူတယ်ဆိုသ္လို့ရှိယင် သစ်ပင်တွေမှာ တစ်ကိုင်းအပေါ်မှာ နောက်တစ်ကိုင်းထပ်ထွက်ကြသလို လူတွေမှာလဲ ခေါင်းတစ်လုံးပေါ်မှာ ဘာဖြစ်လို့ နောက်ခေါင်းတစ်လုံးထပ်မထွက်ကြသလဲ"

ရှိစမ်းယဉ်မှာ ကတ်သီးကတ်သတ်ပြောသည့် သူ့စကားကြောင့် ပြုံးရုံသာတတ်နိုင်တော့သည်။

"တော်ပမ်း ကောင်မရယ်၊ ငါလဲ ညည်းနားလည်အောင် ရှင်းမပြတတ်ဘူး။ လောကကြီးမှာရှိသမျှ အရာတွေဟာ ယင်းနဲ့ယန်းဆိုတဲ့ ဓာတ်နှစ်ပါးကြောင့် ပေါ်ပေါက်လာကြတာချည်းပဲ။ ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ၊ အရုပ်ဆိုးသည်ဖြစ်စေ၊ လှသည်ဖြစ်စေ ရှိရှိသမျှအရာအားလုံးဟာ အဲဒီဓာတ်နှစ်ပါးက ဘယ်လိုလွှမ်းမိုးသလဲဆိုတာပေါ်မှာ တည်နေတာပဲ။ ဘယ်လောက်ရှားတဲ့ပစ္စည်း၊ ဘယ်လောက်ထူးဆန်း





တဲ့ပစ္စည်းမှာပဲဖြစ်ဖြစ် ဒီအတိုင်းပဲ။ ဒီဓာတ်နှစ်ပါးရဲ့ ဆုံးဖြတ်စီရင်တာကို ခံကြရတာပဲ"

"ဒါဖြင့် ရှေးကမ္ဘာကြီးဖြစ်လာကတည်းက လောကမှာ ယင်းဆိုတဲ့ဓာတ်နဲ့ ယန်းဆိုတဲ့ ဓာတ်နှစ်ပါးပဲရှိတယ်ပေါ့"

ရှိစမ်းယဉ်က ရယ်လိုက်ရင်း

"အဲဒါကြောင့် ညည်းကိုပြောရတာ ခက်တယ်လို့ ပြောတာပေါ့။ ယင်းဓာတ်တွေ ယန်းဓာတ်တွေဆိုတာ အများကြီးရှိတာမဟုတ်ဘူးဟဲ့။ ယင်းဓာတ်နဲ့ယန်းဓာတ်ဟာ တစ်ခုတည်းပဲ၊ ဓာတ်တစ်ခုဆုံးယင် အခြားဓာတ်တစ်ခုဖြစ်တယ်။ ဒီလိုပြောလိုက်လို့ ယင်းဓာတ် အားကုန်ခန်းချုပ်ငြိမ်းသွားယင် ယန်းဓာတ်ပေါ်၊ ယန်းဓာတ်ကုန်ခန်းချုပ်ငြိမ်းသွားယင် ယင်းဓာတ်ပေါ်လာတာလားဆိုတော့၊ ဒီလိုလဲ မဟုတ်ပြန်ဘူး"

စွံလူက

"အံမယ်လေး၊ မလေးဟာတွေကလဲရှုပ်လိုက်တာနော်။ နေစမ်းပါဦး၊ ယင်းနဲ့ယန်းဆိုတာကကော ဘာတွေလဲ၊ သူတို့ ဘ ပုံသဏ္ဌာန်တို့၊ အကောင်အထည်တို့ ဘာတို့ရှိသလား၊ ရှိယင်ကော ဘာနဲ့တူသလဲ"

"ယင်းနဲ့ယန်းဆိုတာ သဘာဝဓာတ်ကြီးတွေဟဲ့။ သူတို့ကိုယ်တိုင်မှာ ပုံသဏ္ဌာန်မရှိပေမယ့် သူတို့ရှိလာတဲ့ အရာဝတ္ထုတွေဟာ ပုံသဏ္ဌာန်ကို ဆောင်လာတာပဲ။ ဥပမာပြောရယင် ယန်းဆိုတာ အာကာသဓာတ်၊ ယင်းဆိုတာ ပထဝီဓာတ်၊ အာပေါဓာတ်ဟာ ယင်း၊ တေဇောဓာတ်ဟာ ယန်း၊ နေဟာ ယန်း၊ လဟာ ယင်း"

စွံလူ၏ မျက်နှာသည် လင်းထိန်သွားကာ

"ဪ ဒီလိုလား၊ ဟုတ်ပြီ၊ ကျွန်မနားလည်ပြီ။ဒါကြောင့် နေကို ယန်းဓာတ်အစုအဝေးကြီးလို့ ခေါ်ကြတာကိုး။ ဗေဒင်ဆရာတွေက ဆိုယင် လကို ယင်းတာရာကြီးလို့ခေါ်ကြတယ်။ ဟုတ်ပြီ၊ ရှင်းပြီ"

"အမိဓမ္မဗုဒ္ဓမြတ်စွာဘုရား၊ ခုမှရှင်းတော့မှာဘယ်ပေါ့"

"နေတို့လတို့လို အရာဝတ္ထုကြီးတွေမှာ ယင်းတို့ ယန်းတို့ ပါဝင်ဖွဲ့စည်းနေတာတော့ ဟုတ်ပါပြီမလေးရယ်။ ဒါပေမယ့် ခြင်ကောင်တို့၊ မွှားတို့၊ ဖြုတ်တို့စတဲ့ အသေးအဖွဲ့အသေးတွေကျတော့ကော။ ပြီးတော့

ပန်းပွင့်တို့၊ မြက်ပင်တို့၊ အုတ်ကြွပ်တို့၊ အုတ်ခဲတို့စတဲ့ ပစ္စည်းတွေမှာရော၊ ယင်းနဲ့ယန်းရယ်လို့ ရှိသေးသလား''

''ရှိတာပေါ့။ ဥပမာ၊ သစ်ရွက်မှာဆိုယင် သူ့ကို ဖွဲ့စည်းထားတဲ့ ယင်းနဲ့ယန်းရှိတယ်။ အလင်းရောင်ကို မျက်နှာမူနေတဲ့ဘက်ကို ယန်းလို့ ခေါ်တယ်၊ ကျောဘက်ကို ယင်းလို့ခေါ်တယ်''

စွိလူက ခေါင်းတညိတ်ညိတ်ဖြင့်

''အင်း နှင်းပါပြီ။ ဒါဖြေယ့် ကျုန်မတို့ကိုင်ထားတဲ့ယပ်တောင်တွေမှာကော ဘယ်ဘက်ကယင်းလဲ၊ ဘယ်ဘက်ကယန်းလဲ''

''ရှေ့ဘက်က ယန်း၊ နောက်ဘက်က ယင်းပေါ့အေ''

စွိလူသည် နောက်ထပ် မေးခွန်းမေးရန် စဉ်းစားနေဟန်ဖြင့် ခေါင်းကိုငုံ့လျက်ရှိ၏။ သူ့မျက်လုံးများသည် သခင်မလေးရှိစမ်းယဉ်၏ ရင်အုံပေါ်တွင် တံဆိပ်အဖြစ်ဆွဲထားသည့် ရွှေမြင်းပျံရုပ်ပုံပေါ်သို့ရောက်သွား၏။

''ဒါဖြင့် မလေးရဲ့ မြင်းပျံရုပ်ရွှေဆွဲကြိုးမှာကော ယန်းခေါင်ရှိသလား''

''ရှိတာပေါ့။ တိရစ္ဆာန်အထီးတွေ၊ ငှက်အဖိုတွေ အားလုံးဟာ ယန်းချည်းပဲ။ အစ်မတွေက ယင်းတွေ''

''ဒါဖြင့် မလေးရဲ့ရင်မှာ ဆွဲထားတဲ့ မြင်းပျံရုပ်ဟာ အထီးလား အမလား''

''ကောင်မ၊ ဒါတော့ ငါဘယ်သိမလဲအေ''

''ကဲ ဒါဖြင့်ထားပါတော့၊ တခြားအရာဝတ္ထုတွေ၊ တိရစ္ဆာန်တွေမှာတော့ ယင်းနဲ့ယန်းရှိပြီး လူတွေမှာ မရှိဘူးလား''

ရှိစမ် ယဉ်က တံတွေးကိုထွေးလိုက်ပြီး

''သွားစမ်းပါ၊ ဒီကောင်မ။ ပွေပွေလီလီတွေသိပ်မေးတာပဲ''

''ပြောစမ်းပါမလေးရဲ့၊ ကျုန်မက သိချင်လို့မေးတာပါ။ မလေးမပြောယင်လဲ ဝစ်နေ့ကျယင် ကျုန်မဘာသာသိမှာပဲဟာ''

''ညည်းက ဘာသိလို့လဲ''ဟု ရှိစမ်းယဉ်က ရယ်၍မေးလိုက်၏။

''မလေးက ယန်း၊ ကျုန်မက ယင်းပေါ့''





ရှိစမ်းယဉ်မှာ ပါးစပ်ကိုလက်ကိုင်ပဝါဖြင့်အုပ်၍ ရယ်လျက်ရှိ၏။

''မလေးကလဲ၊ ကျုန်မပြောတာ ရယ်စရာမဟုတ်ဘဲနဲ့ ရယ်နေပြန်ပြီ''

''ဟုတ်ပါတယ်၊ ညည်းပြောတာ မှန်ပါတယ်''

''လူတွေကပြောတယ်။ သခင်တွေဟာ ယန်းတဲ့၊ ကျုန်တွေကတော့ ယင်းတဲ့။ မလေးက ကျုန်မကို အဘင်သေးတာပေါ့လေ၊ ဒီကောင်မ ဒါတွေသိမှာမဟုတ်ဘူးလို့ ထင်တယ်ပေါ့လေ''

''သိပါသတဲ့တော်၊ သိပါသတဲ့''ဟု ရှိစမ်းယဉ်က ပြုံး၍ ပြောလိုက်၏။

ထိုအချိန်၌ သူတို့နှစ်ယောက်သည် နှင်းဆီချုံကြီးများ အနီးသို့ရောက်လာခဲ့ကြ၏။

''တဲ့၊ တိုနားမှာ ပြောင်ပြောင်ဟာ ဘာလဲ။ နားဆွဲတို့ဘာတို့များ ကျကျန်ရစ်ခဲ့ကြတာလားမသိဘူး''

စွိလူက ဖြတ်ခနဲကောက်ယူလိုက်ကာ ပစ္စည်းကို သူ့လက်ထဲတွင် ဆုပ်ထားရင်း

''ကဲ၊ ယင်းလား ယန်းလားပြော''

စွိလူသည် ထိုသို့ပြောပြီးနောက် ရှိစမ်းယဉ်၏ ရင်အုံပေါ်တွင် ဆွဲထားသည့် ရွှေမြင်းပျံရုပ်ကလေးကို သေချာစွာကြည့်လျက် ရှိ၏။ သို့ရာတွင် သူ့လက်ထဲတွင်ဆုပ်ထားသည့်ပစ္စည်းကိုမူ မပြချေ။

''ဒီပစ္စည်းကို မလေးမြင်လို့မဖြစ်ဘူး။ ဒီပစ္စည်းက ဘယ်သူ့ပစ္စည်းလဲ မသိဘူး၊ တော်တော်တော့ဆန်းတယ်။ ဒီမှာ ဒီလိုပစ္စည်း ရှိတဲ့လူဆိုလို့ တစ်ယောက်မှ မတွေ့ဖူးဘူး''

''ညည်းပစ္စည်းက ဘာလဲအေ ။ ပြစမ်းပါဦး''

စွိလူက လက်ဝါးကိုဖြန့်ပြလိုက်၏။

''ဟောဒီမှာ''

ထိုပစ္စည်းမှာ အခြားမဟုတ်၊ မိမိရင်အုံတွင်ဆွဲထားသည့် ရွှေမြင်းပျံရုပ်ထက် အရွယ်ကြီးပြီး လက်ရာလည်း ကောင်းသည့် ရွှေမြင်းပျံရုပ်တစ်ရုပ်ဖြစ်၏။ ရွှေမြင်းပျံရုပ်ကလေးကိုယူ၍ လက်ဝါးပေါ်သို့ တင်ကြည့်

လိုက်သည့်အခါ၌ သူ့စိတ်ထဲတွင် ထူးဆန်းသည့်အတွေးတစ်ခုဝင်ရောက်လာခဲ့လေ၏။ ထိုစဉ် သူတို့အနီးသို့ ပေါက်ယုရောက်လာ၏။

"နေပူကြီးထဲမှာရပ်ပြီး ဘာလုပ်နေကြတာလဲ။ မာလာဆီကိုသွားကြမလို့ဆို"

ရှိစမ်းယဉ်က ကောက်ရသည့် ရွှေမြင်းပျံရုပ်ကိုဝှက်လိုက်ပြီး

"ဟုတ်တယ်၊ ခု သွားမလို့ထွက်လာကြတာ။ လိုက်မယ်မဟုတ်လား"

သူတို့သုံးယောက်သား နီမောင်းပျော်ဖွယ်ရိပ်သာဘက်ဆီသို့ လာခဲ့ကြ၏။ မာလာသည် တသုန်သုန်တိုက်နေသည့်လေပြည်ကို ရှူရှိုက်လိုက်ရင်း လှေကားရင်းတွင် လက်ရန်းကိုမှီ၍ရပ်နေ၏။ ရှိစမ်းယဉ်ကိုမြင်သည့်အခါ၌ ခပ်သုတ်သုတ်ဆင်းလာခဲ့ပြီး ဧည့်ခန်းထဲသို့ခေါ်သွားကာ မာစကြောင်း သာကြောင်းတို့ကို မေးမြန်းပြောဆိုလျက်ရှိ၏။

ပေါက်ယုက

"မလေးရှိစမ်းယဉ်တို့က စောစောလာဖို့ကောင်းတာ။ မလေးကို လက်ဆောင်ပေးဖို့ ပစ္စည်းတစ်ခုလုပ်ထားတယ်" ဟု ဆိုကာ ပေါက်ယုသည် အိတ်ထဲသို့နှိုက်၍ရှာလျက်ရှိ၏။

"ဟင်" ဟုအော်ကာ မာလာဘက်သို့လှည့်လိုက်ပြီးနောက်

"ဟို၊ ဟိုပစ္စည်းကလေးကို မာလာသိမ်းထားသလား"

"ဘာပစ္စည်းလဲ"

"ဟိုတစ်နေ့တုန်းက မောင်လုပ်လာတဲ့ ရွှေမြင်းပျံရုပ်ကလေးလေ"

"အဲဒါ သခင်လေးအိတ်ထဲမှာ အမြဲထည့်ထားဘာပဲ၊ ဘယ့်နှယ်လုပ်သိနိုင်ပါ့မလဲ"

"ဟင်၊ ဒီလိုဆိုယင်တော့ ကျပျောက်ခဲ့ပြီ ထင်တယ်။ ဘယ်များကျခဲ့သလဲမသိဘူး"

ပေါက်ယုက အပြင်ဘက်သို့ ထွက်၍ရှာမည်ပြု၏။ ရှိစမ်းယဉ်မှာ သူတို့ကောက်ရခဲ့သည့် မြင်းပျံရုပ်ကလေးဖြစ်ကြောင်းကို သိလိုက်လေပြီ။

"မောင့်ရွှေမြင်းပျံရုပ်က ဘယ်တုန်းကရှိတာလဲ"





"တစ်နေ့ကတင်ပဲရှိသေးတယ်။ ဒီပစ္စည်းကို လွယ်လွယ်ရခဲ့တာမဟုတ်ဘူး၊ ခက်ခက်ခဲခဲရခဲ့ဘာ။ ဘယ်တုန်းကများ ကျပျောက်ခဲ့သလဲမသိဘူး၊ မောင်ကိုကမကောင်းပါဘူး"

ရှိစမ်းယဉ်က ရယ်လိုက်၏။

"အံမယ်လေး၊ ဒီပစ္စည်းကလေး ကျပျောက်တာများမောင်ရယ်၊ ဒီလောက်တောင်ဖြစ်နေရသလား" ဟု ရှိစမ်းယဉ်က လက်ကိုဖြန့်ပြလိုက်လေ၏။

ပေါက်ယုမှာ ရှိစမ်းယဉ်လက်ထဲသို့ ထိုပစ္စည်း ရောက်နေသည့်အတွက် အတိုင်းမသိဝမ်းသာသွား၏။ နောက် မည်သို့ဖြစ်သည်ကို သိလိုလျှင် ဆက်ဖတ်ပါလေ။

## အခန်း ၁၂

**အချစ်စကားကြောင့် ပေါက်ယု ဆွေးရခြင်း။**

**အရှက်တရားကြောင့် ချင်ချန်းကိုယ့်ကိုယ်ကိုယ်အဆုံးစီရင်ခြင်း။**

ရွှေမြင်းပုံရုပ်ကလေးကိုတွေ့သည့်အခါတွင် ပေါက်ယုမှာဝမ်းသာလျက်ရှိလေ၏။ ပေါက်ယုသည် လှမ်းယူလိုက်ရင်း

"ကျေးဇူးပဲ မလေးစမ်းယဉ်။ ဘယ်က တွေ့လာတာလဲ"

"ဒီပစ္စည်းလောက်မို့ လို တော်သေးတာပေါ့။ ခနောင်မှာ မှုးမတ်ကြီးဖြစ်လို့ မှုးမတ်တံဆိပ်တော်တို့ဘာတို့ ပျောက်သွားယင် ဘယ့်နှယ်လုပ်မလဲ"

"အံမယ်လေး၊ အဲဒီတံဆိပ်တော် ပျောက်တာကမောင့်အဖို့အရေးမကြီးပါဘူး၊ ဒီရွှေမြင်းပုံရုပ်ကလေးများပျောက်သွားတယ်ဆိုယင်တော့ မောင် သေဒဏ်ခံဖို့ပဲ ကောင်းဘော့တယ်"

မာလာက လက်ဖက်ရည်ကို ငှဲ့ပေးပြီး ရှီစမ်းယဉ်ကို လှမ်းပေးလိုက်၏။

"မလေးတို့ ကြောင်းလမ်းတဲ့ သတင်းကို ကြားပါကယ်နော်" မာလာက ခပ်ပြုံးပြုံးဖြင့်ပြောလေ၏။





ရှီစမ်းယဉ်မှာ မျက်နှာနီရဲသွားကာ ဘာမျှမပြောဘဲ လက်ဖက်ရည်ကို သောက်နေလေ၏။ မာလာက

"မလေးက ရှက်နေတယ်နော်။ လွန်ခဲ့တဲ့ဆယ်နှစ်လောက်တုန်းက မသေး ကျွန်မကိုပြောခဲ့တာ မှတ်မိသေးရဲ့လား၊ အဲဒီတုန်းက မလေး ဒီလောက်မရှက်တတ်ဘူးဆို။ ခု ဘာဖြစ်လို့ ဒီလောက်တောင် ရှက်နေရတာလဲ"

ရှီစမ်းယဉ်က

"မာလာ ပြောတဲ့စကားကြောင့်ပေါ့။ အဲဒီတုန်းက စမ်းသဉ်တို့ နှစ်ယောက်ဘယ်လောက်ခင်ခဲ့ကြသလဲ၊ အဲဒီတုန်းကမာလာက စမ်းယဉ်ရဲ့ အစေတော်မဟုတ်လား။ ဒီနောက် စမ်းယဉ်မေဖျားဆုံးလို့စမ်းယဉ်အိမ်ကို ပြန်ရတယ်၊ အဲဒီအခါကျတော့ မာလာကို မောင်လေးပေါက်ယုရဲ့အစေတော်အဖြစ် ပို့လိုက်တယ်မဟုတ်လား။ ခုတော့ မာလာက ဟိုတုန်းက မာလာမဟုတ်တော့ဘူး"

မာလာက

"ဒီလိုမဟုတ်ရပါဘူး မလေးရယ်၊ အဲဒီတုန်းက ငယ်လဲ ငယ်ကြသေးတော့ တန်းတူလိုနေခဲ့ကြတယ် မဟုတ်လား။ မလေးကတောင် ကျွန်မကို ညီမလို့ခေါ်သေးတာပဲ။ ဆံပင်ဖြီးခိုင်းချင်ပြီ၊ မျက်နှာသစ်ခိုင်းချင်ပြီ၊ တစ်ခုခုခိုင်းချင်ပြီဆိုယင် ညီမလို့ ခေါ်ခေါ်ပြီး ခိုင်းတယ် မဟုတ်လား။ ခုတော့ မလေးကလဲကြီးလာပြီ၊ ပြီးတော့ သခင်မလေးတစ်ယောက်လိုလဲ နေနေရပြီ။ မလေးက သခင်မလေးလိုနေတဲ့အခါမျိုးကျတော့ မာလာတို့က ဘယ်လိုလုပ်ပြီး အရောတဝင်နေရဲပါ့မလဲ မလေးရယ်"

"မြတ်စွာဘုရား၊ မာလာအပေါ်မှာ စခန်းမကြီးရပါဘူးကွယ်၊ စခန်းကြီးတယ်ဆိုယင် သေရပါစေရဲ့။ ဒီနေ့ဆိုယင် ဘယ်လောက်ပူသလဲ၊ ဒါပေမယ့် ဘယ်လောက်ပဲပူပူ မာလာဆီကို တစ်ခါတည်းတန်းလာခဲ့တာပဲ။ မယုံယင် စွဲလူကိုမေးကြည့်ပေတော့၊ အိမ်မှာဆိုယင်လဲ မာလာအကြောင်းကိုပဲ တဖွဖွပြောနေမိတာ"

"ကဲပါ သခင်မလေးရယ်၊ နောက်ဘာပါ၊ ဒီလောက်လဲဖြေရှင်း မနေပါနဲ့"

"ကြည့်လေ သူများစိတ်ဆိုးတာကိုသာ ပြောတယ်၊ သူ့စ,တာ ကျတော့ ဘာမှမပြောဘူး"

ရှိစမ်းယဉ်က လက်ကိုင်ပဝါကိုဖြေကာ မဟူရာနီ ဒွင်လက်စွပ် ကလေးတစ်ကွင်းကိုထုတ်ယူလိုက်ပြီး မာလာကိုလှမ်းပေးလိုက်၏။ မာလာမှာ ကျေးဇူးတင်စကား တဖွဖွပြောလျက်ရှိလေ၏။

"ဒါဖြင့် မလေးက မာလာကို တခြား သခင်မ ညီအစ်မတော် တွေကို ပေးသလို တန်းတူပေးတယ်ပေါ့နော်၊ မာလာကိုတကယ်ချစ်သေး တယ်ပေါ့နော်။ သတိရသေးတယ်ဆိုတာ သိရပါပြီ သခင်မလေးရယ်။ တကယ်တော့ လက်စွပ်တွေဘာတွေကို မာလာ တန်ဖိုးမထားပါဘူး၊ မာလာ တန်ဖိုးထားတာက စိတ်ပါ"

"မာလာကို တစ်ကွင်းပေးလိုက်တယ်ဆိုတာ ဘယ်သူက ပေးတာ လဲ" ဟု ရှိစမ်းယဉ်က မေးလေ၏။

"မလေးပေါက်ကြည်ရယ်"

"သြော်၊ မလေးပေါက်ကြည်ရဲ့လက်စွပ်ကိုး။ စမ်းယဉ်က မလေး ထိုက်ယုရဲ့လက်စွပ်လို့ထင်နေတာ။ အိမ်မှာတုန်းက စမ်းယဉ်ရဲ့ ညီအစ်မ ဝမ်းကွဲတွေအကြောင်းကို တွေးမိတိုင်း မလေးပေါက်ကြည်ဟာ သဘော အကောင်းဆုံးပဲလို့ တဖွဖွပြောမိသေးတယ်။ ညီအစ်မအရင်းသာဆိုယင် သိပ်ကောင်းမှာပဲနော်၊ မိဘမဲ့ဖြစ်တောင်မှ သူ့လို ညီအစ်မအရင်း တစ် ယောက် ရှိနေတယ်ဆိုယင် အားရှိတာပေါ့" ဟုပြောရင်း ရှိစမ်းယဉ်မှာ မျက်ရည်တွေဝဲလာလေ၏။

"ကဲ ကဲ တော်ပါတော့၊ ဒီအကြောင်းတွေ သိပ်မပြောပါနဲ့ တော့" ဟု ပေါက်ယုအာ ပြောလေ၏။

"ဘာဖြစ်တာလဲ၊ ဘာတွေများ စိတ်တိုနေပြန်တာလဲ။ မလေး ပေါက်ကြည်ကို ချီးကျူးနေသံကို ကြားယင် မောင့်ရဲ့ မလေးထိုက်ယု စိတ်ဆိုးမှာစိုးလို့လား၊ ဟုဘ်လား"







မာလာက ရယ်လိုက်လျက်

"ဟောဒီ သခင်မလေးစမ်းယဉ်ဟာ ကြီးလာလေလေ ဟောဟော ဒိုင်းဒိုင်း ပြောလာလေလေ"

ပေါက်ယုက ရယ်လိုက်လျက်

"မိန်းကလေးတွေနဲ့စကားပြောရတာ အပြောရခက်တယ်ဆိုတာ တကယ်ပဲ။ ခုကြည့်ပါလား၊ ပြောရင်းဆိုရင်း သူတို့ဘာသာ အထအန ကောက်နေတာပဲ"

"ကဲပါ တော်စမ်းပါ၊ မဆီမဆိုင်တာတွေ ပြောမနေစမ်းပါနဲ့။ ခုတော့ မောင်က စမ်းယဉ်တို့တစ်တွေကို အဖက်လုပ်မှာ မဟုတ်ပါဘူး။ မောင့်မလေး ထိုက်ယုနဲ့ အဆင်မပြေတော့မှသာ ဒီဘက်ကို ခြေဦးလှည့် တာပါ"

"ကဲ တော်ပါတော့၊ မာလာတစ်ခုအကူအညီတောင်းချင်လို့ ပြော စမ်းပါရစေ"

"ဘာလဲ" ဟု ရှိစမ်းယဉ်က မေး၏။

"မာလာ ပိုးဖိနပ်တစ်ရံချုပ်နေတယ်။ ဒါပေမယ့် လွန်ခဲ့တဲ့ရက် တွေတုန်းက မအားတာနဲ့ အပြီးမသတ်နိုင်သေးဘဲဖြစ်နေတယ်၊ ဒီတော့ မလေး မာလာ့ကို ကူချုပ်ပေးပါလား"

"သြော၊ ဒီလောက်ကြီးတဲ့စံအိမ်ကြီးမှာ အချုပ်တော်တွေ၊ ပန်း ထိုးတတ်သူတွေ ပြည့်လို့ပါတော်။ ဒီအထဲမှာ ဘာဖြစ်လို့ စမ်းယဉ်ကိုမှ ရွေးပြီးလာခိုင်းတာလဲ၊ သာပြီးအကူအညီတောင်းတော့လဲတစ်ဘက်သား မှာ ငြင်းရအခက် ဘာအခက်နဲ့"

မာလာက ပြုံးလိုက်ကာ

"မလေးက လဲ တယ် အ တာကိုး။ မာလာတို့ အဆောင်မှ ရှိတဲ့ အထည်တွေအားလုံး မာလာကိုယ်တိုင်ချုပ်ကြတာ။ ဒီအဆောင်ထဲမှာ အပ်ချုပ်သည်ချုပ်တဲ့အထည်ဆိုလို့ တစ်ခုမှ ရှိဘူး"

မာလာပြောသည့် ဖိနပ်မှာ ပေါက်ယုအတွက် ဖြစ်ကြောင်းကို ရှိစမ်းယဉ်ရိပ်မိလိုက်သဖြင့် ရယ်ကာ

"ကဲပါအေ၊ ဒီလိုဆိုယင်လဲချုပ်ပေးပါမယ်။ တစ်ခုတော့ခြွင်းချက်ထားရလိမ့်မယ်၊ စမ်းယဉ်ထိုးပေးတဲ့ဖိနပ်ကို မာလာပဲစီးရမယ်၊ မာလာ့အတွက်ဆိုယင် ထိုးပေးမယ်၊ ဒီပြင်လူအတွက်ဆိုယင် ထိုးမပေးနိုင်ဘူး"

မာလာက မျက်စောင်းထိုးလိုက်လျက်

"ပြောပြန်ပြီ၊ သခင်မလေးကိုဖိနပ်ထိုးခိုင်းပြီးစီးရအောင် မာလာက ဘယ်လိုကောင်မမျိုးမို့လို့ ခိုင်းရမှာလဲ။ ဖိနပ်ကမာလာ့ဖို့တော့မဟုတ်ဘူး၊ ဒါပေမယ့် ဘယ်သူ့ဖို့လဲဆိုတာတွေဘာတွေ မေးမနေနဲ့"

"အလျင်တုန်းကဆိုယင် မာလာ့အတွက် စမ်းယဉ်ထိုးပေးခဲ့တာချည်းပဲမဟုတ်လား။ ဒါပေမယ့် ဒီတစ်ခါတော့ မဖြစ်ဘူးထင်တယ်၊ ဒီလောက်တော့ မာလာ နားလည်ဖို့ကောင်းတယ်"

"ဟင့်အင်း၊ မာလာနားမလည်ပေါင်"

ရှိစမ်းယဉ်က လှောင်ရယ်ရယ်လိုက်၏။

"ဟိုတစ်နေ့တုန်းက စမ်းယဉ်ချုပ်ပေးလိုက်တဲ့ ယပ်တောင်အိတ်ရှိတယ်မဟုတ်လား။ အဲဒီ ယပ်တောင်အိတ်ကို တခြား ယပ်တောင်အိတ်တစ်ခုနဲ့ သွားပြိုင်မိသတဲ့၊ အဲဒီအခါမှာ အဲဒီတခြားယပ်တောင်အိတ်ပိုင်ရှင်က သူ့ယပ်တောင်အိတ်နဲ့ လာပြိုင်ရပါ့မလားဆိုပြီး အဲဒီယပ်တောင်အိတ်ကို အစိတ်စိတ်အမြွာမြွာဆုတ်ပစ်သတဲ့။ ဒီအကြောင်းတွေကို ဒီကအကုန်သိပြီးသားပါ၊ မသိဘူးများထင်မနေပါနဲ့။ ဒီတော့ ချုပ်တော့ချုပ်ပေးချင်ပါတယ်နော်၊ ဒါပေမယ့် ဝမ်းနည်းပါတယ်"

ပေါက်ယုက အလျှော့ပေးသည့်အပြုံးကိုပြုံးလိုက်ရင်း

"အဲဒါ မလေးစမ်းယဉ်ချုပ်ပေးတဲ့ ယပ်တောင်အိတ်လား"

မာလာက ထောက်ခံသည့်အနေဖြင့်

"ဟုတ်ပါတယ် မလေးရယ်၊ မလေးချုပ်ပေးတဲ့ ယပ်တောင်အိတ်မှန်း သူတကယ် မသိတာပါ။ ဒီနားရပ်ကွက်ထဲမှာ ပန်းထိုးသိပ်တော်တဲ့ မိန်းကလေးတစ်ယောက်ရှိတယ်၊ အဲဒါ သခင်လေး ယပ်တောင်အိတ်တို့ ဘာတို့ထိုးချင်ယင် ထိုးပါလားလို့ပြောတယ်။ ဒါနဲ့သခင်လေးကလဲ အဲဒီမှာ ယပ်တောင်အိတ်သွားထိုးတယ်။ အဲဒီလိုထိုးပြီး သူက မလေးထိုက်ယုကို သွားပြတယ်၊ ဟိုက စိတ်ဆိုးဆိုးနဲ့ သူ့ ယပ်တောင်အိတ်နဲ့ လာနိုင်းရပါ့





မလားဆိုပြီး ယပ်တောင်အိတ်ကို ကတ်ကြေးနဲ့ညှပ်ပစ်လိုက်တယ်။ သခင်လေးက နောက် ဒါမျိုးတစ်အိတ် ရှာပေးပါဦးလို့ ပူဆာတယ်။ ဒီတော့ မာလာက ဒါမျိုးတော့ မရတော့ဘူး၊ ကိုယ့်အပြစ်နဲ့ကိုယ် ခံပေတော့လို့ ပြောလိုက်တယ်"

"ဪ ဒီလိုသား၊ ကြားတာသက်တောင် ဆိုးနေပါ့ကလား၊ နေစမ်းပါဦး၊ မလေးထိုက်ယုက ဘာဖြစ်လို့စိတ်ဆိုးရတာတဲ့လဲ။ ကတ်ကြေးနဲ့တော့ကိုက်တာက်တယ်၊ ဒါမျိုးကျတော့ ဖြစ်မြောက်အောင် မချုပ်တတ်တော့ဘူးတဲ့လား"

မာလာက

"အိမ်သယ်လေး မလုပ်လိုက်ပါနဲ့ ခုတောင်မှပဲ မယ်မယ်က သူ့မြေးမချော ပင်ပန်းမှာစိုးလို့ ဘာမှမလုပ်ပေ့စေနဲ့တဲ့၊ သူများတော်တွေကလဲ သူ့ကို ကောင်းကောင်းအနားယူပေ့စေလို့ပြောထားတယ် မဟုတ်လား။ ဒီကြားထဲမှာ သူ့ကိုသွားပြီး ဘယ့်နှယ်လုပ် ယပ်တောင်အိတ်အထိုးခိုင်းရဲပါ့မလဲ။ မနှစ်က နံ့သာအိတ်ကလေးတစ်အိတ် ထိုးပါတယ်၊ ထိုးလိုက်ရတာ တစ်နှစ်လုံးလုံးပဲ၊ ပြီးပဲမပြီးနိုင်တော့ဘူး။ ဒီနှစ်ကျတော့ အပ်နဲ့အပ်ချည်ကိုင်တာတောင် မတွေ့ရတော့ဘူး"

ထိုသို့ပြောဆိုနေကြစဉ် အစေခံတစ်ယောက် ရောက်လာကာ

"မဟာဘောဂသမ်းက ကျိုယုဆုန့်ဆိုတဲ့ ဧည့်သည်လာပါတယ်။ သခင်လေးဧည့်ခံလိုက်ပါလို့ သခင်ကြီးကပြောလိုက်ပါတယ်"

ပေါက်ယုသည် ကျိုယုဆုန့်မှန်းသိသည့်အတွက် များစွာမနှစ်သက်ချင်ပေ။ သို့ရာတွင် မာလာက ဝတ်နေကျ အဝတ်အစားများကို ချက်ချင်းယူပေးလေ၏။ ပေါက်ယုသည် ဖိနပ်ရှည်ကြီးကို စွပ်ရင်း

"ဒီလူကြီးကလဲဗျာ၊ ဖေဖျားနဲ့တွေ့ယင် ပြီးတာပဲ။ အမြဲတမ်းမောင့်ကို ဘာ့ကြောင့်ခေါ်ခေါ်တွေ့ချင်မှန်း မသိပါဘူး"

ရှိစမ်းယဉ်က ယပ်တောင်ခတ်လျက်

"ဦးလေးကျိုချိန်က မောင့်ကို ဧည့်ခံကောင်းတယ်ထင်လို့ ဧည့်ခံခိုင်းတာဖြစ်မှာပေါ့။ နို့မို့ယင် မောင့်ကိုဘာဖြစ်လို့ အခေါ်လွှတ်မှာလဲ"

"မဟုတ်ဘူးမလေးရဲ့၊ ဖေဖျားကခေါ်ချင်လို့ခေါ်တာမဟုတ်ဘူး၊ အဲဒီလူကြီးကိုယ်တိုင်က မောင့်ကိုခေါ်ခေါ်တွေနေတာ"

ရှိစမ်းယဉ်က

"အိမ်သည်ယဉ်ပါးယင် ညော်သည်အလားများတယ်ဆိုတဲ့ စကားရှိတယ်မဟုတ်လား မောင်ရဲ့။ အဲဒီလူကြီးက မောင့်ကိုတွေ့ချင်တယ်ဆိုတာက မောင့်ဆီက တစ်ခုခုလေ့လာစရာရှိလို့ ဖြစ်မှာပေါ့"

"အံမယ်လေး၊ မောင့်ကိုယဉ်ပါးတယ်လို့ မပြောပါနဲ့၊ မောင်က အရမ်းတကာ့ အရမ်းကားဆုံးလူထဲမှာ ပါတယ်။ ပြီးတော့လဲ အဲဒီလိုလူကြီးတွေနဲ့ သိပ်ပြီးအဆက်အဆံမလုပ်ချင်ပါဘူး"

ရှိစမ်းယဉ်က သက်ပြင်းချလိုက်ရင်း

"မောင်ဟာ အလျင်ကအတိုင်းပဲကိုး၊ နည်းနည်းလေးမှမပြောင်းဘူး။ တကယ်ကတော့ မောင်ဟာလူကြီးဖြစ်လာပြီမောင်ရဲ့၊ မောင်ဟာ စာပေတွေကို မသင်ကြားချင်သည့်တိုင်၊ စာပြန်ပွဲတွေကိုမဝင်ချင်သည့်တိုင် အရာရှိအရာခံတွေနဲ့ ပေါင်းသင်းဆက်ဆံရပေလိမ့်မယ်၊ လောကကြီးအကြောင်းကိုသိဖို့လိုပေလိမ့်မယ်၊ တိုင်းပြည်အုပ်ချုပ်ရေးလုပ်ငန်းတွေကို နားလည်ဖို့လိုပေလိမ့်မယ်။ ဒါမှသာ မောင်လူကြီးဖြစ်လာပြီး ကိုယ့်ကိစ္စတွေကို ကိုယ်စီမံအုပ်ချုပ်နိုင်မှာပေါ့။ ဒါမှ မောင့်မှာ အပေါင်းအသင်းမိတ်ဆွေသင်္ဂဟာရယ်လို့ရှိလာမှာပေါ့။ ဒီပြင်မင်းပျိုမင်းလွင်တွေ ဘယ်လိုနေကြထိုင်ကြသလဲဆိုတာကိုလဲကြည့်ဦး၊ မောင့်လို မိန်းကလေးတွေနဲ့ ချည်း အချိန်ကုန်နေတယ်ထင်သလား"

"ကဲ မလေး၊ မလေးရဲ့ညီအစ်မတော်တွေဆီကို သွားပါတော့ဗျာ။ မလေးလို ပညာရှိအမျိုးသမီးတွေ မောင့်ဆီကိုလာယင် မောင့်ဆီက အညစ်အကြေးတွေကူးကုန်ပါလိမ့်မယ်"

မလာက

"မလေး၊ သူ့ကို ဒါမျိုးတွေသွားမပြောနဲ့၊ မကြိုက်ဘူး။ တစ်ခါတုန်းက မလေးပေါက်ကြည်ကလဲ သူ့ကို ဒီလိုပြောဖူးတယ်။ ဒီလိုပြောရပါ့မလားဆိုပြီး ရှူးရှူးရှားရှားနဲ့ ထသွားလို့၊ ကျွန်မဖြင့် သူ့အစား





အားနာလိုက်တာ။ စကားတောင် ဆုံးအောင် နားမထောင်တော့ဘူး၊ မလေးပေါက်ကြည်လဲ မျက်နှာတွေဘာတွေနီရဲလို့၊ စကားကိုရပ်ရအခက်၊ ဆက်ပြောရအခက်နဲ့။ မလေးပေါက်ကြည်မို့လို့ တော်သေးတာပေါ့၊ ငိုရုံပဲငိုတယ်။ မလေးထိုက်ယုသာဆိုယင် ဘယ်လိုနေမလဲ မသိဘူး။ ခုမလေးက ဒီစကားမျိုးပြောပြန်ပြီ၊ စိတ်ဆိုးလိမ့်မယ်။ မလေးပေါက်ကြည်ကတော့ ဘာမျှမပြောရှာဘူး၊ ထသွားတာပါပဲ။ ကျွန်မဖြင့် အားနာလိုက်တာလေ။ ဒါပေမယ့် မလေးပေါက်ကြည်ကတော့ ဒီအကြောင်းကို နောက်ထပ်မပြောတော့ဘူး၊ အသာပဲနေလိုက်ပါတယ်။ သခင်လေးက မလေး ပေါက်ကြည်ကိုမြင်ယင် ခပ်ရှောင်ရှောင် လုပ်နေတာ။ မလေးပေါက်ကြည်က စိတ်ရင်းလဲကောင်းရှာတယ်၊ သည်းလဲခံတယ်။ မလေးထိုက်ယုကို ဒီလိုသွားလုပ်ယင် ဘယ်ရမလဲ၊ လိုက်ပြီးတောင်းပန်ရမှာ"

"မလေးထိုက်ယုကလဲ ဒီလိုစကားမျိုးမပြောဘူး။ ဒီလိုပြောယင် သူ့ကိုလဲ အစောကြီးကတည်းက ဒီကအဆက်ဖြတ်ပြီးပြီ"

မာလာနှင့် ရှိစမ်းယဉ်တို့က ခေါင်းတဆတ်ဆတ်ညိတ်ရင်း ရယ်နေကြ၏။

"ဟုတ်ပါတယ်၊ မောင်ကတော့ ပြောရတာ မလွယ်ပါဘူး"

ရှိစမ်းယဉ်တစ်ယောက် ပေါက်ယု၏ အဆောင်ဘက်ကို ရောက်နေကြောင်းကိုထိုက်ယုသိသည့်အခါတွင် ပေါက်ယုသည်ရွှေမြင်းပုံရုပ်ကလေးကိစ္စကို ပြောရန်အတွက် သူ့အဆောင်သို့ပြန်သွားခြင်းဖြစ်မည်ဟု ထိုက်ယုတွေးလိုက်၏။ ယခုတလောတွင် ပေါက်ယုယူသာသောဝတ္ထုများထဲ၌ ပညာရှိသုခမိန်ကလေးတစ်ယောက်နှင့် အလှမယ်ကလေးတစ်ယောက်တို့ တွေ့ကြပုံ၊ အခုစ်ငှက်ရုပ်များ၊ နတ်ငှက်ရုပ်များ၊ ကျောက်စိမ်းလက်စွပ်များ၊ ရွှေဘယက်များ၊ ပိုးလက်ကိုင်ပဝါများ လဲကြပုံစသည်တို့ပါ ရှိတတ်လေရာ ယခုလည်း ပေါက်ယုထံတွင် ရှိစမ်းယဉ်ဆွဲထားသည့် မြင်းပုံရုပ်ကလေးကိုတွေ့သဖြင့် သူတို့နှစ်ယောက်ကြားတွင် အချစ်ဇာတ်လမ်း ရှိနိုင်သည်ဟု တွေးမိသဖြင့် ထိုက်ယုသည် သူတို့ရှိရာ အဆောင်ဘက်သို့ လိုက်လာခဲ့၏။ အဆောင်အနားသို့အရောက်တွင် "မလေးထိုက်ယုက ဒီလို

အဓိပ္ပာယ်မရှိတဲ့ စကားတွေ မပြောဘူး၊ ပြောယင် သူ့ကို အစောကြီးကတည်းက အဆက်ဖြတ်ပြီးပြီ'' ဟု ပြောလိုက်သော ပေါက်ယု၏စကားများကို နားစွန် နားဖျားကြားလိုက်ရ၏။

ထိုစကားကြောင့် ထိုက်ယုသည် ဝမ်းလည်းသာ၏၊ အံ့အားလည်းသင့်၏၊ ဝမ်းလည်းနည်း၏၊ ပူဆွေးခြင်းလည်းဖြစ်၏။ ဝမ်းသာရခြင်းမှာ ပေါက်ယုသည် မိမိထင်သည့် အတိုင်း မိမိကို နားလည်သောကြောင့် ဖြစ်၏။ အံ့အားသင့်ခြင်းမှာ ပေါက်ယုသည် မိမိအား အခြားသူများထက် အထင်ကြီးကြောင်းကို အများရှေ့တွင် ပြောင်ပြောင်တင်းတင်း ဖွင့်ပြောသောကြောင့်ဖြစ်၏။ ဝမ်းနည်းရခြင်းမှာ သူတို့နှစ်ယောက်အနေဖြင့် တစ်ယောက်ကိုတစ်ယောက် မည်မျှနားလည်သည်ဆိုစေ ရွှေနှင့်ကျောက်စိမ်းတို့၏ နှဖူးစာဆုံလိမ့်မည်ဟူသော ပဒင်ဟောကိန်းအရ ပေါက်ယုမှာ ကျောက်စိမ်းသက်ဖွဲ့ရှိပြီး ပေါက်ကြည်မှာ ကိုရင်ကြီးပေးထားသည့် ရွှေဘယက်တို့ရှိသဖြင့် မိမိတို့နှစ်ယောက် ဖူးစာဆုံဖွယ်မရှိဟု တွေးမိသောကြောင့် ဖြစ်လေ၏။ ပူဆွေးရခြင်းမှာ မိမိတွင် မိဘတို့မရှိတော့သည့်အလျောက် သူတို့နှစ်ယောက်ကိစ္စကို စီမံနှင်တီးပေးမည့်သူ မရှိတော့သည့်အတွက် ဖြစ်လေ၏။ တို့ပြင် မိမိမှာ ယခုတလော မူးမူးနေတတ်သဖြင့် သမားတော်များက ချောင်းဆိုးသွေးပါရောဂါ ဖြစ်ဖွယ်ရှိသည်ဟု သတိပေးထားသောကြောင့်လည်း စိတ်တွင် တိမ်းတိမ်းပွပွဖြစ်လျက်ရှိလေ၏။ မိမိနှင့် ပေါက်ယုတို့သည် တစ်ယောက်ကိုတစ်ယောက် ချစ်ကြသည့်တိုင် မိမိသည် သက်ဆိုးရှည်ဖွယ် အကြောင်းမမြင်။ ထိုသို့ သက်ဆိုးမရှည်ဖြစ်မည်ဆိုလျှင် မိမိနှင့် ပေါက်ယုတို့ တစ်ဦးကိုတစ်ဦး ချစ်ခင်ကြင်နာကြခြင်းမှာလည်း ဘာအဓိပ္ပာယ်ရှိသေးသနည်း။ ထိုက်ယုသည် ထိုအကြောင်းများကို တွေးကာ မျက်ရည်တွေ စီးကျလာကြလေ၏။ ထို့ကြောင့် ထိုက်ယုသည် ခန်းဆောင်ထဲသို့ မဝင်တော့ဘဲ မျက်ရည်တို့ကို သုတ်ကာ လှည့်ပြန်လာခဲ့လေ၏။

ပေါက်ယုသည် အဝတ်အစားကို ခပ်သုတ်သုတ်လဲ၍ ထွက်လာခဲ့သည်တွင် မျက်ရည်တွေကို သုတ်နေသည့် ထိုက်ယုနှင့် ပက်ပင်းတိုးနေလေ၏။ ပေါက်ယုသည် နောက်မှ ခပ်သုတ်သုတ်လိုက်လာခဲ့သည်။





''မလေး ဘယ်သွားမလို့လဲ၊ ဘာဖြစ်လို့ငိုနေတာလဲ၊ ဘယ်သူက ဘာပြောလို့လဲ''

အသံကြားလိုက်သဖြင့် လှည့်ကြည့်လိုက်သည့်အခါတွင် ပေါက်ယုကိုတွေ့ရ၏။

ထိုက်ယုက ခပ်ယဲ့ယဲ့ပြုံးလိုက်ရင်း

''ဟင့်အင်း၊ ဘာမှမဖြစ်ပါဘူး။ ထိုက်ယု မငိုပါဘူး''

''မလေး မောင့်ကို မလိမ်ပါနဲ့၊ မလေးမှာ မျက်ရည်တွေနဲ့''

ပေါက်ယုက မျက်ရည်သုတ်ပေးရန် လက်ကို မြှောက်လိုက်၏။ ထိုက်ယုက နောက်သို့ဆုတ်လိုက်ကာ

''ဖယ်ပါ၊ မလုပ်ပါနဲ့။ မောင့် လက်တွေကို ပြန်ချထားလိုက်စမ်းပါ''

''လက်တာ အလိုလိုရောက်သွားလို့ပါ မလေးရယ်၊ မလေး ငိုယင် မောင် သေတာကြီးကို သတိမရတော့ဘူး၊ မောင်သေချင်တယ်''

''မောင်သေယင် ဘယ်သူကမှ ဂရုစိုက်မှာမဟုတ်ပါဘူး၊ မောင်ရဲ့ ရွှေဘယက်ကြီးနဲ့ ရွှေမြင်းပျံရုပ်ကြီးတွေအတွက်သာ အရေးကြီးတာပါ''

ထိုစကားကြောင့်ပေါက်ယုမှာ ထောင်းခနဲဖြစ်သွားရလေ၏။

''မလေး ဘယ်လိုပြောလိုက်တာလဲ။ မောင့်ကို ကျိန်စာ သင့်သလို ဖြစ်အောင် လုပ်ချင်လို့လား၊ ဒါမှမဟုတ် မောင့်စိတ်ကို တရိရိညှဉ်းဆဲပြီး သတ်ချင်လို့လား''

ယမန်နေ့က ဖြစ်ခဲ့သည့်ကိစ္စကို အမှတ်ရလိုက်သဖြင့် ထိုက်ယုသည် မိမိလက်လွတ်စပယ်ပြောလိုက်သည်ကို နောင်တရသွားကာ

''စိတ်မဆိုးပါနဲ့မောင်ရယ်၊ ပြောလိုက်မိတာကို ဗွေမယူပါနဲ့။ ကြည့်စမ်းပါဦး၊ နဖူးကြောတွေထောင်ပြီး ချွေးတွေပြန်လို့''

ထိုက်ယုက အနားသို့ ကပ်လာကာ သူ့မျက်နှာမှ ချွေးများကို အမှတ်တမဲ့ သုတ်ပေးမိသည်။ ပေါက်ယုသည် ထိုက်ယုကို ရွှန်းရွှန်းစားစားကြည့်လျက်ရှိလေ၏။ အတန်ကြာမှ

''စိတ်မညစ်နဲ့နော် မလေး''

ထိုက်ယုသည် သူ့ကို စိုက်ကြည့်နေလေ၏။

"ဘာကို စိတ်ညစ်ရမှာလဲ၊ မလေးနားမလည်ဘူး။ မောင် ဘာကို ဆိုလိုချင်တာလဲ"

ပေါက်ယုက သက်ပြင်းချလိုက်ရင်း

"တကယ် နားမလည်ဘူးလား။ မလေးနဲ့မောင် စတင်သိကျွမ်းခဲ့တဲ့ အချိန်ကစပြီး မလေးအပေါ်မှာ ထားခဲ့တဲ့ မောင့်ခံစားချက်တွေဟာ မှန်မှမှန်ရဲ့လား၊ မှားများ မှားနေသလားလို့ မောင် စဉ်းစားမိတယ်။ တကယ်လို့ မောင်ဟာ မလေးရဲ့ ခံစားချက်တွေကို နားမလည်ဘူး ဆိုယင်တော့ မလေး မောင့်ကို စိတ်ဆိုးသင့်တာပေါ့"

"စိတ်မညစ်ပါနဲ့လို့ ဘာကြောင့် ပြောတယ်ဆိုတာ မလေး နားမလည်ဘူး"

ပေါက်ယုက သက်ပြင်းချလိုက်ရင်း

"မလျှောင်ပါနဲ့ မလေးရယ်၊ မလေး တကယ်နားမလည်ဘူး ဆိုယင်တော့ မောင် မြတ်နိုးခဲ့ရသမျှတွေဟာ သဲထဲရေသွန်ဖြစ်ရတော့မှာပေါ့။ မောင့်အပေါ်မှာထားတဲ့မလေးရဲ့စေတနာတွေဟာလဲ အလားတူဖြစ်ကုန်တော့မှာပေါ့။ မလေးမှာသောကတွေသိပ်များနေတယ်၊ ဒီသောကတွေကြောင့် မလေး ကျန်းမာရေးထိခိုက်နေတယ်။ ပြဿနာတွေကို သိပ်အလေးအနက်ထား တွေးနေယင် မလေးရဲ့ ကျန်းမာရေးဟာ တစ်နေ့တခြားဆိုးသည်ထက် ဆိုးလာလိမ့်မယ်'

ထိုစကားများသည် ထိုက်ယုနားတွင် မိုးကြိုးသံကဲ့သို့ မြည်ဟည်းသွားသည်ထင်ရ၏။ သေသေချာချာ ပြန်တွေးလိုက်သည့်အခါတွင် ထိုစကားများသည် သူ့အသည်းနှလုံးမှ ထွက်လာသည့် စကားများထက် သူ့အတွေးများနှင့် ပို၍နီးစပ်နေသည်ကို တွေ့ရ၏။ ထိုက်ယု ရင်ထဲတွင် ပြောချင်သည့် စကားတွေ ရင်နှင့်အပြည့်ရှိနေ၏။ သို့ရာတွင် တစ်လုံးမျှ မထွက်ဘဲ ပေါက်ယုကိုသာ အငေးသားဖြင့် စိုက်ကြည့်နေ မိလေ၏။ ပေါက်ယုကလည်း သူ့ကိုစိုက်ကြည့်နေမိလေ၏၊ စကားတစ်လုံးမျှမထွက်။ သူတို့နှစ်ယောက်သည် တစ်ယောက်ကိုတစ်ယောက် အတန်ကြာအောင် စိုက်ကြည့်နေမိလေ၏။ ထိုနောက် ထိုက်ယုက တစ်ချက်ရှိုက်၍ ငိုလိုက်





လေရာ မျက်ရည်တို့သည် ပါးပြင်ပေါ်သို့ စီးကျလာကြလေ၏။ ထိုက်ယုစာပြန်လှည့်ထွက်လိုက်မည်ပြုစဉ် ပေါက်ယုက သူ့လက်ကို ဆွဲထားလိုက်ရင်း၊

"နေပါဦး မလေးရယ်၊ စကားတစ်ခွန်းလောက် ပြောလိုက်ပါရစေဦး"

ထိုက်ယုက လက်တစ်ဖက်ဖြင့် မျက်ရည်တို့ကို သုတ်ရင်း အခြားလက်တစ်ဖက်ဖြင့် ပေါက်ယု၏လက်ကို ဖယ်ရှားနေသည်။

"နောက်ထပ် ဘာပြောစရာ ရှိသေးလို့လဲ မောင်ရယ်၊ မလေးနားလည်ပါတယ်"

ထိုက်ယုသည် ခပ်သုတ်သုတ် ထွက်သွားလေရာ ပေါက်ယုသည် ကျောက်ရုပ်ကြီးလို မလှုပ်မယှက် ကျန်ရစ်ခဲ့လေ၏။

ပေါက်ယုသည် ကပျာကယာထွက်လာစဉ် ယပ်တောင်မေ့ကျန်ရစ်ခဲ့သဖြင့် မာလာက ယပ်တောင်ပေးရန်ထွက်လိုက်လာသည့်အခါ မျက်နှာချင်းဆိုင်ရပ်၍စကားပြောနေကြသော ပေါက်ယုနှင့်ထိုက်ယုတို့ကိုတွေ့မြင်ရလေ၏။ ထိုက်ယု ထွက်သွားသည့်အခါတွင် ထိုနေရာမှာပင် သစ်ပင်ကြီးတစ်ပင်လို မလှုပ်မယှက်ရပ်နေသည့် ပေါက်ယုကို တွေ့ရသဖြင့် မာလာလျှောက်လာခဲ့ကာ

"သခင်လေး ယပ်တောင် မေ့သွားတယ်လေ။ ဒါ့ကြောင့်မို့ မာလာ လိုက်ပို့တာ။ ဟောဒီမှာ"

ပေါက်ယုသည် မိမိအနားသို့မည်သူမည်ဝါရောက်လာသည်ကိုပင် ကောင်းစွာ သတိမပြုတော့ဘဲ မာလာ၏လက်ကို လှမ်းကိုင်လိုက်ကာ

"မလေးရယ်၊ မောင့်ရင်ထဲမှာရှိတာကို ဖွင့်မပြောရဲလို့ မောင် မျိုသိပ်လာခဲ့ရတာ ကြာပါပြီ၊ ခုတော့ အရဲစွန့်ပြီး ပြောလိုက်ချင်တယ်။ ဒီစကားလေးကို မောင် ပြောလိုက်ရယင် ရေ ယင်တောင်မှ ပျော်ပျော်ကြီး သေနိုင်ပါတယ်။ မောင့်ရင်ထဲမှာ မလေးအတွက် ဘယ်လောက်ခံစားနေရတယ်ဆိုတာ မောင်မပြောပြတတ်ဘူး၊ ပြောလဲ မပြောရဲဘူး။ ဒါကြောင့် မောင် ဘယ်သူ့ကိုမှ မပြောဘဲ မျိုသိပ်ခဲ့တယ်၊ မောင့်အပေါ်မှာ မလေး မကြည်ဖြူယင် မောင်လဲ နေပျော်မှာမဟုတ်တော့ဘူး။ အိပ်မက်ထဲမှာတောင် မလေးကို မောင် မမေ့နိုင်ဘူး၊ တကယ်ပြောတာပါ"

မာလာသည် တအံ့တသြဖြစ်လျက်ရှိကာ

"မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးကယ်တော်မူပါ။ သခင်လေး၊ သခင်လေး၊ ဘာတွေပြောနေတာလဲဟင်။ သခင်လေးနေကောင်းရဲ့လား၊ စုန်းတို့ နတ်တို့များ ပူးပြန်ပြီလား၊ သခင်လေးသတိထားလေ။ သွားလေ၊ မြန်မြန်၊ သွားသွား"

မာလာသည် ပေါက်ယုတစ်ကိုယ်လုံးကိုကိုင်လှုပ်ရင်း တတွတ်တွတ် ပြောလျက်ရှိလေ၏။

သတိပြန်ရလာ၍ ကြည့်လိုက်သည့်အခါ မိမိအနားတွင်ရပ်နေသည့် မာလာကိုမြင်လိုက်ရသဖြင့် ပေါက်ယုမှာ မျက်နှာတွင် ထူပူနီရဲကာ ယပ်တောင်ကို ဖျတ်ခနဲလုယူလိုက်ပြီးလျှင် စံအိမ်ကြီးဆီသို့ ထွက်ပြေးလာခဲ့လေ၏။

မာလာသည် ထွက်ပြေးသွားသောပေါက်ယုကို ငေးကြည့်ကျန်ရစ်ခဲ့ရာမှ စောစောကပြောသည့်စကားများသည် ထိုသူကိုရည်ရွယ်ပြောနေသည့် စကားများဖြစ်ကြောင်းကို သတိရလာကာ အခြားသူသိသွားလျှင် အတော်အတန်သော ငါးတင်းဖြစ်ကြကာ ပြဿနာ အကြီးအကျယ်ဖြစ်တော့မည်ကို သတိရလိုက်လေ၏။ ထိုသို့သာဖြစ်လျှင် အားလုံး ဒုက္ခရောက်ကုန်ကြတော့မည်။ မာလာသည် ထိုပြဿနာကြီးကို မည်သို့ရှောင်လွှဲရမည်နည်းဟု စဉ်းစားလျက်ရှိလေ၏။

ထိုသို့တွေး၍ ရပ်နေစဉ် ပေါက်ကြည် အနီးသို့ရောက်လာလေ၏။

"နေပူကျဲကျဲကြီးမှာ ဘာရပ်လုပ်နေတာလဲ"

မာလာက ပြုံးလိုက်ကာ၊

"ဟိုတို့မှာ စာကလေးနှစ်ကောင်ရန်ဖြစ်နေကြတာ မလေးပေါက်ကြည်ရဲ့၊ ကြည့်ကောင်းကောင်းနဲ့ ရပ်ကြည့်နေတာ" ဟု လိမ်ဆယ်၍ ပြောလိုက်လေ၏။

"မောင်လေးပေါက်ယုက အဝတ်အစားတွေဝတ်ပြီး ဘယ်ကို ထွက်သွားတာလဲ။ အစကတော့ ခေါ်ပြီးမေးဦးမလို့ပဲ။ ဒါပေမယ့် ခုတလော မောင်လေးပေါက်ယုက စကားပြောတာက မဆက်စပ်နဲ့၊ ဘယ်လိုဖြစ်နေမှန်း မသိဘူး။ ဒါကြောင့်မို့ မခေါ်လိုက်တာပါ"





"သခင်ကြီးက အခေါ်ခိုင်းလိုက်လို့"

"အလို၊ ဒီလောက်နေပူကျဲတဲကြီးမှာ ဦးကြီးကဘာကိစ္စရှိလို့များ အရေးတကြီးအခေါ်ခိုင်းတာတဲ့လဲ။ မောင်လေးပေါက်ယု တစ်ခုခုအမှား လုပ်မိလို့ ဆူမလို့များလားမှမသိဘူး"

"မဟုတ်ဘူးထင်ပါတယ်၊ ဧည့်သည်ရောက်လာလို့ အခေါ်ခိုင်း လိုက်တယ် ထင်တာပဲ"

ပေါက်ကြည်က ရယ်ချင်ပက်ကျိဟန်ဖြင့်

"အံမယ်လေးတော်၊ ဧည့်သည်ကလဲ ဘယ်လိုဧည့်သည်များလဲ။ နေချစ်ချစ်တောက် ပူနေရတဲ့အထဲမှာ သူမို့လို့ သူများအိမ် အားအား ယားယားလျှောက်လည်နေတယ်၊ ကိုယ့်အိမ်မှာကိုယ်အေးအေးဆေးဆေး နေပါ့လား"

"ဟုတ်တယ်နော်"

"နေစမ်းပါဦး၊ မလေးစမ်းယဉ်က မာလာတို့အဆောင်ဘက်ကို ဘာသွားလုပ်တာတဲ့လဲ"

"အကြောင်းထူးမရှိပါဘူး၊ ကြုံတာနဲ့ ဝင်လာတာပါ။ တစ်နေ့က ကျွန်မချုပ်နေတဲ့ဖိနပ်ရှိတယ်မဟုတ်လား မလေးရဲ့၊ အဲဒါ မလေးစမ်းယဉ် ကို ပြီးအောင်ကူအချုပ်ခိုင်းရတယ်"

ပေါက်ကြည်က အနီးတွင် လူသူရှိမရှိ သေချာအောင်လှမ်းကြည့် လိုက်ပြီးနောက်

"မာလာကို ပြောတော့ပြောလိုက်ရဦးမယ်။ မာလာက အကင်း ပါးလျက်သားနဲ့ ဒီလိုနေရာမျိုးကျတော့လဲ ထူပြန်ရော၊ မလေး ကြားသလောက်မြင်သလောက်ပြောရမယ်ဆိုယင် စမ်းယဉ်တို့ဆိုတာ သူ့ဘို့အိမ် မှာကျတော့ တယ်ဆင်းရဲတယ်ဆိုပဲ၊ ငွေကြေးတို့ဘာတို့လဲ မတတ်နိုင် တော့ အိမ်မှာ အပ်ချုပ်သည်တို့၊ ပန်းထိုးသမတို့တောင် မထားနိုင်တော့ ဘူးတဲ့၊ ကိုယ့်အဝတ်အစားကို ကိုယ့်ဘာသာကိုယ် ချုပ်ဝတ်ကြရတယ်တဲ့။ ဒါကြောင့်မို့ အလျင်တစ်ခေါက် လာတုန်းကဆိုယင် ပေါက်ကြည်ကို သေသေချာချာကိုပြောသွားတာ၊ အိမ်မှာနေရတာ ငြီးငွေ့လှပြီတဲ့၊ အလုပ် လုပ်ရတာကလဲ ခါးချည့်တော့မယ်တဲ့။ သူတို့နေရေးထိုင်ရေးကို တိုးတိုး

တိတ်တိတ်မေးကြည့်တော့ တိုက်ရိုက်မဖြေဘူး၊ ဟိုလိုလိုဒီလိုလိုရှောင်တိမ်း ဖြေနေတယ်၊ မျက်ရည်တွေလဲဝဲလို့။ ကြည့်ရတာကတော့ မိဘတွေကလဲ ငယ်ငယ်ကတည်းသဆုံးသွားခဲ့ကြတော့ ဆင်းရဲကျပ်တည်းနေပုံရပါရဲ့။ မလေးဖြင့် သူတို့ကိုကြည့်ပြီး စိတ်မကောင်းလိုက်တာ"

မာလာက လက်ခုပ်လက်ဝါးတီးလိုက်လျက်

"ဟုတ်မယ်၊ ဟုတ်မယ်၊ အလျင်သထဲတုန်းက ကျွန်မက သူ့ဆီကို လိပ်ပြာရုပ်ဆယ်ရုပ်ထိုးပေးဖို့မှာလိုက်တယ် သခင်မလေးရဲ့၊ ဒါပေမယ့် တော်တော်နဲ့ ကျွန်မဆီကိုမပို့ဘူး။ ထိုးတော့ထိုးပြီးပါပြီတဲ့၊ ဒါပေမယ့် သိပ်မကြိုက်ဘူးတဲ့၊ ဒိထက်ကောင်းတဲ့လက်ရာကိုလိုချင်ယင် စောင့်ဦးတဲ့၊ သူလာတော့မှယူလာခဲ့မယ်လို မှာလိုက်တယ်။

"ခု မလေးပြောတာနဲ့ဆက်စပ်ကြည့်လိုက်တော့ သူ့မှာ လက်ခံထားတဲ့အလုပ်တွေကများနေတော့ ညဆိုယင့်လဲ ညဥ့်နက်သန်းခေါင် ထိုင်ပုံရတယ်။ ဒါကြောင့် ကျွန်မမှာတာတွေကို ချက်ချင်းထိုးမပေးနိုင် တာဖြစ်မှာပေါ့။ ကျွန်မကိုက အပုပါတယ်မလေးရယ်၊ ဒီလိုမှန်းသိယင် ကျွန်မ ဘယ်အထိုးခိုင်းပါ့မလဲ"

"အလျင်တစ်ပတ်လာတုန်းက ပေါက်ကြည်ကို ပြောသွားတယ် လေ၊ အိမ်မှာ ညဆိုယင် သန်းခေါင်သန်းလွဲအထိ အလုပ်လုပ်ရတယ်တဲ့။ ဒီလိုမှမလုပ်ယင် သူ့ဘို့အိမ်ကသခင်မတွေက သိပ်မကြိုက်ကြဘူးတဲ့"

"ခက်တာပဲ မလေးပေါက်ကြည်ရယ်၊ ကျွန်မတို့သခင်လေးကလဲ ကြေးခပ်များများ ဇီဇာခပ်ကြောင်ကြောင်ရယ်။ သူသုံးတဲ့ပစ္စည်းဆိုယင် ဘယ်သိုပစ္စည်းမျိုးပဲဖြစ်ဖြစ် အပ်ချုပ်သည်တွေ၊ ပန်းထိုးသမတွေ ချုပ်တာကို မကြိုက်ဘူး။ ကျွန်မပဲ ချုပ်ပေးရတာ။ ကျွန်မကလဲ ကောင်း ကောင်းအားထားတာမဟုတ်တော့ ခက်တယ်"

"ဒါကတော့ အလွယ်ကလေးပါမာလာရယ်။ တခြားကောင်မလေးတွေကိုအချုပ်ခိုင်းပြီး ညည်းချုပ်တယ်လို့ပြောလိုက်ယင် ပြီးတာပဲ"

"အံမယ်လေး၊ သူ့ကိုလိမ်လို့မရဘူး မလေးရဲ့၊ ပါးလိုက်တာမှ လှစ်နေတာပဲ။ အေးလေ ဘယ်တတ်နိုင်မလဲ၊ ဝဋ်ရှိသရွေ့တော့ ကျွန်မခံရ မှာပေါ့"





ပေါက်ကြည်ကပြုံးလျက်

"မလေးထိုးပေးမယ်ဆိုယင်ကော"

"တကယ်ပြောတာလား မလေး။ ဒီလိုဆိုယင်တော့ အတိုင်းထက် အလွန်ပေါ့မလေးရယ်၊ ဒီနေ့ညပိုင်းကျယင် ဖိနပ်ယူလာခဲ့မယ်"

ထိုသို့စကားပြောနေစဉ် အစေတော် အဘွားကြီးတစ်ယောက် မောကြီးပန်းကြီးဖြင့်ပြေးလာသော

'မလေးတို့၊ မလေးတို့၊ လာကြပါဦး။ ချင်ချန်းရယ် ဘာဖြစ်လို့ လဲမသိဘူး၊ ရေတွင်းထဲခုန်ချလို့"

မာလာမှာ ရုတ်တရက်လန့်သွား၏။

"ဘယ်ချင်ချန်းလဲ"

"ဘယ်ချင်ချန်းရှိရဦးမှာလဲ၊ သခင်မဝမ်ရဲ့အစေတော် ချင်ချန်း ပေါ့။ ဟိုတစ်နေ့တုန်းက ဘာဖြစ်လို့မှန်းမသိဘူး၊ သူ့ကို အလုပ်ထုတ်ပစ် လိုက်တယ်။ ဒါနဲ့ ငိုယိုပြီ အိမ်ပြန်သွားတယ်။ ဒါပေမယ့် ဘယ်သူမှသတိ မထားမိလိုက်ကြဘူးပေါ့၊ နောက်ကျတော့မှသာ ပျောက်ဘယ်ဆိုတာ သိ ရတာ။ ခုဘင် ရေထမ်းသမား တစ်ယောက်က ဝင်းအရှေ့ဘက်မြောက် ထောင့်မှာရှိတဲ့ ရေတွင်းကို သွားရေခပ်တော့ အလောင်းကို တွေ့ရတာ။ ဒါနဲ့ လူတွေကိုခေါ်ပြီး ဆွဲထုတ်ကြည့်ကြတော့ ချင်ချန်းရဲ့အလောင်း ဖြစ် နေတယ်။ သူ့အိမ်ကတော့ မသိသေးဘူးဆိုပြီး သတင်းပြန်ရအောင်ကြိုး စားကြသေးတယ်လေ၊ ဒါပေမယ့် မရတော့ပါဘူး"

"ဖြစ်မှဖြစ်ရလေ"ဟု ပေါက်ကြည်ကပြော၏။

မာလာမှာ သက်ပြင်းချကာ သူနှင့်ချင်ချန်းတို့ မည်မျှခင်မင်ခဲ့ကြ သည်ကိုတွေးမိတိုင်း မျက်ရည်တွေကျလျက်ရှိ၏။ မာလာသည် မိမိတို့ အဆောင်ရှိရာပြန်လာခဲ့ပြီး ပေါက်ကြည်မှာ သခင်မကြီးဝမ်ကို နှစ်သိမ့် ရန် ထွက်သွား၏။

သခင်မကြီးဝမ်၏အဆောင်မှာ ထူးထူးဆန်းဆန်းတိတ်ဆိတ်လျက် ရှိ၏။ သခင်မဝမ်သည် ထိုင်ခုံတွင်ထိုင်ကာ မျက်ရည်တရွဲရွဲဖြင့် ငိုလျက် ရှိလေ၏။ ပေါက်ကြည်သည် ချင်ချန်းသေသည့်ကိစ္စကို မပြောချင်သဖြင့်

အနီး တွင်ထိုင်နေ၏။ သခင်မဝမ်က ဘယ်ကလာသနည်းဟု မေးသည့် အခါတွင်မှ

"ဥယျာဉ်ကလာတာပါ ဒေါ်ကြီး"

"ပေါက်ယုကိုကော တွေ့ခဲ့သေးလား"

"အပြင်ကို ထွက်သွားတာ တွေ့လိုက်ပါတယ်၊ ဘယ်ကို သွားမှန်း တော့ မသိပါဘူး"

သခင်မဝမ်က မျက်ရည်တွေအရွှဲသားဖြင့် ခေါင်းညိတ်နေသည်။

"ချင်ချွန်း ရေတွင်းထဲ ခုန်ဆင်းသေတာကိုကော သိပြီးပလား"

"ကြားရတာ စိတ်မကောင်းလိုက်တာ ဒေါ်ကြီးရယ်၊ ဘာများ ဖြစ်လို့လဲမသိဘူး"

"မနေ့က သူ့ကြောင့်ပစ္စည်းတစ်ခုကွဲသွားတယ်အေ။ အဲဒါ ငါ တလဲ စိတ်ဆိုးဆိုးနဲ့ ဆူလိုက်မိတယ်၊ ပြီးတော့ ရိုက်ပြီး အိမ်ကို ပြန် လွှတ်လိုက်တယ်။ ခဏတဖြုတ် ဒဏ်ပေးခဲ့တဲ့သဘောနဲ့ ပြန်လွှတ်လိုက် တာပါ၊ ခဏနေယင် ပြန်ခေါ်မှာပါ၊ ဒီလို ဖြစ်လိမ့်မယ်လို့လဲ ဘယ်ထင် မလဲ။ ငါ့အပြစ်ပါအေ၊ ချင်ချွန်းသေရတာ ငါ့ကြောင့်ပါ"

"ဒေါ်ကြီးက စိတ်ကောင်းသဘောကောင်းရှိတော့ ဒီလိုပဲ ထင် မှာပေါ့လေ။ ဒါပေမယ့် ပေါက်ကြည်ကတော့ ဒီကိစ္စကြောင့် စိတ် ထိ ခိုက်ပြီး လုပ်တာလို့ မထင်မိဘူး၊ ရေတွင်းနားမှာ ဆော့ရင်း လိမ့်ကျ တယ်ထင်တာပဲ။ ဒေါ်ကြီးရဲ့အဆောင်ထဲမှာချည်းပဲနေရတော့ ပျင်းမှာ ပေါ့။ ဒါနဲ့ အပြင်ရောက်တော့ ဆော့ရင်း ပြုရင်း လိမ့်ကျတာပဲ ဖြစ်နိုင် တယ်လို့ ထင်တာပဲ။ ဒီလောက်စိတ်ထိခိုက်ပြီးလုပ်တာတော့မဖြစ်နိုင်ဘူး။ ဒီလိုလုပ်တယ်ဆိုယင်လဲ ဘယ်တတ်နိုင်မလဲ ဒေါ်ကြီးရယ်၊ သူမိုက်လို့ လုပ်တာပဲ၊ ဘာသနားစရာရှိသလဲ"

သခင်မဝမ်က ခေါင်းညိတ်နေသည်။

"ညည်းပြောတဲ့အတိုင်းဟုတ်တောင်မှ ငါကတော့ စိတ်မကောင်း ဘူးအေ"

"ဒီလောက်လဲ စိတ်ထိခိုက်မနေပါနဲ့ ဒေါ်ကြီးရယ်၊ ဒေါ်ကြီး ဒီလောက် စိတ်ထိခိုက်နေတယ်ဆိုယင်လဲ သူ့ သင်္ဂြိုဟ်ဖို့ကိစ္စအတွက် သူ့





မိဘ ဆွေမျိုးတွေကို ငွေစ နည်းနည်းပါးပါး ထောက်ပံ့လိုက်ရုံပေါ့။ ဒါလောက်ဆိုယင် သနားတတ်တဲ့ သခင်မတစ်ယောက်အနေနဲ့ ဝတ္တရား ကျေပါပြီ"

"သူ့အမေကိုတော့ ငွေငါးဆယ်ကျပ်သား ပေးလိုက်တာပဲအေ။ ပြီးတော့ အလောင်းတို့ ဘာတို့ လုအောင် ညည်းတို့ရဲ့ အဝတ်အစား နှစ်စုံ လောက်တော့ ပေးလိုက်ချင်သား။ ဒါပေမယ့် ငါ့က်မယ်ကပြောတော့ အဝတ်အစားအသစ်က အဆင်သင့်မရှိဘူးတဲ့၊ ထိုက်ယုရဲ့မွေးနေ့မှာ လက် ဆောင်ပေးဖို့ချုပ်သွားတဲ့ ဝတ်စုံနှစ်စုံပဲ အသစ်ရှိတယ်တဲ့။ အဲဒီဝတ်စုံကို သွားပေးလိုက်လို့ မဖြစ်ဘူး၊ ထိုက်ယုက အထအန ကောက်တတ်ပါဘိ သနဲ့၊ ပြီးတော့ စိတ်ကလဲတော်တော်ရယ်။ သူ့မွေးနေ့ဖို့ ချုပ်ထားတဲ့ အဝတ်အစားကို အလောင်းပြင်ဖို့ ပေးပစ်လိုက်တယ်ဆိုယင် စိတ်ထဲမှာ တစ်မျိုးဖြစ်မှာ။ ခုတော့ အပ်ချုပ်သည်တွေကို အဝတ်အစားသစ် နှစ်စုံ အမြန်ဆုံး အချုပ်ခိုင်းထားတာပဲ။ တခြား အစေတော် ဆိုယင်တော့ ဒီလောက်မဟုတ်ပါဘူး၊ ငွေစကလေး ဘာလေး နည်းနည်းပါးပါး ထည့် လိုက်ယင် ပြီးတာပါပဲ။ ဒါပေမယ့် ဒီကောင်မလေးကျတော့ ဒီလောက်နဲ့ မကောင်းဘူး၊ ငါနဲ့နေလာတာကြာလှပြီ၊ ငါ့မှာ သမီးအရင်းလို ဖြစ် နေတယ်"

ပေါက်ကြည်က

"အပ်ချုပ်သည်တွေ မပြီးယင်လဲ ကိစ္စမရှိပါဘူး ဒေါ်ကြီးရယ်၊ ပေါက်ကြည်မှာ ချုပ်ပြီးသားနှစ်စုံရှိပါတယ်။ ပေါက်ကြည့်သွားယူလိုက် မယ်လေ၊ လိုဆိုယင် တော်တော်ဒုက္ခအေးသွားတာပေါ့။ သူရှိတုန်းကလဲ ပေါက်ကြည်ပေးတဲ့ အဝတ်အစားကလေးတွေ ဘာလေးတွေကိုဝတ်နေ ကျပါ၊ သူနဲ့ဆိုယင် အတော်ပါပဲ"

"တော်တော်ကြာ ညည်းက နိမိတ်မကောင်းဘူး ဘာဘူးဆိုပြီး အယူရှိနေဦးမှာလားအေ"

ပေါက်ကြည်က ပြုံးလိုက်၏။

"ရပါတယ် ဒေါ်ကြီးရဲ့၊ ပေါက်ကြည်က အယူမသည်းတတ်ပါ ဘူး"

ပေါက်ကြည်က ထိုင်ရာမှ ထလိုက်သဖြင့် သခင်မဝမ်သည် အစေတော်နှစ်ယောက်ကို ပေါက်ကြည်နောက်သို့ ထည့်လိုက်လေ၏။

ခဏကြာ၍ အဝတ်အစားများကိုယူပြီး ပြန်လာသည့်အခါတွင် သူ့မိခင်အနီးတွင် မျက်ရည် အရွှဲသားဖြင့် ထိုင်နေသော ပေါက်ယုကို တွေ့ရလေ၏။ သခင်မဝမ်သည် ပေါက်ယုကို ဆူပူကြိမ်းမောင်းလျက်ရှိ၏၊ သို့ရာတွင် ပေါက်ကြည်ရောက်လာသည့်အခါတွင်မူ ဆူပူခြင်းမပြုတော့ချေ။ ပေါက်ကြည်မှာ အကောင်းပါးသူ ပြုပြီ အကျိုးအကြောင်းကို ရိပ်မိလိုက်လေပြီ။ ပေါက်ကြည်က အဝတ်အစားများကို ပေးသည့်အခါတွင် သခင်မဝမ်သည် ချင်ချွန်း၏ မိခင်ကိုခေါ်ကာ အဝတ်အစားများကို သူ့လက်သို့အပ်လိုက်လေ၏။

နောက် မည်သို့ဖြစ်ပျက်သည်ကိုမူ လာမည့်အခန်းတွင် ဖော်ပြထားပေ၏။







အခန်း ၃၃

## မနာလိုဝန်တိုသောညီက ကုန်းချောခြင်း
## မိုက်မဲသောသား ပြင်းစွာအရိုက်ခံရခြင်း

ချင်ချွန်း၏ မိခင်ကိုခေါ်၍ အဝတ်အစားများကို ပေးလိုက်ပြီးနောက် သခင်မဝမ်သည် သက်ပျောက်ဆွမ်းသွတ်ရန် ဘုန်းကြီး အပင့်ခိုင်းလိုက်လေ၏၊ ချင်ချွန်း၏မိခင်လည်း ကျေးဇူးတင်စကားပြောဆိုကာ ဂါရဝပြုပြီးနောက် ပြန်သွားလေ၏။

ပေါက်ယုသည် ယုဆုန်နှင့်တွေ့၍ ပြန်လာခဲ့သည်တွင် ချင်ချွန်း တစ်ယောက်ရှက်၍ ကိုယ့်ကိုယ်ကိုယ် သတ်သေသွားကြောင်း သိရသည့် အခါတွင် အကြီးအကျယ် စိတ်ထိခိုက်သွားလေ၏။ ပေါက်ယုသည် သူ့ အမေ ဆူပူကြိမ်းမောင်းသည်ကို အသာငြိမ်၍ နားထောင်နေပြီးနောက် အနီးသို့ ပေါက်ကြည်ရောက်လာသည်နှင့်အသာလစ်ထွက်ခဲ့လေ၏။ပေါက်ယုသည် လက်နှစ်ဖက်ကို နောက်သို့ပစ်ကာ ခေါင်းငိုက်စိုက်ဖြင့် လျှောက်လာခဲ့ရာ ကျောင်းဘက်သို့ ရောက်လာခဲ့၏။ ပေါက်ယုသည် ခန်းဆီးချထားသည့် တံခါးမကြီးသို့ လှမ်းဝင်လိုက်စဉ် တစ်စုံတစ်ယောက်နှင့် အင့်ခနဲ ဝင်တိုက်မိကာ သူ့အား အော်ဟစ်၍ အရပ်ခိုင်းသံကို ကြားလိုက်ရလေ၏။

ပေါက်ယုသည် အလန့်တကြားဖြင့် မော့ကြည့်လိုက်ရာ မားမားကြီးရပ်နေသည့် သူ့ဖခင် ကျီချိန်ကို မြင်လိုက်ရသည့်အတွက် အကြီးအကျယ် စိတ်ပျက်သွားလေ၏။ ပေါက်ယုသည် ဘေးတွင်ကပ်၍ လက်နှစ်ဖက် နောက်ပစ်ရပ်ကာ ရင်တထိတ်ထိတ်နှင့် ဖြစ်နေလေ၏။

"ဘာဖြစ်လို့ ဒီလောက် ငေးလာရတာလဲဟင်။ ယုဆုန်လာတုန်းက အခေါ်လွှတ်လိုက်တော့လဲ တော်တော်နဲ့ မပေါ်လာဘူး၊ ရောက်လာတော့လဲ လူက ငိုင်တိငိုင်တိုင်နဲ့၊ ရုပ်ကိုအ နည်းနည်းမှ ကျက်သရေမရှိဘူး။ ခုလဲ လူကိုကြည့်ရတာ ယောင်တောင်တောင်နဲ့။ နေစမ်းပါဦး၊ မင်းမှာ ဘာများ စိတ်ညစ်စရာတွေရှိနေလို့လဲ၊ ဘာဖြစ်နေတာလဲ။ ဘာဖြစ်လို့ ဒီကိုက်ဖမ်းနေရတာလဲ"

ခါတိုင်းဆိုလျှင် ပေါက်ယုသည် နှုတ်သွက်လျှာသွက်ဖြင့် အချက်ကျကျ ပြန်ပြောမြဲဖြစ်၏။ ယခုမူ ချင်ချွန်း၏ ကိစ္စကြောင့် သူ့နောက်သို့ လိုက်သေချင်လောက်အောင် စိတ်ညစ်လျက် ရှိဘိနှ်ဖြစ်သဖြင့် သူ့ဖခင် ပြောသည့် စကားများကို တစ်ခွန်းမျှမကြားဘဲ ငူငူကြီး ရပ်နေမိလေ၏။ ပေါက်ယုက ထိုသို့ မလှုပ်မယှက် ရပ်နေသည်ကို မြင်ရသည့်အခါတွင် ကျီချိန်သည် ပို၍ ဒေါပွလာလေ၏။ သို့ရာတွင် ကျီချိန်မည်သို့မျှ မပြောရသေးမီ ဘုန်းတော်ကြီးသောဘုရား၏ သားတော်တစ်ပါးဖြစ်သူ မင်းသားကြီး ချန်ရှန်း၏အိမ်တော်မှ မင်းချင်းတစ်ဦးရောက်လာကြောင်းဖြင့် လာရောက် ပြောဆိုလေ၏။

မိမိတို့နှင့် မင်းသားကြီး ချန်ရှန်းမှာ အဆက်အသွယ် သိပ်မရှိလှသည့်အတွက် ကျီချိန်သည် အံ့အားသင့်လျက် ရှိလေ၏။ ကျီချိန်သည် ထိုအရာရှိအား ဧည့်ခန်းထဲသို့ခေါ်လာရန် အမိန့်ပေးလိုက်ပြီးနောက် ခပ်သုတ်သုတ်ထွက်လာခဲ့ရာ မိမိထံလာရောက်သည့် အရာရှိမှာ ချန်ရှန်းမင်းသား၏ အိမ်တော်မှ ဝင်းမှူးကြီး ဖြစ်ကြောင်းကို တွေ့ရလေ၏။ ကျီချိန်သည် ဝင်းမှူးကြီးအား နေရာထိုင်ခင်းပေးကာ လက်ဖက်ရည်ဖြင့် ဧည့်ခံလေ၏။

ဝင်းမှူးကြီးက နိဒါန်းပျိုးခြင်းမရှိဘဲ လာရင်းကိစ္စကိုပြော၏။





"ခုလို ဗြုန်းစားကြီးရောက်လာတဲ့အတွက် ခွင့်လွှတ်စေချင်တယ်ခင်ဗျ။ ကိစ္စကတော့ တခြားမဟုတ်ပါဘူး၊ ကိုယ်တော်ကြီးက မြို့စားကြီးကို အကူအညီတစ်ခု အဘောင်းခိုင်းလိုက်လို့ပါ။ မြို့စားကြီးက ပေးမယ်ဆိုယင်တော့ ကိုယ်တော်ကြီးဟာ မြို့စားကြီးရဲ့စောင်မမှုကို အမြဲအောက်မေ့ သတိရနေမှာပဲဗျ။ ကျွန်တော့်အနေနဲ့လဲ မြို့စားကြီးကိုအတိုင်းထက်အလွန် ကျေးဇူးကို အမြဲသတိရနေမှာပါ"

ကျီချိန်မှာ ပို၍ဇဝေဇဝါဖြစ်သွားကာ ထိုင်ရာမှထ၍ ပြုံးရင်း

"ဆိုပါဦး ဝင်းမှူးကြီးရယ်၊ ကိုယ်တော်ကြီးက ကျုပ်ကို ဘယ်လိုများ အမိန့်တော်ရှိလိုက်လို့လဲ။ ဝင်းမှူးကြီးပြောပြမယ်ဆိုယင်အတတ်နိုင်ဆုံးကြိုးစားရမှာပ"

ဝင်းမှူးကြီးက ခပ်ယဲ့ယဲ့ပြုံးလိုက်၏။

"မြို့စားကြီးအနေနဲ့ များများ စားစား လုပ်စရာ မလိုပါဘူး၊ စကားလေး တစ်ခွန်းပြောရုံပါပဲ။ ကျွန်တော်တို့ ကိုယ်တော်ကြီးရဲ့ နန်းဆောင်မှာ ဇာပြအသုံးတော်ခံရတဲ့ ချီကွမ်းဆိုတဲ့ ယောကျ်ားမင်းသမီးတစ်ယောက်ရှိတယ်ခင်ဗျ၊ အလျင်တုန်းကတော့ ကိုယ်တော်ကြီးရဲ့ နန်းဆောင်မှာ အေးအေးဆေးဆေးပါပဲ၊ ဘာပြဿနာမှ မရှိခဲ့ဖူးပါဘူး။ ဒါပေမယ့် လွန်ခဲ့တဲ့ရက်များ မကြာမီကတော့ အဲဒီယောကျ်ားမင်းသမီး ချီကွမ်းဟာ ပျောက်သွားတယ်ခင်ဗျ။ ရွှေမြို့တော်တစ်မြို့လုံးလဲ အနှံ့လိုက်ရှာပြီးပြီ၊ ဒါပေမယ့် မတွေ့ဘူး။ ဒါနဲ့ ကျွန်တော်တို့ အထောက်တော်များကိုလွှတ်ပြီး သေသေချာချာ စုံစမ်းထောက်လှမ်းခဲ့တယ်ခင်ဗျ၊ သက်ဆိုင်မယ်လို့ ထင်ရတဲ့လူများလဲ မေးမြန်းစစ်ဆေးခဲ့တယ်။ စစ်ဆေးကြည့်လိုက်တော့ ချီကွမ်းဟာ ခံတွင်းမှာ ကျောက်စိမ်းတုံးငုံပြီး မွေးလာတဲ့ မြို့စားကြီးရဲ့သားနဲ့ မကြာသေးမီက အတော်ရင်းရင်းနှီးနှီး ဆက်ဆံခဲ့ကြတယ်လို့ စစ်ဆေးခံရသူ ဆယ်ယောက်မှာ ရှစ်ယောက်လောက်က ထွက်ဆိုကြတယ်။ ဒီတော့ သာမန်အိမ်တွေလုပ်သလို မြို့စားကြီးစံအိမ်ကို ကျွန်တော်တို့ဝင်မရှာချင်ဘူးခင်ဗျ၊ ဒါကြောင့် ကိုယ်တော်ကြီးဆီကို ကျွန်တော်တို့ အမိန့်တောင်းပါတယ်။ ကိုယ်တော်ကြီးက ဒီပြင် ဇာချေသည်တစ်ရာလောက် အဆုံးအရှုံးခံနိုင်တယ်တဲ့၊ ချီကွမ်းကို အဆုံးရှုံးမခံနိုင်

ဘူးတဲ့၊ ချိုကွမ်းလိုယဉ်ကျေးလိမ္မာပြီး ပါရမီထူးတဲ့ သူငယ်ပျိုလေးကို ဘုန်းတော်ကြီးသောဘုရားကိုယ်တိုင်က နှစ် သက်မြတ်နိုးတော်မူသေတော့ ချိုကွမ်း မရှိယင်မဖြစ်ဘူးလို့ မိန့်လိုက်ပါတယ်။ ဒါ့ကြောင့်မို့ ကိုယ်တော်ကြီးရဲ့ မေတ္တာရပ်ခံချက်ကို ထောက်ထားရာရောက်အောင်၊ ကျွန်တော်တို့ကိုလဲ အချိန်ကုန်လူပန်းမဖြစ်ရအောင် ချိုကွမ်းကို ရွှေနန်းတော်ကြီးကို ပြန်ပို့ဖို့ မြို့စားကြီးရဲ့ သားတော်လေးကို ပြောပေးစေချင်တယ်ခင်ဗျ''

ဝင်းမှူးကြီးသည် ထိုသို့ပြောဆိုပြီးနောက် ဦးညွတ်လိုက်၏။

ကျိချိန်မှာ အထိတ်တလန့်ဖြစ်ရုံမျှက ရှက်လည်း ရှက်လှသဖြင့် ပေါက်ယုကို ချက်ချင်းအခေါ်ခိုင်းလိုက်လေရာ ပေါက်ယုမှာလည်းဘုမသိဘမသိဖြင့် လိုက်လာရလေ၏။

''ဟင်၊ ခွေးတိရစ္ဆာန်။ အိမ်မှာစာပေကျမ်းဂန်ကိုအသင်ခိုင်းတယ်၊ မသင်ဘူး။ ခုတစ်ခါတွင်မကဘူး၊ အပြင်ထွက်ပြီး ရာဇဝတ်အိုးကို တုတ်နဲ့ထိုးနေတဲ့ကောင်၊ အယုတ်တမာရာဇဝတ်မှုတွေကိုကျူးလွန်နေတဲ့ကောင်။ ချိုကွမ်းဟာ ချန်ရှန်းကိုယ်တော်ကြီးဆီမှာ ခစားနေရတာဆိုတာ မင်းသိရဲ့လား။ ကြည့်စမ်းပါဦး၊ ကိုယ်တော်ကြီး အပါးမှာ ခစားနေတဲ့ သူငယ်ကလေးကို မြှူဆွယ်ပြီးခေါ်လာသတဲ့။ ခုတော့ ငါပါဒုက္ခရောက်တော့မယ်။ သိသွားဟင်၊ တော်သော်မိုက်လုံးကြီးတဲ့ကောင်''

ကျိချိန်သည် ဟိန်းနေအောင်အော်လျက်ရှိလေ၏။ ပေါက်ယုမှာ ထိုစကားကြောင့် အံ့အားသင့်လျက်ရှိလေ၏။

''ကျွန်တော်ဘာမှမသိဘူး ဖေဖျား။ သူ့ကို မြှူခေါ်ဖို့မပြောနဲ့၊ ချိုကွမ်းဆိုတဲ့ နာမည်ကိုတောင် မကြားဖူးဘူးခင်ဗျ''

ပေါက်ယု၏မျက်လုံးမှ မျက်ရည်တွေစီးကျလာလေ၏။

ကျိချိန်က မည်သို့မျှ မပြောရသေးမီ ဝင်းမှူးကြီးက ခပ်လှောင်လှောင် ပြုံးလိုက်ရင်း

''ဒီကိစ္စကို ဖုံးထားလို့ အသကားပဲပေါ့ ကျုပ်ညီရယ်။ ဒီစံအိမ်မှာ ရှိသလား၊ ဒါမှမဟုတ် တခြားဘယ်ကိုသွားသလဲဆိုတာပဲ ကျုပ်တို့သိချင်





တယ်။ ချက်ချင်းပြောလိုက်ယင် ကျုပ်တို့မှာ အချိန်ကုန်လူပန်း သက်သာမယ်၊ ကျုပ်ညီလဲ ကျေးဇူးတင်ခံရမယ်''

ပေါက်ယုကား ထိုကိစ္စကိုဘာမျှမသိဟု ငြင်းနေဆဲဖြစ်လေ၏။

''ဝင်းမှူးကြီး တို့ သတင်းရထားတာ မှားနေပြီထင်တယ်''

ဝင်းမှူးကြီးက တမင် ခပ်ကျယ်ကျယ်ရယ်လိုက်၏။

''ကျုပ်တို့မှာ လက်ဆုပ်လက်ကိုင်သက်သေအထောက်အထားတွေ ရှိကယ်နော။ ကျုပ်ညီ ဒီအတိုင်းလုပ်နေယင် ကျုပ်ညီ ခမည်းတော်ကြီးရှေ့မှာ ဟုတ်တိုင်းမှန်ရာတွေကို မပြောချင်ဘဲဖွင့်ပြောရလိမ့်မယ်။ ဒါတွေကို ပြောလိုက်ယင် ကျုပ်ညီအဖို့ဘာမှအကျိုးရှိမှာမဟုတ်ဘူး။ ကောင်းပြီ၊ ကျုပ်တစ်ခွန်းပဲမေးမယ်၊ အဲဒီနာမည်ကို ကျုပ်ညီ မကြားဖူးဘူးဆိုယင် တာဖြစ်လို့ သူ့ပိုးခါးစည်းကြိုးအနီဟာ ကျုပ်ညီရဲ့ခါးပေါ်ကို ရောက်နေရသလဲ''

ပေါက်ယုမှာ ကြက်သေသေလျက်ရှိလေ၏။

'အင်း၊ ဒါတွေကို သူတို့ ဘယ်လိုလုပ်များ သိထားပါလိမ့်။ ဒီလောက် လျှို့ဝှက်တဲ့ ကိစ္စမျိုးကိုတောင် သိတယ်ဆိုယင် ကျန်တာတွေကို ဖုံးထားလို့လဲ အလကားပဲနေတော့မှာပဲ၊ နောက်ထပ်စကားတွေပြောနေယင် ဆိုးသည်ထက်ဆိုးကုန်တော့မှာ။ ဒီတော့ သူတို့မြန်မြန်ပြန်သွားတာက ပိုကောင်းတယ်''ဟု တွေးမိလေ၏။ ထို့ကြောင့် ပေါက်ယုက

''ဝင်းမှူးကြီးတို့ ဒီလောက်တောင် သိနေပြီဆိုယင်လဲ သူ့ပစ္စည်းတွေ ဝယ်တာတို့ဘာတို့ဆိုတဲ့ ဒီထက်မက အရေးကြီးတဲ့ ကိစ္စတွေကိုလဲသိမှာပေါ့၊ ကျွန်တော်ဘာပြောရာလိုသေးသလဲ။ ကျွန်တော်သိသလောက်ပြောရယင် ရွှေမြို့တော်အရှေ့ဘက် မိုင်နှစ်ဆယ်လောက်အကွာမှာ နံ့သာတောဆိုတဲ့ ရွာတစ်ရွာရှိတယ်။ အဲဒီမှာ သူအိမ်တစ်လုံးဝယ်တယ်၊ မြေလဲဝယ်တယ်လို့ ပြောတာပဲ။ ကျွန်တော့်အထင် ပြောရမယ်ဆိုယင်တော့ ချိုကွမ်းဟာ အဲဒီမှာရှိမယ်ထင်တာပဲ''

ဝင်းမှူးကြီး၏ မျက်နှာသည် ဝင်းထိန်သွား၏။

''ကောင်းပြီ၊ ကျုပ်ညီပြောတဲ့အတိုင်းဆိုယင် သူ အဲဒီမှ ရှိရမယ်၊ ကျုပ်တို့သွားပြီး စုံစမ်းကြည့်မယ်။ တွေ့ယင်တော့ ပြီးတာပေါ့လေ၊

မတွေ့ဘူးဆိုယင်တော့ ကျုပ်ညီဆီကိုလာပြီး အကူအညီလေး ဘာလေး တောင်းရပေဦးမှာပေါ့"

ဝင်းမှူးကြီးသည် ခပ်သုတ်သုတ်ပြန်သွားလေ၏။

ကျီချိန်အား ဒေါသထွက်လွန်းသဖြင့် မျက်လုံးများမှာခေါင်းမှ ပေါက်ထွက်တော့မည်ဟုပင် ထင်ရပေ၏။ ကျီချိန်သည် ဝင်းမှူးကြီးကို အပေါက်ဝအထိ လိုက်ပို့ပြီးနောက် ပေါက်ယု အနီးသို့ပြန်ရောက်လာ ရင်း ပေါက်ယုဘက်သို့လှည့်ကာ

"ခွေးတိရစ္ဆာန်၊ ဒီနားမှာချပ်နေ။ ငါ ခုပြန်လာမယ်"

ကျီချိန်သည် ဝင်းမှူးကြီးကို ဝင်းဝသို့ရောက်အောင် လိုက်ပို့ပြီး နောက် အိမ်ဘက်သို့ပြန်လာစဉ် အစေတော်အချို့ဖြင့် သုတ်သီးသုတ်ပျာ ပြန်လာသော ကျီဟုန်ကို မြင်လိုက်ရလေ၏။ ကျီချိန်သည် စိတ်ဆိုးလျက် ရှိသဖြင့် မိမိလက်ပါးစေများကိုခေါ်ကာ ကျီဟုန်နှင့်သူငယ်တော်များကို ရိုက်ခိုင်းလေ၏။

ကျီဟုန်မှာ ဖခင်ဖြစ်သူကျီချိန်ကို မြင်လိုက်သဖြင့် ထိတ်သန့်လျက် ရှိလေ၏။ ကျီဟုန်သည် ဖခင်ကျီချိန်ရှေ့တွင် ရပ်လိုက်ပြီး ခေါင်းငိုက်စိုက် ချထားလေ၏။

"ဘာတွေ ဒီလောက် အရေးကြီးသုတ်ပျာ ဖြစ်နေတာလဲဟင်၊ မင်းကို ထိန်းဖို့ထားတဲ့အထိန်းတော်တွေ အစေတော်တွေကော ဘယ်မှာ လဲ။ တောင်မတွေက အလေလိုက်ချင်ရာလိုက်ပြီး မင်းက ကမြင်းချင် တိုင်း ကမြင်းနေတယ်ပေါ့ ဟုတ်စ"

ခမည်းတော်ကြီးကျီချိန်သည် ကျီဟုန် ကျောင်းသွားလျှင် လိုက် ရမည့်အစေခံများကို မာန်မဲနေပြန်၏။ ဤတွင် ကျီဟုန်သည် ဖခင်ခမည်း တော်ကြီးအား လမ်းလွဲရန် အခွင့်အရေးတစ်ခုကို ရလိုက်ပေပြီ။

"အလကားဆော့နေတာ မဟုတ်ပါဘူး ဖေဖျား၊ အစေတော် ခုန်ချပြီးသတ်သေသွားတဲ့ ရေတွင်းနားရောက်တော့ ကျွန်တော် ကြောက် တာနဲ့ ပြေးလာတာပါ။ သူ့ခေါင်းကြီးက ပုပ်ပွလို့ ခင်ဗျ၊ ကိုယ်ကြီးက လဲ ရေထဲမှာ ပေါသောကြီးပေါ်ပြီး ဖူးဖူးရောင်လို့။ အလောင်းကြီးကို ကြည့်ရတာ ကြောက်တာနဲ့ ကျွန်တော်လဲ အတင်းပြေးလာတာ"





ကျီချိန်မှာ အံ့အားသင့်လျက်ရှိလေ၏။

"ဘယ်အစေခံတော် ကောင်မလေးများ ရေတွင်းထဲခုန်ချပြီး သေ လို့လဲ၊ ငါ့စံအိမ်မှာ အလျင်က ဒါမျိုးတစ်ခါမှမဖြစ်ဖူးပါဘူး။ဘိုးဘေး အစဉ်အဆက်အဘည်းက ငါတို့ဟာ ကိုယ့်ဘက်ခအောက်ငယ်သားတွေ၊ အစေခံတော်တွေကို ကောင်းကောင်းမွန်မွန် ဆက်ဆံခဲ့တာချည်းပါပဲ။ တစ်ခုတော့ရှိရဲ၊ ခုတလောမှာတော့ ငါဟာ ငါ့စံအိမ်က ကိစ္စတွေကို ဘာမှ သိပြီး ဂရုစိုက်နိုင်ခဲ့ဘူး။ စံအိမ်မှာ အကြီးအကဲလုပ်တဲ့ သူတွေက အာဏာကို အလွဲသုံးစားလုပ်ပြီး လက်အောက်က အစေခံတော်တွေကိုများ နှိပ်စက်ညှဉ်းဆဲကြသေ့သလား၊ ဒါ့ကြောင့်မို့ ကိုယ့်ကိုယ်ကိုယ်သတ်သေ တာများလား။ ဒီသတင်းသာ အပြင်ပေါက်သွားလို့ရှိယင် ငါတို့ ဘိုး ဘေးအစဉ်အဆက်ပါ နာမယ်ပျက်တော့မှာပဲ"

ကျီချိန်သည် ဤသို့တွေးလျက်ရှိကာ ကျီလျံ၊ လိုင်တနှင့်လိုက်ဆင့် တို့ကို ခေါ်လိုက်လေ၏။

အစေခံတော်အချို့က ထိုသူများကို သွားခေါ်မည်ပြုစဉ် ကျီဟုန် သည် ရှေ့သို့ဘက်သွား၍ ဖခင်ဖြစ်သူ ကျီချိန်၏ဝတ်ရုံကိုကိုင်ကာ ဒူးထောက် ထိုင်လိုက်လျက်

"စိတ်မဆိုးပါနဲ့ ဖေဖျား၊ ဒီကိစ္စကို မေမေ့ရဲ့ ခန်းဆောင်ထဲကပဲ သိကြပါတယ်၊ တခြားဘယ်သူမှ မသိကြပါဘူး။ မေမေ့ပြောတော့—"

ကျီဟုန်သည် စကားကိုဆက်မပြောသေးဘဲ ဘေးပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်၏။ ဤတွင် အစေခံများကလည်း အရိပ်အကဲကိုနားလည် ကာ အနီးမှနောက်သို့ဆုတ်သွားကြ၏။ ကျီဟုန်က လေသံခပ်တိုးတိုးဖြင့်

"မေမေကပြောတော့ တစ်နေ့တုန်းက အစ်ကိုလေးပေါက်ယုဟာ ချင်ချွန်းကို မဟားဒယားလုပ်ဖို့ကြံတယ်တဲ့၊ ချင်ချွန်းကငြင်းတော့ အစ်ကို လေး ပေါက်ယုကရိုက်တာတဲ့။ ဒါနဲ့ ချင်ချွန်းက ရှက်လဲရှက်၊ ဒေါသလဲ ထွက်ပြီး ရေတွင်းထဲခုန်ချသေတာတဲ့"

ကျီဟုန်၏ စကားမဆုံးမီမှာပင် ကျီချိန်၏ မျက်နှာ ညိုပုပ်လျက် ရှိလေပြီ။

"သွား၊ ပေါက်ယုဆိုတဲ့ကောင်ကို ခေါ်ခဲ့စမ်း"ဟု အော်လိုက်လေ၏။

ကျီချိန်သည်ရှုံ့ရှုံ့ရှားရှားဖြင့်စာကြည့်ဆောင်ဘက်သို့သွားရင်း

"တော်ပြီ၊ ဒီတစ်ခါတော့ ငါ့ကိုဘယ်သူမှမတားကြနဲ့တော့။ ဒီတစ်ခါတားလို့ရှိယင်တော့ ငါ့ရှိတဲ့ မြို့စားဘွဲ့မည်ရည် အဆောင်အယောင်တွေရော၊ စည်းစိမ်ဥစ္စာတွေရော သူ့ကိုပဲပေးခဲ့တော့မယ်၊ ပေါက်ယုဆိုမှပဲ အလုပ်လုပ်ပေတော့။ ငါမှာ လူတကာ အပြစ်ပြောခံရတဲ့အဖြစ်က လွတ်အောင် ဘယ်လိုလုပ်ရပါ့မလဲ၊ ငါ့ခေါင်းက ကျိုးတိုးကျဲတဲသာကျန်တဲ့ ဆံပင်တွေကို ရိတ်ပစ်လိုက်တော့မယ်၊ ရဟန်းဘောင်ကိုဝင်တော့မယ်။ ဒါမှ ငါ့ဘိုးဘွားတွေကို ဂုဏ်သိက္ခာပျက်အောင် ဒီလို သားဆိုးသားမိုက်တွေကို မွေးမိတဲ့အပြစ်တွေ ကျေတော့မှာ" ဟု တဗျစ်တောက်တောက် ရွတ်ဆိုလျက်ရှိလေ၏။

ကျီချိန့်၏ စာရေးတော်ကြီးများနှင့် လက်ပါးစေများသည် နှုတ်ခမ်းကို ကိုက်သူကိုက်၊ လက်ချောင်းကိုကိုက်သူကိုက်ဖြင့် ထိတ်လန့်တုန်လှုပ်လျက်ရှိကြရာမှ နောက်သို့ဆုတ်သွားကြလေ၏။ ကျီချိန်သည် တရှုံ့ရှုံ့တရှားရှားဖြစ်လျက်ရှိရာမှ ပါးပြင်တွင် မျက်ရည်တွေ စိုစွတ်လျက်ရှိရင်း ကုလားထိုင်တွင် မတ်မတ်ကြီးထိုင်ချလိုက်ကာ

"သွား၊ ပေါက်ယုကိုခေါ်ခဲ့ကြစမ်း။ ကြိမ်တုတ်အကြီးကိုယူခဲ့၊ ဒီကောင်ကို တိုင်မှာချည်ထား၊ ပြီးတော့ တံခါးတွေအလုံပိတ်။ ပေါက်ယုကို ငါရိုက်နေတယ်ဆိုတာကို အတွင်းဆောင်တွေဘက်ကို သွားသတင်းပေးရဲတဲ့ကောင်ပေးကြစမ်း၊ အဲဒီနေရာတင် သတင်းပေးတဲ့ကောင်ကို အသေသတ်ပစ်မယ်"

ကျီချိန်သည် ကြောက်စဖွယ်အော်ဟစ်လျက်ရှိ၏။

အစေခံများသည် သူခိုင်းသည့်အတိုင်းလုပ်ရလေ၏။ အစေတော်အချို့က ပေါက်ယုကိုသွားခေါ်ကြသည်။

မိမိအား ဤနေရာတွင်အစောင့်ခိုင်းခဲ့ကတည်းက မိမိအခြေအနေမကောင်းမှန်းကို ပေါက်ယုသိလိုက်လေပြီ။ သို့ရာတွင် ကျီဟုန်ပြောသည့်ကိစ္စနှင့်ပတ်သက်၍မူ ဘာမျှမစဉ်းစားမိသေးချေ။ ပေါက်ယုသည် ခန်း





ဆောင်ထဲတွင် ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက်ရင်း သူ့သတင်းကို အတွင်းဆောင်ရှိ မယ်မယ်တို့ထံ ရောက်အောင် မည်သူ ပို့ပေးမည်နည်းဟု တစ်မျှော်မျှော်ဖြစ်လျက်ရှိ၏။ သို့ရာတွင် အနီးတွင်မည်သူမျှမရှိချေ။ ဖခင်ကြီး၏ သူငယ်တော်ဖြစ်သည့် ပေ့မင်းကိုပင်လျှင် မတွေ့ရချေ။ ပေါက်ယုသည် ဟိုဟိုသည်သည်ကြည့်လျက်ရှိစဉ် အထိန်းတော်အဘွားကြီးတစ်ဦး ရောက်လာ၏။ ပေါက်ယုသည် အဘွားကြီးကို အဖိုးတန်ရတနာ[illegible] တစ်ခုသဖွယ် တယုတယဖမ်းဆုပ်ကိုင်လိုက်၏။

"အထိန်းတော်ကြီး၊ အထိန်းတော်ကြီး၊ မောင့်ကို ဖေဖျားကရိုက်တော့မယ်ဗျ၊ မယ်မယ်တို့ကို သွားပြောချည်စမ်းပါ၊ မြန်မြန်ပြောချည်စမ်းပါ"

အထိန်းတော်ကြီးမှာ နားကောင်းကောင်းမကြားသည့်အထဲတွင် ပေါက်ယုကလည်း မပီမသ ပြောနေသဖြင့် 'မြန်မြန်'ဆိုသည့် စကားလုံးကို 'ရေနစ်သည်'ဟု တလွဲကြားနေသဖြင့်

"ဒါတော့ သူကိုယ်တိုင်က ရေနစ်သေချင်တာကိုး သခင်လေးရဲ့။ ဘယ်တတ်နိုင်မလဲ"ဟု နှစ်သိမ့်သည့်အသံဖြင့် ပြော၏။

ပေါက်ယုမှာ သူနားလေးသည့်အတွက် အကြီးအကျယ်စိတ်ပျက်သွားကာ

"ကဲ သွားစမ်းပါဗျာ၊ ကျွန်တော့် သူငယ်တော်တစ်ယောက်ကို ခေါ်ပေးစမ်းပါ"

"ခုတော့ ကိစ္စတွေအားလုံးပြီးသွားပါပြီ သခင်လေးရယ်။ သခင်မကြီးကလဲ ငွေတွေ အဝတ်အစားတွေပေးပြီးပါပြီ၊ ဒီလောက်လဲ စိတ်ပူမနေပါနဲ့တော့"

နားလေးလှသော အဘွားကြီးနှင့်စကားပြောရသည်မှာ လက်ဝင်လှသဖြင့် ပေါက်ယုစိတ်တိုနေစဉ် ဖခင်ကြီး၏ အစေခံများ ရောက်လာကာ ခေါ်သဖြင့် လိုက်သွားရလေ၏။

ပေါက်ယုကို မြင်သည့်အခါတွင် ကျီချိန်၏မျက်လုံးများမှာ မီးဝင်းဝင်းတောက်လျက်ရှိလေ၏။ ကျီချိန်သည် သူ့သားအား အပြင်တွင် မည်သို့ ရှုပ်ပွေနေကြောင်း၊ ကချေသည်များနှင့် မည်သည့် လက်ဆောင်

များကို လဲလှယ်ကြကြောင်း၊ အိမ်တွင် မည်သည့်အတွက် စာပေကျမ်းဂန်တို့ကို မလေ့လာကြောင်း၊ မြို့ခင်၏ အားစတော်တစ်ဦးအား အဘယ့်ကြောင့်မဘုရားကျင့်ရန် ကြိုးစားကြောင်း စသည်တို့ကို မမေးတော့ချေ။

"ပါးစပ်ကို အဝတ်နဲ့ဆို့လိုက်။ ရိုက်စမ်း၊ သေအောင်ရိုက်စမ်း"

အစေခံများသည် သခင်ကြီး၏စကားကို မငြင်းပယ်ရဲကြချေ။ အမိန့်အတိုင်း ပေါက်ယုကို ခုံရှည်ကြီး တစ်ခုံပေါ်တွင် မှောက်လျက်တုပ်ချည်ပြီးနောက် ကြိမ်တုတ်ကြီးဖြင့် အချက်ပေါင်းများစွာ ရိုက်ကြလေ၏။ ကျိချိန်သည် အစေခံများက လျှော့၍ ရိုက်နေသည်ထင်သဖြင့် တုတ်ကိုင်သည့် အစေခံကို တစ်ချက်ပိတ်ကန်လိုက်ကာ ကြိမ်တုတ်ကို သူကိုယ်တိုင်ဆွဲယူသိုက်ကာ အံကြိတ်ပြီး အချက်ပေါင်းများစွာ ရိုက်လျက်ရှိလေရာ နောက်ဆုံးတွင် လက်လွန်မည်စိုးသည့်အတွက် စာရေးတော်ကြီးများက ဆွဲရစ်နုံကာဝင်၍ တောင်းပန်ကြလေ၏။ သို့ရာတွင် ကျိချိန်သည် သူတို့စကားကိုလည်း နားမဝင်ချေ။

"ဒီလိုအပြုအမူမျိုးကို ခွင့်လွှတ်လိုက်သလား၊ မလွှတ်ထိုက်ဘူးလား ဆိုတာကို သူ့ကိုမေးကြည့်ကြစမ်း။ ဒီကောင်ကို ဖျက်ဆီးတဲ့အထဲမှာ ခင်ဗျားတို့လဲပါတယ်၊ ခုဒီလောက်ထိ သောင်းကျန်းရမ်းကားနေတာကိုတောင် ခင်ဗျားတို့က အကာအကွယ် ပေးချင်ကြသေးသလားဟင်။ ဒီကောင်က အဖေအမေကို သတ်ယင်တောင် ခင်ဗျားတို့ ကာကွယ်နေကြဦးမှာလား"

မိမိတို့သခင်ကြီးမှာ အကြီးအကျယ်ဒေါသထွက်လျက်ရှိသည်ကို တွေ့ရသည့်အခါတွင်စာရေးတော်ကြီးများသည်လည်းဆက်လက် တောင်းပန်ခြင်းမပြုရဲကြတော့ဘဲ အတွင်းဆောင်သို့သွား၍ အကြောင်းကြားမှတော်မည်ဟု ယူဆကာ အတွင်းဆောင်ဘက်သို့ ပြေးလာခဲ့ကြလေ၏။ သခင်မဝမ်သည် ထိုသတင်းကို ယောက္ခမဖြစ်သူ မယ်မယ်အား ချက်ချင်းမပြောရဲသေးချေ။ သခင်မဝမ်သည် အဝတ်အစားကို ခပ်သုတ်သုတ်လဲကာ စာကြည့်ဆောင်သို့ ပြေးလာခဲ့ရာ လမ်းတွင်ရှိသည့် အစေတော်များ၊ စာရေးတော်ကြီးများသည်လည်း ခပ်ဝေးဝေးသို့ ရှဲနေကြလေ၏။





ကြင်ယ တော်သခင်မဝမ် ရောက်လာသည်ကို မြင်သည့်အခါ၌ ကျိချိန်သည် ပို၍ဒေါသထွက်လာကာ သားကို ပို၍ပြင်းထန်စွာရိုက်နှက်ခြင်းပြု၏။ ပေါက်ယုကို ချုပ်ကိုင်ထားသည့် အစေခံနှစ်ယောက်သည် ချက်ချင်း နောက်သို့ဆုတ်သွားကြသည့်တိုင် ပေါက်ယုမှာ ရုန်းကန်လှုပ်ရှားမှု မပြုနိုင်တော့ချေ။ ကျိချိန်က နောက် ဆက်လက်ရိုက်မည်ပြုစဉ် သခင်မဝမ်သည် အတင်းဝင်ကာ ကြိမ်ကို လက်နှစ်ဖက်ဖြင့် ဖမ်းဆွဲထားလေ၏။

"ဒီလောက်ဆိုယင် တော်လောက်ပါပြီမြို့စားကြီးရယ်၊ ကျွန်မကို သေအောင်ယင်လဲ သတ်လိုက်ပါ"

"သင်းကို အသေသတ်မယ်။ သင်းလဲသေ၊ ငါလဲသေတော့ ကောင်းတာပေါ့"ဟု ကျိချိန်သည် ဒေါသထွက်လျက်ရှိလေ၏။

သခင်မဝမ်က ငိုရှိုက်လျက်

"ပေါက်ယုကိုရိုက်တာသင့်ရိုက်ပေါ့ မြို့စားကြီးရယ်၊ ဒါပေမယ့် ကိုယ့်ကိုယ်ကိုယ်လဲ ဒီလောက်စိတ်ဆင်းရဲမခံပါနဲ့။ နေကလဲသိပ်ပြင်းတယ်၊ ပြီးတော့ မယ်မယ်ကလဲ ကောင်းကောင်း ကျန်းမာတာ မဟုတ်ဘူး။ ပေါက်ယုကို သေအောင်ရိုက်တာတော့ ဟုတ်ပါရဲ့၊ ဒါပေမယ့် မယ်မယ်တစ်ခုခုဖြစ်သွားယင် ဒုက္ခရောက်မယ်၊ သတိထားပါ"

ကျိချိန်က ကြောက်မက်ဖွယ် လှောင်ရယ် ရယ်လိုက်လျက်

"တော်ပြီ၊ ငါ့ကိုလေချိုလာမသွေးနဲ့။ ဒီလိုသားဆိုးသားမိုက်မျိုးမွေးမိတာသည်းက ငါလဲ မိဘအပေါ်မှာ ကံကြီးဆိုက်နေပါပြီ၊ မထူးပေါ့ပါဘူး။ သင်းကို ငါ စည်းကမ်းတွေနဲ့ တင်းတင်းကျပ်ကျပ်လုပ်ခဲ့တယ်။ မင်းတို့ပဲ သူ့ကို အကာအကွယ်ပေးခဲ့ကြတယ်၊ နောက်ထပ် ဒုက္ခမပေးနိုင်အောင် သင်းကို လည်မျိုညှစ်သတ်ဖို့ပဲကောင်းတော့တယ်"

ထိုသို့ပြောပြီးနောက် ကျိချိန်သည် ကြိုးတစ်ချောင်းယူလာခဲ့ရန် ပြောလိုက်၏။ သခင်မဝမ်သည် ကျိချိန်ကိုပြေး၍ဖက်လိုက်ရင်း

"ကိုယ့်သားကိုယ်ဆုံးမတာတော့ ဟုတ်ပါရဲ့၊ ဒါပေမယ့် မြို့စားကြီးရယ်၊ ကျွန်မကိုမသနားတော့ဘူးလား၊ ကျွန်မအသက်ငါးဆယ်ရှိပါပြီ၊ ကျွန်မမှာ သားဆိုလို့ သူတစ်ယောက်ပဲရှိပါတယ်။ သူ့ကို ရှာကြံ

သလိုဆုံးမပါ၊ ကျွန်မ ဘာတစ်လုံးမှမပြောပါဘူး။ ဒါပေမယ့် ခု သူ့ကို သေအောင် ရိုက်တော့မယ်ဆိုတော့ ကျွန်မကိုလဲ သေအောင်လုပ်တာနဲ့ ဘာထူးသေးသလဲ။ သူ့လည်ပင်းကို ကြိုးစွပ်ပြီးသတ်မယ်ဆိုယင် ကျွန်မ လည်ပင်းကို ကြိုးတပ်သတ်ပြီးမှ သူ့ကိုသတ်ပါ၊ ကျွန်မကို အလျင်သတ် ပါ။ ကျွန်မတို့နှစ်ယောက်စလုံးကိုသတ်လိုက်ပါ။ ရှင့်ကို ကျွန်မ ဘာမှ မပြောလိုတော့ပါဘူး၊ ကျွန်မလဲ သားနဲ့အတူလိုက်သွားပါရစေ၊ ဒါမှ နောက်ဘဝမှာ ကျွန်မကိုရှာဖွေကျွေးမယ့်'သားလေးဆိုပြီး အားကိုးအား ထားလုပ်ရမှာ''

သခင်မ ဝမ်သည် ပေါက်ယုကို အတင်းဝင်ဖက်ကာ ငိုကြွေးလျက် ရှိလေ၏.

ကျိချိန်သည် သက်ပြင်းကြီးတစ်ချက်ကို ချလိုက်ကာ ဝင်ထိုင်လိုက် လေ၏။ မျက်ရည်ပေါက်ကြီးများသည် ပါးပြင်ပေါ်သို့စီးကျလာကြလေ ၏။ သခင်မ ဝမ်သည် ပေါက်ယုကိုဖက်ထားရာမှ ကြည့်လိုက်သည့်အခါ တွင် ပေါက်ယု၏မျက်နှာမှာ ဖြူရော်လျက်ရှိပြီး အသက်ရှူသံမှာလည်း ခပ်မျှင်းမျှင်းသာရှိတော့သည်ကိုတွေ့ရလေ၏၊ အစိမ်းရောင်အတွင်းခံအင်္ကျီ ဘောင်းဘီတို့မှာလည်း သွေးတို့ဖြင့် စိုရွှဲလျက်ရှိလေပြီ။ ပေါက်ယု၏ကိုယ်မှ အဝတ်အစားများကို လှန်ကြည့်သည့်အခါတွင် တင်ပါးနှင့် ခြေသလုံး များ၊ ပေါင်များမှာ ညိုမည်းလျက်ရှိကာ သွေးကွက်များ၊ ဒဏ်ရာများ ဖြင့် ပြည့်နှက်လျက်ရှိသည်ကို တွေ့ရလေ၏။

''အံမယ်လေး၊ ဖြစ်မှုဖြစ်ရလေ သားလေးရဲ့''ဟု သခင်မဝမ်သည် အော်လျက်ရှိလေ၏။

သားငယ်ကိုမြင်သည့်အခါတွင် သခင်မဝမ်သည် ကွယ်လွန်သူသား ကြီး ကျိချုကိုအမှတ်ရကာ ကျိချုအမည်ကိုရွတ်၍ငိုလျက်ရှိလေ၏။

''ငါ့သား၊ကြီးသာ ရှိသေးယင် ဒီပြင်လူတွေ မရှိတော့ငဲ မေဖျား ဖြေသာပါတယ်ဟဲ့''

သခင်မဝမ် ထွက်သွားသည့် အခါတွင် အတွင်းဆောင်များထဲ၌ လှုပ်လှုပ်ရွရွဖြစ်ကျန်ရစ်ခဲ့လေ၏။ ခဏကြာလျှင် လီဝမ်း၊ နတ်ငှက်မယ်၊ ယင်ချွန်း၊ တန်ချွန်း စသူတို့လည်းရောက်လာကြလေ၏။ ကျိချု၏အမည်ကို





ခေါ်၍ငိုနေသံကို ကြားသည့်အခါတွင် အခြားသူများအတွက် မည်သို့မျှ မထူးခြားသော်လည်း ကျိချု၏မိန်းမဖြစ်သူ လီဝမ်းမှာကားဖြေမဆည်နိုင် တော့ချေ။ သူတို့ဘာစ်တွေ ငိုနေကြသည်ကိုမြင်လျှင် ကျိချိန်မှာလည်း စိတ် ထိခိုက်ကာ ငိုလျက်ရှိလေ၏။

ထိုသို့ ရုတ်ရုတ်သဲသဲဖြစ်နေကြစဉ် အစေတော်တစ်ယောက်ရောက် လာကာ ''မယ်မယ် လာနေပြီ''ဟု ပြောလေ၏။

''ဘာဖြစ်ကြတာတုံးဟင်။ ငါ့ကိုအလျင်သတ်ကြ၊ ငါ့ကိုလာပြီး သတ်လှည့်ကြ၊ ငါသေမှအေးမယ်''ဟု တုန်တုန်ယင်ယင်နှင့်ပြောလာသံကို ကြားရလေ၏။

ကျိချိန်သည် စိတ်ပျက် ကြောက်ရွံ့စွာဖြင့် ထိုင်ရာမှထကာ အစေ တော်တစ်ယောက်ဆွဲလျက် မောကြီးပန်းကြီးဖြင့်ရောက်လာသည့်မယ်မယ် ကို ဆီးကြိုလေ၏။ ကျိချိန်သည် ကြောက်ရွံ့ရိုသေစွာ မယ်မယ့်အနီးသို့ ကပ်လာကာ

''ဒီလောက်ပူရတဲ့အချိန်မှာ ဘာဖြစ်လို့လာရတာလဲ မယ်မယ်ရယ်။ မယ်မယ်ပြောချင်တာရှိယင် ကျွန်တော့်ကို အခေါ်ခိုင်းလိုက်ပေါ့၊ ကျွန် တော် လာမှာပေါ့''

မယ်မယ်က အသက်ကို အနိုင်နိုင်ရှူလိုက်လျက်

''ကျိချိန်၊ နင် ငါ့ကိုပြောနေတာလား၊ ဟုတ်လား။ ဟုတ်တယ်၊ နင့်ကိုဆုံးမစရာရှိလို့ ငါလာတာ။ ဒါပေမယ့် ခက်တာက ငါ့မှာ ဆုံးမ လောက်အောင် လိမ္မာတဲ့သား တစ်ကောင်မှမမွေးခဲ့လို့ ခက်နေသဟဲ့''ဟု မျက်နှာထားဖြင့်ပြောလေ၏။

ကျိချိန်သည် မယ်မယ်၏စကားကြောင့် ထိတ်လန့်တုန်လှုပ်လျက်ရှိ ကာ မျက်ရည်စက်လက်ဖြင့် မယ်မယ့်ရှေ့တွင် ဒူးထောက်လျက်ရှိလေ၏။

''မယ်မယ့်သားက သူ့သားကိုဆုံးမတာဟာ ရှေးဘိုးဘွား အစဉ် အဆက် နာမည်မပျက်အောင်ဆုံးမရတာပါ မယ်မယ်ရယ်။ ကျွန်တော့်ကို ဒီလိုပြောလို့ မကောင်းပါဘူး''

မယ်မယ်က ထွေခနဲ တံတွေးထွေးလိုက်ပြီးနောက်

"ဩော်၊ ငါပြောတဲ့ စကားလေးတစ်ခွန်းလောက်ကိုတော့ နင်မခံနိုင်ဘူး။ စကားတစ်ခွန်းပြောတာလောက်တောင် နင်မခံနိုင်ယင် ကြိမ်တုတ်ကြီးနဲ့ အရိုက်ခံရတဲ့ကလေး ဘယ်လိုနေမလဲဟဲ့။ စဉ်းစားကြည့်စမ်း ကျိချိန်၊ ခုနင်က ရှေးဘိုးဘွားအစဉ်အဆက် ဂုဏ်သိက္ခာအတွက် နင်သား ကို ဆုံးမသတဲ့။ နင့်ကို နင့်အဖေ ဘယ်လိုဆုံးမခဲ့သလဲ ကိုဘာကော နင်ပြန်စဉ်းစားမိရဲ့လားဟင် ကျိချိန်ရဲ့"

မယ်မယ်၏မျက်လုံးတွင် မျက်ရည်တွေ ပြည့်လျှံလျက် ရှိသေ၏။

"စိတ်မဆိုးပါနဲ့ မယ်မယ်ရယ်၊ ကျွန်တော်စိတ်မထိန်းနိုင်ဖြစ်သွားလို့ပါ။ နောက်ဘယ်တော့မှ မရိုက်တော့ပါဘူး"

မယ်မယ်က ဟင်းခနဲ တစ်ချက်မဲ့လိုက်ကာ

"ငါ့ကိုတောင်းပန်စရာမလိုဘူး။ နင့်သားကိုနင်ရိုက်တာ ငါဝင်ပြောစရာလဲမလိုဘူး။ ငါသိတယ်၊နင်ဟာတစ်အိမ်လုံးအပေါ်မှာငြိ ငွေပြီး စိတ်တိုနေတာ။ ကောင်းပြီ၊ ရွှေလျှောက် နင်လဲဒီဒုက္ခဘောကို တွေ့ရတော့ မှာ မဟုတ်ပါဘူး၊ ငါ နင့်ဆီမှာမနေဘူး၊ သွားမယ်"

မယ်မယ်သည် အစေခံများအား မြင်းများနှင့် သန်လျင်းများကို ပြင်ရန် အမိန့်ပေးလိုက်ပြီးနောက်

"တဲ့ကောင်တွေ ကောင်မတွေ။ ငါနဲ့ ပေါက်ယု ဒီမှာမနေဘူး၊ နင်တို့သခင်မ ဝမ်လဲ ဒီမှာမနေဘူး၊ ငါနဲ့အတူ နန်ကင်းကို လိုက်နေလိမ့်မယ်။ ပြင်စရာရှိတာကို ပြင်ကြ"

အစေခံများနှင့် လက်ပါးစေများမှာ သူ့အမိန့်ကို နာခံယောင် လုပ်ပြကြရလေ၏။ ထိုနောက် မယ်မယ်သည် သူ့ချွေးမဖြစ်သည့် သခင်မ ဝမ်ဘက်သို့လှည့်ကာ

"ဟဲ့ မိဇမ်၊ ငိုမနေနဲ့။ ပေါက်ယုဟာ ကလေးပဲရှိသေးတယ်။ ညည်းသူ့ကိုချစ်တယ်၊ ဒါပေမယ့် တစ်နေ့ သူကြီးလာလို့ မွေးနန်းတော်





အမှုထမ်းကြီးတော့ဖြစ်ယင် ညည်းကိုလဲသတိရမှာမဟုတ်ဘူး၊ အဲဒီတော့မှ ညည်းရင်နာရလိမ့်မယ်။ ဒီတော့ နောင်မှာရင်မနာချင်ယင် ခုကတည်းက သူ့ကိုမချစ်နဲ့၊ မချစ်တာကပိုကောင်းတယ်"

ထိုစကားကိုကြားသည့်အခါ၌ ကျိချိန်သည် နဖူးကို ကြမ်းပြင်နှင့် ဆောင့်လျက်ရှိ၏။

"မယ်မယ်ရယ်၊ မယ်မယ်ကတောင်ဒီလိုပြောနေယင် ကျွန်တော် ဘယ်နေရာကို သွားနေစရာရှိသေးတော့လို့လဲ။ ဒီလောကကြီးမှာ ကျွန်တော်လဲ နေဖို့မကောင်းတော့ပါဘူး"

မယ်မယ်က သူ့ကိုမဲ့ပြုံးပြုံး၍ကြည့်လိုက်ပြီး

"ဒီလောကကြီးမှာ ငါနေစရာမရှိအောင်လုပ်တာ နင်လုပ်တာ။ ခုတော့ ငါ့ဖယ်ကပြောင်းပြန်ဆိုသလို နင်ကပဲ ပြောရသေးသလား။ မောင်မင်းကြီးသား စိတ်အေးချမ်းသာနေတော်မူပါ၊ ကျုပ်တို့သွားမှာ ပါ။ ကျုပ်မရှိတဲ့နောက်ကျတော့ မောင်မင်းကြီးသား ကြိုက်သလို ရိုက်ချင်တဲ့လူကို ရိုက်တော်မူပါ"

မယ်မယ်သည် အစေတော်များကို ရထားများ၊ မြင်းများအပြင် ခိုင်းပြီးလျှင် မောင်းယူလာရန်အမိန့်ပေးလိုက်၏။ ကျိချိန်က မူ မယ်မယ်ကို ရှိခိုးကာ သူ့ကိုခွင့်လွှတ်ရန် တတွတ်တွတ်တောင်းပန်လျက်ရှိ၏။

မယ်မယ်သည် သူ့သားကြီး ကျိချိန်ကို ရန်ထောင်ပြီးနောက် အရိုက်ခံရသည့်မြေးရှိရာသို့ရောက်လာကာ ဒဏ်ရာများကိုကြည့်၏။ ဒဏ်ရာ များကိုမြင်လိုက်ရသည့်အခါတွင် မယ်မယ်မှာ ပို၍ စိတ်ထိခိုက်ကာ ပို၍ ဒေါသထွက်လျက်ရှိ၏။ မယ်မယ်သည် ပေါက်ယုကိုဖက်ကာ ရှိုက်ကြီး တငင်ငိုကြွေးလျက်ရှိ၏။ သခင်မဝမ်နှင့် နတ်ငှက်မယ်တို့က ချော့မော့ သော်လည်း ချော့မော့၍မရနိုင်အောင်ဖြစ်လျက်ရှိ၏။ အစေတော်အချို့ သည် ပေါက်ယုကို လာ၍တွဲထူကြသည့်အခါတွင် နတ်ငှက်မယ်က

"ဟဲ့ ကောင်မတွေ၊ ဒီလောက်မှမမြင်ကြဘူးလားဟင်။ နင်တို့ မျက်စိတွေကန်းနေသလား၊ဒီလောက်နာနေတာ၊ ဘယ်မှာလမ်းလျှောက်

နိုင်ပါတော့မလဲ၊ သွား၊ ကြိမ်ထိုင်ဖုံအလေးသွားယူချေ၊ သူငယ်တော်တွေ ထမ်းလိမ့်မယ်''

အစေတော်များသည် ကြိမ်ထိုင်ဖုံကလေးကို ယူလာခဲ့ကြလေ၏။ ပေါက်ယုကို ကြိမ်ထိုင်ဖုံပေါ်တွင်တင်၍ မယ်မယ့်အဆောင်သို့ တင်သွားကြသည့်အခါတွင် မယ်မယ်နှင့်သခင်မဝမ်တို့သည်း နောက်မှ လိုက်ပါခဲ့ကြ၏။ မယ်မယ် ဒေါသထွက်လျက်ရှိနေသေးသဖြင့် ကျိချိန်မှာသည်း ထွက်မသွားရဲဘဲ နောက်ကလိုက်လာခဲ့၏၊ လိုက်လာရင်း ပေါက်ယု၏ အခြေအနေကိုသတိပြုမိရာ ဤဘစ်ကြိမ်တွင်မူ လက်လွန်သွားကြောင်းကို သိရလေ၏။ ကျိချိန်သည် ယခုအခါကျမှ ရှုံကြီးတငင်ငိုလိုက်လာသည့် သူ့ကြင်ယာတော် သခင်မဝမ်တို့ဘက်သို့ လှည့်ကြည့်မိ၏။

"သားလေးရယ်၊ နင်စောစောသေသွားယင်လဲအကောင်းသား။ ချင်ချွန်းမသေဘဲ နင်သေသွားယင်ကောင်းတယ်။ နင်စောစောသေယင် ငါတို့လဲ ဒီလောကစိတ်ဆင်းရဲရမှာမဟုတ်ဘူး၊ ငါလဲ ဒီလောကဒုက္ခခံရမှာမဟုတ်ဘူး။ ခုနေများ ကစ်ခုဖြစ်ယင် အခေ တစ်ယောက်ထည်းပဲ ကျန်ခဲ့တော့မှာ။ အသက်ကြီးလို့တောင် စောက်ပံ့မယ့်သူ ရှိတော့မှာမဟုတ်တော့ဘူး"

သခင်မဝမ်သည် ထိုသို့ငိုရင်း 'သားဆိုး သားမိုက်' ဖြစ်သည့် ပေါက်ယုကို ပြစ်တင်ဆူပူလာရာ ကျိချိန်မှာ ထိုအခါကျမှ မိမိသည် ပေါက်ယုကို ရက်ရက်စက်စက် ရိုက်နှက်ခဲ့မိလေပြီဟု တဖြည်းဖြည်း ဆင်ခြင်ပေါက်လာခဲ့၏။ ကျိချိန်က သူ့မိခင်ကိုလှည့်၍ တောင်းပန်သည့်အခါတွင် မယ်မယ်သည် သူ့ဘက်သို့လှည့်၍ကြည့်လိုက်ကာ

"ဟင်၊ နင်တာဖြစ်လို့လိုက်လာပြန်တာသဲ့။ ရိုက်ရတာ အားမရသေးလို့ နောက်ထပ်ရိုက်ချင်သေးလို့လား၊ သေမှသေရဲ့လားလို့ သေချာအောင်ကြည့်ချင်လို့ လိုက်လာတာလား"

သို့ဖြင့် ကျိချိန်သည် နောက်ထပ်မလိုက်ရဲတော့ဘဲ လှည့်ပြန်လာခဲ့ရလေ၏။

ထိုအချိန်၌ကား ဒေါ်လေးဆွေ့၊ ပေါက်ကြည်၊ ယင်လင်း၊ မာလာ၊ စမ်းယဉ် စသူတို့လည်းရောက်လာကြလေပြီ။ မာလာမှာ ဒေါသ





ထွက်လွန်းသဖြင့် ဆတ်သတ်တုန်လျက်ရှိ၏။ သို့ရာတွင် သူ့အဖြစ်ကို လူမသိအောင် မနည်းကြီးဖုံးဖိထားသည့်တိုင် ဖုံးဖိ၍ပင် မရတော့ချေ။ ပေါက်ယုအနီးတွင် လူတွေဝိုင်းအုံကာ အချို့ကရေခပ်ပေးကြ၏၊အချို့က ယပ်ခတ်ပေးကြ၏။ သို့ဖြင့် ဝိုင်း၍ပြုစုလျက်ရှိရာ မာလာမှာ ဘာလုပ်ရမည်မသိတော့အောင်ဖြစ်လျက် ရှိလေ၏။ ထို့ကြောင့် မာလာသည် အပြင်သို့ထွက်လာကာ အတွင်းဝင်းတံခါးဆီသို့လာခဲ့ပြီး သူငယ်တော်တစ်ယောက်အား ပေ့မင်းကို အရှာခိုင်းလိုက်၏။

"စောစောက ဘာသံမှမကြားရပါဘူး၊ ဘယ်လို ဖြစ်တာလဲ။ စောစောက ဘာဖြစ်လို့ အတွင်းဆောင်ဘက်ကိုလာပြီးမပြောတာသဲ"ဟု မာလာက ပေ့မင်း (ကျိချိန်၏သူငယ်တော်)ကို မေးလေ၏။

ပေ့မင်းမှာသည်း ထိတ်လန့်လျက်

"ကျွန်တော်ရှိတုန်းဖြစ်တာ အစ်မရဲ့။ ကျွန်တော်လဲ ဘာမှန်းမသိလိုက်ဘူး၊ ရိုက်သံကြားမှ ဘာ့မှသိတာ။ ကျွန်တော်လဲ အဲဒီတော့ လမ်းမှ ရှိသေးတယ် ဒါနဲ့ အဆောင်ပြန်ရောက်လို့ မေးကြည့်တော့၊ ချိကွမ်းကိစ္စနဲ့ ချင်ချွန်းတို့ကိစ္စကြောင့်လို့ ပြောတာပဲ"

"ဒီအကြောင်းတွေကို သခင်ကြီးက ဘယ်လိုလုပ် သိသွားတာတဲ့လဲ"

"ချိကွမ်းကိစ္စမှာတော့ အဓိကတာရားခံက အစ်ကိုသေးဆွေ့ဖန်ထင်တာပဲ။ အစ်ကိုလေးဆွေ့ဖန်က အရက်ပွဲတုန်းကသခင်လေးအပေါ်မကျေနပ်ဘာရှိထားတော့၊ အပြင်က တစ်ယောက်ယောက်ကို သွားသတင်းပေးပြီး သခင်ကြီးနားရောက်အောင် လုပ်တယ်ထင်တာပဲ။ ချင်ချွန်းကိစ္စကတော့ သခင်လေး ကျိဟုန်က သွားပြောလို့ သိသွားတာ"

သူပြောသည့် အချက်နှစ်ခုစလုံး ဖြစ်နိုင်သည်ဟု မာလာယူဆလိုက်၏၊ မာလာသည် ပေါက်ယုကို ဝိုင်းဝန်း ပြုစုနေကြသူများထံပြန်လာခဲ့လေ၏။ သူ့ကို ဝိုင်းဝန်းပြုစုပြီးသည့်အခါတွင် မယ်မယ်က ပေါက်ယုကို သူ့အခဆောင်သို့ ဂရုတစိုက် ထမ်းယူသွားကြရန် အမိန့်ပေးလိုက်

လေ၏။ ပေါက်ယုကို အားလုံး ဝိုင်းဝန်းပွေ့ကာ နီမောင်းဖျော့ဖွယ် ရိပ်သာရှိ သူ့ခန်းဆောင်သို့ ပြန်ပို့လိုက်ကြလေ၏။ အတန်ကြာပြောဆိုကြပြီးနောက် လူစုကွဲသွားကြလေ၏။ ထိုအခါကျမှသာလျှင် မာလာသည် ပေါက်ယုကို လွတ်လပ်စွာ ခြေဆုပ်သက်နယ် ပြုနိုင်တော့သည်။

မာလာ၏ မေးခွန်းများအား ပေါက်ယုက မည်သို့ ဖြေကြားပုံကို နောက်အခန်းတွင် ဖော်ပြထားပေ၏။



## အခန်း ၃၄

### သူချစ်ကြောင့် ပေါက်ယုအဖို့ ကိုယ်ချစ်ဖြစ်ရခြင်း။
### နာကြည်းဖွယ်စကားကြောင့် ပေါက်ကြည်သည်
### သူ့အစ်ကိုကို နာကြည်းမိခြင်း။

အခြားသူများ ပြန်သွားသည့်အခါ၌ မာလာသည် ပေါက်ယုအနီးတွင် ထိုင်ကာ မည်သည့်အတွက် ဤသို့ အရိုက်ခံရကြောင်းကို မျက်ရည်စက်လက်ဖြင့် မေးမြန်းခြင်းပြုလေ၏။

ပေါက်ယုက သက်ပြင်းချလိုက်လျက်

"အလကားပါ၊ မေးမနေစမ်းပါနဲ့။ အောက်ပိုင်းကတော့ တစ်ကိုယ်လုံးကို နာနေတာပဲ။ ကြည့်စမ်း၊ ဘယ်လောက်များသလဲဆိုတာ"

မာလာသည် ပေါက်ယုကိုယ်တွင် ဝတ်ထားသည့် အောက်ခံအဝတ်အစားတို့ကို ဖြည်းညင်းစွာချွတ်လေ၏။ သို့ရာတွင် ပေါက်ယုမှာ အကိုင်မခံနိုင်အောင်ဖြစ်ကာ ထိလိုက်သည်နှင့် အံကိုကြိတ်ပြီး ညည်းညူကော်ဟစ်လျက်ရှိသဖြင့် မာလာသည် အဝတ်အစားများကို မချွတ်တော့ဘဲ ရပ်ထားလိုက်၏။ သုံးလေးကြိမ်မျှကြိုးစား၍ ချွတ်သည့်အခါတွင်မှ ပေါက်ယုကိုယ်မှ အဝတ်အစားများကို ချွတ်၍ရတော့သည်။ ပေါင်တွင်

လက်တစ်ဝါးစာမျှရှိသော အရှိုးကြီးတွေထင်လျက် ရှိသည်ကို မြင်ရသဖြင့် မာလာသည် အံကိုကြိတ်ထားလိုက်မိလေ၏။

"ဘုရားရေ၊ ရက်စက်လိုက်တာနော်။ သခင်လေးကလဲ သခင်လေးကို ပြောတဲ့ စကားမှ နားမထောင်တာ။ မာလာ့စကားကို နားထောင်ယင် ဒီလိုအရိုက်ခံရမှာ မဟုတ်ဘူး။ အရိုးတွေဘာတွေကျိုးလို့ တော်သေးတာပေါ့၊ မတော်လို့ ကျိုးသွားပြီး တစ်သက်လုံး လူစဉ်မမီ ဖြစ်သွားယင် ဘယ့်နှယ်လုပ်မလဲ"

ထိုစဉ် ပေါက်ကြည်ရောက်လာလေ၏။ ပေါက်ယုကို အဝတ်အစားပြန်ဝတ်ပေးနေချိန် မရသဖြင့် မာလာသည် အနားကပ်ထားသည့် ဇာခြုံထည်တစ်ခုကို ပေါက်ယုကိုယ်ပေါ်သို့ လွှမ်းထားလိုက်ရလေ၏။ ပေါက်ကြည်သည် လက်ထဲတွင် ဆေးလုံးတစ်လုံးကို ကိုင်၍ ဝင်လာလေ၏။

"ညကျယင် ဒီဆေးလုံးကို အရက်နဲ့ဖျော်ပြီး လိမ်းလိုက်နော်။ ဒဏ်ရာက အပူငွေ့နဲ့ အဆိပ်တွေကို စုတ်ယူသွားလိမ့်မယ်"

ပေါက်ကြည်က မာလာကို ဆေးလုံးပေးပြီးနောက်

"ခုကော ဘယ့်နှယ်နေသေးသလဲ၊ သက်သာတယ် မဟုတ်လား ဟင်"

ပေါက်ယုက သက်သာကြောင်းပြောပြီးနောက် ပေါက်ကြည်ကို အထိုင်ခိုင်းလေ၏။ ပေါက်ယုမှာ မျက်လုံးကိုဖွင့်ပြီး ကောင်းစွာ စကားပြောနိုင်သည်ကို မြင်ရသည့်အခါတွင်မှ ပေါက်ကြည်မှာ စိတ်သက်သာရာရကာ ခေါင်းကိုညိတ်နေလေ၏။

ပေါက်ကြည်က သက်ပြင်းချလိုက်လျက်

"မလေးတို့ စကားတွေကိုနားထောင်ယင် မောင်ဒီလိုအရိုက်ခံရမှာ မဟုတ်ဘူး။ ခုတော့ မယ်မယ်ရော၊ ဒေါ်ကြီးဝမ်ရော စိတ်မကောင်းဖြစ်ကြရတယ်။ မောင့်အခြေအနေကိုမြင်ရတဲ့ မလေးတို့မှာလဲ စိတ်ထိခိုက်ရတယ်"





ပေါက်ကြည်သည် သူစိတ်ထိခိုက်သည်ကို ဖုံးကွယ်ရန် ကြိုးစားထားသော်လည်း ယခုကဲ့သို့ စိုးရိမ်တကြီးပြောလိုက်မိသည့်အခါတွင် သူ့အဖြစ်ကိုသတိရသွားကာ မျက်နှာတွင်ရှက်သွေးဖြာလျက်ခပ်အမ်းအမ်းဖြစ်သွားလေရာ သူ့အမူအရာမှာ တစ်မျိုးချစ်စရာ၊ စွဲမက်ဖွယ်ရာကောင်းနေလေ၏။ ပေါက်ကြည်သည် ရှက်ရှက်ဖြင့် မျက်နှာကိုငုံ့ကာ ပိုးခါးစည်းကြိုးကို လက်ချောင်းကလေးများဖြင့်ဆွဲနေပုံမှာ ချစ်စရာကောင်းလှသဖြင့် ပေါက်ယုမှာ ကိုယ့်ဒဏ်ရာကိုပင် မေ့ပျောက်သွားမိလေ၏။

"အင်း၊ ငါအရိုက်ခံရတာ မဖြစ်စလောက်ကလေးရယ်၊ ဒါပေမယ့် သူတို့မှာ ငါ့ကိုဝိုင်းပြီး သနားနေလိုက်ကြတာ။ ငါ့အပေါ်မှာတော်တော်ကြင်နာကြတာပဲ၊ ဘယ်လောက်များ ကြည်နူးစရာကောင်းလိုက်ပါသလဲ။ မတော်တဆများ ငါသေသွားလို့ရှိယင် သူတို့တစ်တွေမှာ ပူဆွေးသောကရောက်လို့ဆုံးမှာ မဟုတ်တော့ဘူး။ အေးလေ၊ သူတို့က ကြင်နာသနားကြတယ်ဆိုယင်၊ သူတို့အသည်းနှလုံးတွေကိုသာ ပိုင်ရမယ်ဆိုယင် ငါ့ဘဝမှာတာမှ ကြီးကြီးကျယ်ကျယ်မလုပ်ရသေးတာနဲ့ သေသွားတောင်မှသေပျော်ပါပြီ၊ သူတို့သွမ်းကျန်ရစ်ခဲ့ပြီး သေသွားမယ်ဆိုယင် တစ္ဆေဘဝရောက်တောင် ကျေနပ်ပျော်ရွှင်နေတဲ့ တစ္ဆေအဖြစ် ငါနေနိုင်ပါတယ်"

"မောင်ကဘာဖြစ်လို့ အရိုက်ခံရတာတဲ့လဲဟင်" ဟု ပေါက်ကြည်က မာလာကိုလှမ်းမေးလိုက်သည့်အသံကိုကြားသည့်အခါတွင်မှ ပေါက်ယု၏ အတွေးများသည် ပြတ်သွားကြ၏။

မာလာက သူငယ်တော်ပေ့မင်းထံမှ ကြားခဲ့ရသည့် သတင်းကို ပြန်ပြောပြ၏။ ထိုအခါကျမှ ကျိဘုန် ကုန်းတိုက်ခြင်း ဖြစ်ကြောင်းကို ပေါက်ယု ပထမဆုံးသိရလေ၏။ သို့ရာတွင် ဆွေဖန်ကြောင့်ဖြစ်ရသည်ဟု ပြောလိုက်သဖြင့် ပေါက်ကြည် စိတ်ထိခိုက်သွားလေမည်လောဟု တွေး၍ စိုးရိမ်လျက်ရှိလေ၏။

"အစ်ကိုဆွေဖန်ဟာ ဒါမျိုး ဘယ်တော့မှ မလုပ်ပါဘူး၊ ထင်ရာတွေ လျှောက်ပြောမနေပါနဲ့" ဟု ပေါက်ယုက ဝင်၍ဟန့်လိုက်၏။

မာလာအား အဘယ့်ကြောင့် ဝင်၍ ဟန့်လိုက်ဖြစ်ကြောင်းကို ပေါက်ကြည် ရိပ်မိလိုက်သေ၏။

"ဩော် မောင်လေးပေါက်ယုဟာ ဘယ်လောက် အကင်းပါးသလဲ၊ ဘယ်လောက် အလိုက်သိသလဲ၊ သူ့မှာ သေကောင်ပေါင်းလဲ အရိုက်ခံရလို့ အပြင်းအထန် နာကျင်နေတဲ့ကြားထဲကတောင်မှ ငါ့ စိတ်မကောင်းမှာစိုးလို့ လိုက်ပြီး ဖုံးဖုံးဖိဖိလုပ်ပေးနေရှာသေးတယ်။ မလေးတို့ စိတ်ထိခိုက်မှာကို ဒီလောက်တောင် စိုးရိမ်တတ်ယင် အပြင်မှာလဲ ဘာဖြစ်လို့ ကောင်းကောင်းမနေတာလဲ မောင်ရယ်။ မောင်ဒီလိုနေမယ်ဆိုယင် ခမည်းတော်ကြီးကလဲ ကျေနပ်မယ်၊ ဒီလိုလဲ အရိုက်ခံရမှာ မဟုတ်ဘူး။ မောင်က မလေးစိတ်ထိခိုက်မှာစိုးလို့ မာလာပြောနေတဲ့စကားကို ဝင်ဟန့်တယ်၊ ဒါပေမယ့် မောင်ရယ်၊ မလေးရဲ့အစ်ကို ဆွေ့ဖန် ဘယ်လိုသောင်းကျန်းတယ်၊ ဘယ်လိုရမ်းကားတယ်ဆိုတာကို မလေး မသိဘူးလို့များ ထင်နေသလား။ သိပါတယ်၊ မလေး ကောင်းကောင်းသိပါတယ်။ ချင်ချွန်းကြောင့် ဒီလောက်ဖြစ်ရတယ်ဆိုယင် နောက်မှာ ဒီထက် ဆိုးဆိုးရွားရွားတွေဖြစ်မှာကို မလေး စိုးရိမ်လိုက်ပါဘိတော့"

ထိုသို့တွေးပြီးနောက် ပေါက်ကြည်သည် မာလာဘက်သို့ လှည့်၍ ပြုံးလျက်ဖြင့်

"ဟိုလူကြောင့်၊ ဒီလူကြောင့်လို့ ပြောမနေပါနဲ့တော့မာလာရယ်၊ မောင်က အနေအထိုင်မှား၊ အပေါင်းအသင်း မှားတော့ ဦးကြီးကျီချိန်က စိတ်ဆိုးပြီးရိုက်တာပါ၊ အစ်ကို ဆွေ့ဖန်က သွားပြောတယ်ဆိုယင် စေတနာနဲ့ပြောတာဖြစ်မှာပါ၊ မလိုမုန်းထားတဲ့စိတ်နဲ့ ပြောတာတော့ ဟုတ်မယ်မထင်ပါဘူး။ ပြီးတော့ အဖြစ်အပျက်ကလဲ အမှန် ဖြစ်နေတာကိုး။ အစ်ကိုဆွေ့ဖန်ဟာ ဒီလို အတင်းအဖျင်း တွေကို ပြောတတ်တဲ့ လူစားတော့မဟုတ်ပါဘူး။ မောင်ကတော့ ပြောသင့်တဲ့စကားမှ ပြောတယ်၊ တစ်ဘက်သားကို ထောက်ထားတယ်၊ အစ်ကိုဆွေ့ဖန်ကတော့ မှန်တယ်ထင်ယင် ဘယ်သူ့ကိုမှမကြောက်ဘဲ ဟောဟောဒိုင်းဒိုင်း ပြောတတ်လို့ပါ။ ဒါ့ကြောင့်မို့ ဦးကြီးကျီချိန်ကို သွားပြောမိတာ ဖြစ်ပါလိမ့်မယ်"

ဆွေ့ဖန်အကြောင်းကို ပြောဆိုနေ၍ ပေါက်ယုက ဝင်ဟန့်လိုက်ကတည်းက မိမိစကားများကြောင့် ပေါက်ကြည် အနေရအထိုင်ရ ခက်တော့မည်ကို ရိပ်မိလိုက်ရာ ပေါက်ကြည်က ထိုသို့ပြောလိုက်သည့်အတွက်





မာလာမှာ ပို၍အနေရခက်သွားလေ၏။ ပေါက်ကြည်မှာ အမှန်ကို ပြောနေသည့်တိုင် မိမိသည် အားနာခြင်းမဖြစ်ရအောင် ဖြေ၍ပြောနေခြင်းဖြစ်သည်ဟု ပေါက်ယု သဘောပေါက်လိုက်လေ၏။ ထို့ကြောင့် မိမိအစ်ကို၏အဖြစ်လည်းပေါ်လာအောင်၊ ပေါက်ယုသည် အနေအထိုင်ရခက်ခြင်း မရှိလေအောင် ဖြေ၍ပြောတတ်သည့် ပေါက်ကြည်ကို ကြည့်၍ သနားလျက်ရှိလေ၏။ သို့ရာတွင် ပေါက်ယုက မည်သို့မျှ မပြောရသေးမီ ပေါက်ကြည်သည် ပြန်ရန် ထိုင်ရာမှ ထလိုက်သည်။

"မနက်ဖြန်မှ တစ်ခေါက်လာကြည့်ဦးမယ်လေ။ ကောင်းကောင်း အိပ်လိုက်ပါ၊ မောင်လိမ်းဖို့ဆေးကို မာလာကိုပေးပစ်ခဲ့တယ်၊ လိမ်းလိုက်ယင် သက်သာမှာပါ"

ထိုသို့ပြောပြီး ပေါက်ကြည်သည်ပြန်သွား၏။ မာလာက သူ့ကို အပြင်ဘက်ဝင်းပေါက်အထိ လိုက်ပို့၏။

"ဒုက္ခပြီးလာမေးတာ ကျေးဇူးတင်ပါတယ်မလေးရယ်၊ သခင်လေး နေထိုင်ကောင်းလို့ရှိယင် ကိုယ်တိုင်လာပြီးကျေးဇူးတင်စကားပြောပါလိမ့်မယ်"

ပေါက်ကြည်က ပြုံး၍လှည့်ကြည့်လိုက်ရင်း

"မလေးကို ကျေးဇူးတင်ဖို့မလိုပါဘူး၊ သူ့ကိုသာ ကောင်းကောင်းအနားယူဖို့ပြောပါ။ ပြီးတော့ စိတ်ကိုလဲ ငြိမ်ငြိမ်ထားပါလို့၊ ဟိုတွေးဒီတွေး လျှောက်တွေးမနေနဲ့လို့။ မလေးအနေနဲ့တော့ မယ်မယ်ရော၊ ဒေါ်ကြီးဝမ်ရော အို ဘယ်သူဖြစ်ဖြစ် စိတ်ထိခိုက်တာ၊ စိတ်ညစ်တာ မမြင်ချင်ဘူး။ တော်တော်ကြာ ဦးကြီးချိန်နားကို ရောက်သွားယင် ရှေးလာသောဆယ်မှ ဘာမှမလုပ်သေးယင်တောင် နေပြန်ကောင်းလာယင် ရိုက်နေလိမ့်ဦးမယ်"

ထိုသို့ပြောပြီးနောက် ပေါက်ကြည်သည် ပြန်သွား၏။ မာလာသည် ပေါက်ကြည်ကို စိတ်ထဲမှကျေးဇူးတင်ရင်း ပေါက်ယုထံသို့ပြန်လာခဲ့၏။ အခန်းသို့ပြန်ရောက်သည့်အခါတွင် ပေါက်ယုမှာ အိပ်ပျော်လျက်ရှိသည့်အတွက် မာလာသည် တစ်ဘက်ခန်းသို့ကူးလာကာ ကိုယ်လက်သန့်စင်လျက်ရှိလေ၏။

ပေါက်ယုသည် အိပ်ရာပေါ်တွင် တတ်နိုင်သမျှ ငြိမ်ငြိမ်နေသည့်တိုင် သူ့တင်ပါးမှာ မီးစကြီးဖြင့်ထိုးသကဲ့သို့သည်းကောင်း၊ အပ်ချွန်များဖြင့် ပေါက်သကဲ့သို့သည်းကောင်း၊ ဓားပါးပါးဖြင့် မွန်းသကဲ့သို့လည်းကောင်း နာကျင်လျက်ရှိကာ လှုပ်လိုက်မိသည်နှင့် တညည်းညည်းဖြစ်လျက်ရှိလေ၏။ မှောင်စပျိုးလာခဲ့လေပြီ။ မာလာလည်း မရှိတော့သဖြင့် မိမိအလိုရှိလျှင်ခေါ်မည်ဟုပြောကာ ကျန်အစေတော်များကိုလည်း ပြန်လွှတ်လိုက်၏။

အိပ်ငိုက်လျက်ရှိစဉ် အိပ်မက်ထဲ၌ ချိကွမ်းရောက်လာပြီး သူ့အားချုံရှန်းမင်းသားကြီး၏ဝင်းမှူးက လာရောက်ဖမ်းဆီးသွားသည်ဟု လာပြောကြောင်း မြင်မက်လေ၏။ ထိုနောက်ချင်ချွန်းသည် မျက်ရည်စက်လက်ဖြင့်ပေါ်လာကာ အဘယ့်ကြောင့် ရေတွင်းထဲသို့ ခုန်ဆင်းသတ်သေကြောင်း လာပြောသည်ဟုမြင်မက်ပြန်သေ၏။ သို့ဖြင့် ပေါက်ယုသည် ပျော်တစ်ဝက်၊ နိုးတစ်ဝက်ဖြစ်လျက်ရှိစဉ် ရှိုက်သံတစ်ခုကို ကြားလိုက်သည်ဟုထင်လိုက်ရသဖြင့် အလန့်တကြားမျက်လုံးကိုဖွင့်ကြည့်လိုက်သည့်အခါတွင် ထိုက်ယုကိုတွေ့ရ၏။ အစတွင် ပေါက်ယုသည် အိပ်မက်မက်သည်ဟုထင်လိုက်မိသေး၏။ ပေါက်ယုသည် ခေါင်းထောင်ထလိုက်ကာ သေချာစွာကြည့်လိုက်၏။ ထိုက်ယု၏မျက်လုံးများမှာ မို့လျက်ရှိပြီး မျက်ရည်တွေစွန်းထင်းလျက်ရှိ၏။ ထိုက်ယုဖြစ်ကြောင်း သံသယရှိစရာ မလိုတော့ပြီ။ ပေါက်ယုသည် ထိုက်ယုကိုငေး၍ကြည့်နေစဉ် ဒဏ်ရာကနာလွန်းသဖြင့် ခေါင်းမဆောင်နိုင်တော့ဘဲ ညည်း၍ပြန်လှဲချလိုက်၏။

"ဘာလို့လာရတာလဲ မလေးရယ်။ နေဝင်သွားပေမယ့် မြေကြီးကတရှိန်ရှိန်ပူနေတုန်းပဲရှိသေးတယ်၊ မြေငွေ့ဟပ်လို့ ပြန်ပြီးနေထိုင်မကောင်းဖြစ်နေဦးမယ်။ မောင်အရိုက်ခံရဘာ ဒီလောက်မနာပါဘူး၊ မေဖျားဆီသတင်းပေါက်သွားအောင်ဆိုပြီး သူတို့ရှေ့မှာ တမင် နာချင်ဟန်ဆောင်နေတာပါ၊ ဒီလောက်စိတ်မပူပါနဲ့"

ထိုက်ယုသည် အသံထွက်၍ငိုခြင်း မပြုတော့ချေ။ ထိုက်ယုသည် ငိုချင်စိတ်ကိုမျိုသိပ်ကာ ချုပ်တည်းထားလျက် ရှိသဖြင့် အသက်ကိုမှ ကောင်းစွာမရှူနိုင်ဘဲ ဆို့နစ်လျက်ရှိ၏။ ထိုက်ယုသည် ပေါက်ယုကို





ပြောစရာစကားတွေ ရင်နှင့်အပြည့်ရှိ၏။ သို့ရာတွင် ပါးစပ်မှ တစ်ခွန်းမျှ ထွက်မလာကြချေ။ နောက်ဆုံးတွင် ထိုက်ယုက ငိုရှိုက်လိုက်ရင်း

"နောင်မှာ ဒီလိုမလုပ်ပါနဲ့တော့မောင်ရယ်"

ပေါက်ယုက သက်ပြင်းရှည်ကြီး ကိုချလိုက်လျက်

"ဒီလောက်လဲစိတ်ပူမနေပါနဲ့ မလေးရယ်၊ ဒါတွေက ဒီလောက်အရေးမကြီးပါဘူး၊ သူတို့လိုလူတွေအတွက် မောင်ပျော်ပျော်ကြီးသေရဲပါတယ်။ မောင် ခု ဘာမှမဖြစ်သေးပါဘူး"

ထိုစဉ် ဝင်းဝတွင်တာဝန်ကျသည့် အစေတော်များ ရောက်လာကာ နတ်ငှက်မယ်သခင်မလေးလာကြောင်းဖြင့် ပြောဆို၏။ ထိုက်ယုက ထိုင်ရာမှ ရုတ်ခနဲထလိုက်၏။

"မလေး နောက်ဖေးပေါက်ကထွက်သွားမယ်လေ။ ပြီးတော့မှ တစ်ခေါက်ပြန်လာခဲ့မယ်"

ပေါက်ယုက ထိုက်ယုလက်ကိုလှမ်းဆွဲလိုက်လျက်

"ဘာဖြစ်လို့နောက်ဖေးပေါက်က ထွက်ရမှာလဲ မလေးရဲ၊ သူ့ကို ဘာကြောက်စရာရှိသလဲ"

ထိုက်ယုက စိတ်ပျက်လက်ပျက်ဖြင့် ခြေကိုဆောင့်လိုက်ပြီး

"မောင်ကလဲ သိပ်ခက်တာပဲနော်၊ မလေးရဲ့မျက်လုံးတွေလဲကြည့်ဦးရှင့်၊ မျက်ရည်တွေနဲ့။ တော်တော်ကြာ မလေးငှက်မယ်မြင်သွားယင် သူများကို လှောင်နေဦးမယ်" ဟု ခပ်တိုးတိုးပြော၏။

ပေါက်ယုက လွှတ်ပေးလိုက်သည့်အခါ၌ ထိုက်ယုသည် ပေါက်ယု၏ ခုတင်ဘေးမှ ကွေ့ပတ်ကာ နောက်ဖေးသို့ဝင်သွားလေ၏။ ထိုအခိုက်တွင် နတ်ငှက်မယ်သည် အရှေ့ဘက်မှ ဝင်လာလေ၏။

"ဘယ့်နှယ်လဲ မောင်၊ သက်သာပြီလား။ တစ်ခုခုစားချင်ယင် လူလွှတ်ပြီး မလေးငှက်မယ်ဆီကို အပြောခိုင်းလိုက်နော်"

ထိုနောက်တွင် ဒေါ်လေးဆွေ့ရောက်လာ၏။ တစ်ဖန်အခြေအနေကို မေးမြန်းရန် ယေမယ်က လွှတ်လိုက်သည့် အစေတော်များ ရောက်လာကြပြန်သည်။ မီးထွန်းချိန်ရောက်သည့်အခါတွင် ပေါက်ယုမှာ ဟင်းချိုရည် နှစ်ဇွန်းသုံးဇွန်းလောက် သောက်ပြီး အိပ်ငိုက်စပြုလာလေပြီ။ ထို

နောက် ပစ္စည်းထိန်း ချယ္ယဝီ၏ မိန်းမ ဟူလုံ့တိန်၊ ချိန်ဟုတ်ရှိ စသော သက်ကြီး အခစတော်ကြီးများ ရောက်လာကာ သတင်းလှာရောက်မေးကြလေ၏။ ယင်းတို့မှာ အလုပ်ပြီးလျှင် ထိုသို့ရောက်သာကာ စကားစမြည် ပြောသော့ရှိကြ၏။ မာလာသည် သူတို့အားလုံးကို ပြုံးပြုံးရွှင်ရွှင်ဖြင့် ဆီးကြိုကာ အခန်းထဲသို့ ခေါ်လာခဲ့လေ၏။

မာလာက ခပ်တိုးတိုးဖြင့်

"အကြီးကိုသာတာ နည်းနည်း နောက်ကျသွားတယ်ရှင့်၊ ခုနင်ကလေးပဲ သခင်လေး အိပ်ပျော်သွားတယ်"

မာလာသည် သူတို့ကို အပြင်ခန်းတွင် ထိုင်ခိုင်းကာ လက်ဖက်ရည်ဖြင့် ဧည့်ခံ၏။ အခစတော်အဘွားကြီးများလည်း ခဏမျှ တိတ်ဆိတ်စွာ ထိုင်နေကြပြီးနောက် သူတို့လာကြောင်း ပြောရန် မှာကြားပြီး ပြန်သွားကြလေ၏။

မာလာသည် သူတို့ကို နှုတ်ဆက်ပြီးနောက် အခန်းထဲသို့ ပြန်ဝင်လာခဲ့ရာ ခန်းကူးစကြံ အလေထဲသို့ရောက်လျှင် သခင်မကြီးဝမ်၏ အခစတော်တစ်ယောက်ရောက်လာပြီး သခင်လေးပေါက်ယု၏ အခစတော်တစ်ယောက်ယောက်ကို တွေ့လိုကြောင်းဖြင့် အခေါ်ခိုင်းလိုက်ကြောင်း ပြောဆိုလေ၏။ မာလာသည် လျင်မြန်စွာ ဆုံးဖြတ်လိုက်၏။ ထိုနောက် ချင်ဝမ်၊ ရှော့ယွေ့၊ တန့်ယွန်းနှင့် ချုဝမ်းတို့ဘက်သို့ လှည့်လိုက်ပြီးလျှင်

"တို့အထဲက တစ်ယောက်လာခဲ့စမ်းလို့ သခင်မကြီးက ခေါ်နေတယ်။ ညည်းတို့ ဒီမှာ စောင့်ကြည့်နေရစ်ခဲ့ကြ။ ငါ ခဏနေယင် ပြန်လာခဲ့မယ်"

မာလာသည် အဖော်တစ်ယောက်ကိုခေါ်ကာ ဥယျာဉ်ထဲမှထွက်၍ သခင်မ၏ အဆောင်များဘက်သို့ လာခဲ့လေ၏။ ထိုခုံးပေါ်တွင်ထိုင်ကာ ထန်းရွက်ယပ်တောင် တစ်ချောင်းဖြင့် ယပ်ခတ်နေသည့် သခင်မကြီးဝမ်ကို အဆင်သင့် တွေ့ရလေ၏။

သခင်မဝမ်က

"ဘာဖြစ်လို့ ညည်းကိုယ်တိုင်လာသလဲအေ၊ တစ်ယောက်ယောက်ကို လွှတ်လိုက်ရောပေါ့။ ညည်းမရှိယင် သူ့ကို ဘယ်သူစောင့်ကြည့်မှာလဲ"





မာလာက စိတ်အေးလက်အေးဖြင့်

"သခင်လေး နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်နေပါတယ်။ ဒီပြင်အခစတော်တွေ ကြည့်ပါလိမ့်မယ်၊ စိတ်မပူပါနဲ့ သခင်မကြီး။ တခြားအခစတော်တွေကို လွှတ်လိုက်ယင် မရေမရာနဲ့ ကောင်းကောင်း နားမလည်မှာစိုးလို့၊ မာလာကိုယ်တိုင် လာခဲ့တာပါ"

"အထူးအထွေကိစ္စရှိလို့တော့မဟုတ်ပါဘူးအေ၊ အခြေအနေကို သိချင်လို့ခေါ်တာပါ"

"မလေးပေါက်ကြည်က လိမ်းဆေးလာပေးလို့ လိမ်းပေးတာ ခုဆိုယင် တော်တော်လေးကို သက်သာနေပါပြီ၊ အစတုန်းကတော့ နာလွန်းလို့ သိပ်အိပ်လို့ မရဘူးရှင့်၊ ခုတော့ အိပ်လို့လဲရပါပြီ"

"အစားအသောက်ကော"

"မယ်မယ်ပို့လိုက်တဲ့ ဟင်းချိုရည် နှစ်ဇွန်းသုံးဇွန်းပဲ သောက်ပါတယ်၊ အာခေါင်တွေကွဲပြီး ခြောက်နေလို့ ဆီးချဉ်ရေသောက်ချင်တယ်လို့ ပြောပါတယ်။ ဒါပေမယ့် မာလာစဉ်းစားလိုက်တာက အချဉ်ကချုပ်တတ်တယ်၊ ခုနေခါမှာ အရိုက်ခံထားရတော့ ဒဏ်ရာတွေကြောင့် ချွေးတို့၊ သလိပ်တို့ကို ကောင်းကောင်း ထွေးထုတ်နိုင်မှာမဟုတ်ဘူး၊ အူသိမ်အူမတွေထဲမှာ ရောက်နေမယ်။ ဒီတုန်းမှာ ဆီးချဉ်ရည်လို ချုပ်တဲ့အစာတွေကို စားလိုက်သောက်လိုက်ယင် ဒုက္ခရောက်နိုင်တယ်လို့ မာလာတွေးမိပါတယ်။ ဒါနဲ့ ဒါတွေကိုချည်း တိုက်နေလို့တော့ မဖြစ်ချည်ဘူး ဆိုပြီး ဆီးချဉ်ရည်တွေမသောက်ဖို့ ပြောင်းဖွင့်ပြီး ပြောပါတယ်။ နောက်တော့ မာလာက ယိုဆိုးထားတဲ့ နှင်းဆီပွင့်ဖတ်ယို ကျွေးပါတယ်။ နှင်းဆီပွင့်ယိုကို ခံတွင်းမတွေ့ဖူးတဲ့၊ ဒါပေမယ့် ပန်းကန်ဝက်လောက်တော့ ကုန်သွားပါတယ်"

သခင်မဝမ်က

"ဒီလိုဆို စောစောက ငါ့ကို အကြောင်းကြားရော့ပေါ့အေ။ တစ်နေ့ကတွင် ငါ့မှာ ပန်းမွှေးရည် နှစ်ပုလင်းရလို့ သူ့ဆီကို ပို့မယ်လို့စိတ်ကူးမိသေးတယ်။ ဒါပေမယ့် သူကြိုက်ချင်မှကြိုက်မှာ၊ မကြိုက်ယင် အလဟဿဖြစ်နေလိမ့်မယ်ဆိုပြီး မပို့ဖြစ်တာ။ နှင်းဆီပွင့်ဖတ်ယိုကို မကြိုက်ယင်

ပန်းမွှေးရည်ကို တိုက်ကြည့်မယ်၊ ရောစ်ဖန်ခွက်မှ ဇွန်းကလေးတစ်ဇွန်းလောက်ထည့်ရတယ်။ ဟဲ့၊ တစ်နေ့က ယူလာတဲ့ ပန်းမွှေးရည်ပုလင်းတွေ သွားယူချည်စမ်း'' ဟု အစေခံတော်ဆိုင်ယွန်းကို ခိုင်းလိုက်လေ၏။

မာလာက

''နှစ်ပုလင်းစလုံးဆိုတော့ များပါတယ် သခင်မကြီးရယ်၊ တော်တော်ကြာ အလဟဿ ဖြုန်းကုန်လိမ့်ဦးမယ်။ မာလာတို့လဲ ဧမြဲလာနေတာပဲ၊ ကုန်မှ ထပ်ပြီးအယူခိုင်းလိုက်ပါမယ်''

ခဏကြာလျှင် ဆိုင်ယွန်းသည် နှင်းမွှေးရည်ပုလင်းနှစ်လုံးကို ယူ၍ ပြန်လာလေ၏။ ပုလင်းနှစ်ပုလင်းမှာ ငွေငင် အရွယ် ဖိုက်ကလေးများ ငပ်ထားပြီး သုံးလက်မလောက်သာရှိသည့် ပုလင်းငယ်ကလေးများဖြစ်လေ၏၊ ပုလင်းတွင် အဝါရောင် ကြေးတံဆိပ်ကလေးများကိုလည်း ကပ်ထားလေ၏။ တစ်လုံးပေါ်တွင် 'နှင်းညိုပန်းစေ့စေ့'' ဟု ရေးထားပြီး နောက်တစ်ပုလင်းတွင်မူ ''နှင်းဆီညိုစေ့စေ့'' ဟု ရေးထားလေ၏။

''အံမယ်လေး၊ အဖိုးတန်လိုက်တာ သခင်ကြီးရယ်။ ဒီပုလင်းသေးသေးကလေးတွေဆိုတော့ ဘယ်လောက်ပါမှာလဲ'' ဟု မာလာကရယ်၍ ပြောလေ၏။

''ရွှေနန်းတော်ကြီးမှာ သုံးတာ ဟဲ့၊ တံဆိပ်အဝါကို ကြည့်ပါလား။ သေသေချာချာသိမ်းထားနော်၊ အလကားဖြစ်ပေးစေနဲ့''

မာလာကဝန်ခံပြီးနောက် ပြန်ထွက်မည်ပြုစဉ် သခင်မဝမ်က

'ဩ၊ ညည်းကို တစ်ခုမေးရဦးမယ်''

သခင်မဝမ်သည် အနီးတွင်လူသူရှိမရှိကိုသေချာအောင်ကြည့်လိုက်ပြီးနောက်

''ပေါက်ယုကိုသူ့အဖေက ရိုက်တာ ကျိဟုန်ကပြောလို့ရိုက်တာဆို။ ညည်းကော ကြားသလား၊ ကြားရင် ဘာကြောင့် ရိုက်ထားတဲ့လဲအေ၊ ငါ့ကို ပြောပြစမ်းပါဦး။ သိရင် ပြောပါပြီလေ၊ ငါ ဘယ်သူ့ကိုမှ ရန်လုပ်ဖို့ မေးတာမဟုတ်ပါဘူး။ ညည်းဆီက ကြားရတယ်လို့လဲ ဘယ်သူ့ကိုမှ မပြောပါဘူး''





''ဟင့်အင်း၊ အဲဒါတော့ မာလာမကြားဘူး သခင်မကြီး။ မာလာကြားတာကတော့ သခင်လေးက ရွှေနန်းတော်ကြီးက မင်းသားတစ်ပါးရဲ့ နန်းဆောင်က ဇာတ်မင်းသား တစ်ဦးကို ခေါ်ထားတဲ့အတွက် ရွှေနန်းတော်ကြီးက မင်းသားရဲ့အဆောင်က အရာရှိတွေလာပြီး သခင်ကြီးကို လာတိုင်တယ်လို့ပဲ ကြားရတာပဲ'

သခင်မဝမ်က ခေါင်းကိုယမ်းလိုက်ရင်း

''ဒါက အကြောင်းတစ်ခုပေါ့အေ။ ဒါပေမယ့် ဒီပြင်အကြောင်းတစ်ကြောင်းရှိသေးတယ်အေ့''

''အဲဒါတော့ မာလာဘာမှမသိပါဘူး သခင်မကြီး။ သခင်မကြီးဆီကို ရောက်လာတုန်း တစ်ခုတော့ပြောချင်တယ် သခင်ကြီး ခွင့်ပြုမှာလား။ အကြောင်းက....''

မာလာက စကားကို အဆုံးမသတ်ဘဲ ရပ်ထားလိုက်၏။

''ပြောပါ'

မာလာက ခပ်ပြုံးပြုံးဖြင့်

''ဒီစကားကိုမ အပြောရဲတယ်ဆိုပြီး မာလာ့ကို စိတ်မဆိုးနဲ့နော် သခင်မကြီး''

''မဆိုးပါဘူးအေ၊ ပြောမှာကို ပြောစမ်းပါ''

''အမှန်ကတော့ သခင်လေးကို ကုပ်ကုပ်ညှပ်ညှပ် ဆုံးမပဲ့ပြင်ဖို့ လိုလိမ့်မယ်ထင်တယ် သခင်မကြီး။ သခင်မကြီးသာ မဆုံးမဘူးဆိုယင် သခင်လေး ရှေ့ရေးကို မာလာမတွေးရဲဘူး''

သခင်မဝမ်သည် လက်ခုပ်တီးလိုက်လျက်

''ဖြစ်မှဖြစ်ရပလေအေ ငါ့မှာ ဘာများလဲလို့'' ဟု ဆိုကာ နောက်ထပ် ကြားလိုသေးသည့်အတွက် သခင်မကြီးဝမ်က

'အင်း မာလာ၊ မာလာ၊ ညည်းကတော့ နားလည်မှုရှိပါတယ်အေ၊ ညည်းစေတနာကို ငါနားလည်ပါတယ်။ ဟုတ်ပါတယ်၊ ညည်းပြောသလို ပေါက်ယုကိုဆုံးမပဲ့ပြင်ဖို့ လိုတယ်ဆိုတာ မှန်ပါတယ်။ သူ့အစ်ကိုကြီး ကျိချုတုန်းက ငါ ဘယ်လောက် စည်းကမ်းနဲ့ တင်းတင်းကျပ်ကျပ်အုပ်ချုပ်ခဲ့သလဲဆိုတာ ငါခုထိ မမေ့ပါဘူး။ ဒါပေမယ့် သူ့

ကို အလိုလိုက်ခဲ့တာကတော့ အကြောင်းမဲ့သက်သက် အလိုလိုက်တာ မဟုတ်ပါဘူးအေ၊ ငါ့အကြောင်းနဲ့ငါ အလို လိုက်ခဲ့တာပါ။ ခုဆိုယင် ငါအသက် ငါးဆယ်ပြည့်ပြီ၊ ငါ့မှာ သားဆိုလို့ ဒီသားတစ်ယောက်ပဲ ကျန်တော့တယ်။ ပြီးတော့ သူက နုလဲနုနယ်တဲ့အပြင် သွားအေကလဲ အလိုလိုက်တယ်မဟုတ်လား။ တကယ်လို့ ငါက စည်းကမ်းနဲ့လုပ်ပြီး အကျပ်အညှပ်အားကြီးလို့ သူ တစ်ခုခုဖြစ်သွားယင်၊ ဒါမှမဟုတ် အဘွားကြီး တစ်ခုခုဖြစ်သွားယင် စံအိမ်ကြီးတစ်အိမ်လုံး ကို ရှိုးကားရားဖြစ်ပြီး ဒီထက်ဆိုးသွားမှာ။ ဒါ့ကြောင့်မို့ သူ့ကို အလိုလိုက်ခဲ့ရတော့ သူလဲပျက်စီးတော့တာပေါ့အေ။ ခုလဲ ငါ သူ့ကို မဆုံးမတာတော့ မဟုတ်ပါဘူး၊ သူ့ကိုဆူလိုက်၊ မ နှင်လိုက်၊ ချော့လိုက်၊ ခြောက်လိုက်၊ ငိုပြလိုက်၊ ကြိမ်း ပြလိုက်နဲ့ အမျိုးမျိုးတော့ပြောတာပဲ၊ ပြောပေမယ့် ခဏပါပဲ၊ ခဏနေ တော့ ဒုံရင်းကို ပြန်ဆိုက်တာပါပဲ။ သူ့ကို နာနာကျင်ကျင် ရိုက်ဆုံးမဖို့ပဲ သူလဲပြင်မှာပါ၊ နို့မို့ယင်တော့ ပြင်မှာ မဟုတ်ပါဘူး။ ဒါပေမယ့် ဒီလောက်တောင် ဒဏ်ရာအနာတရဖြစ်အောင် ရိုက်လို့တော့လဲ မကောင်း ဘူးပေါ့အေ။ မတော်လို့ ကျိုးကန်းသွားယင် ဘယ့်နှယ်လုပ်မလဲ။ ငါ့ မှာ အသက်ကြီးလို့တောင် ခိုစရာရှိတော့မှာမဟုတ်ဘူး"

သခင်မဝမ်သည် ပြောရင်းဆိုရင်း မျက်ရည်တွေကျလာလေ၏။ သခင်မဝမ် စိတ်ထိခိုက်သည်ကိုမြင်သည့်အခါတွင် မာလာမှာလည်း မျက်ရည်တွေ မဆည်နိုင်တော့ဘဲ ငိုနေမိလေ၏။

"သခင်လေးဟာ သခင်မကြီးရဲ့သားပဲလေ။ သခင်မကြီး မပြောနဲ့၊ သူ့ကို ပြုစုစောင့်ရှောက်ရတဲ့ မာလာတို့တစ်တွေတောင် သူ ကောင်းစားတာအတွက် ဝမ်းသာသေးယင် သခင်မကြီးတော့ ဘာပြောစရာရှိတော့မှာလဲ။ ခု သူ ဒီလိုဖြစ်တဲ့ အခါကျတော့ မာလာတို့မှာလဲ စိတ်မချမ်းမသာဖြစ်ရတာပေါ့။ မာလာလဲ သခင်လေးကို နေ့စဉ်နှင့်အမျှ ပြောပါတယ်၊ ဒါပေမယ့် ခက်တာက နားမဝင်တာက ခက်နေတယ်။ တချို့ လူတွေက သူ့ကို မျက်နှာလိုအားရလုပ်ပြီး ပေါင်းကြတာကတော့ သူ့ အပြစ်မဟုတ်ဘူးပေါ့လေ။ ဒါပေမယ့် မာလာတို့က အဲဒီ လူတွေနဲ့ မပေါင်းနဲ့လို့ပြောယင် သူက မကြိုက်ဘူး သခင်မကြီးရဲ့၊ သူ့အပေါင်း





အသင်းကိုထိယင် သည်းမခံနိုင်ဘူး။ ကြုံတုန်းမှာ မာလာစိတ်ညစ်နေတဲ့ ကိစ္စတစ်ခုနဲ့ပတ်သက်ပြီး သခင်မကြီးဆီက အကြံတောင်းချင်ပါတယ်၊ သခင်မကြီးအထင်လွဲမှာစိုးလို့ မာလာဒီကိစ္စကို တစ်ခါမှ မပြောခဲ့ဖူးပါဘူး။ သခင်မကြီး အထင်လွဲမယ်ဆိုယင်တော့ မာလာ့မှာ ပြောရတာလဲ အချည်းနှီးဖြစ်၊ ကျွန်ပါးဝတယ်လို့ အပြောခံရတဲ့ဘဝမျိုးကိုလဲ ရောက်ရတော့မှာပါ"

မာလာသည် အရေးကြီးသည့် ကိစ္စတစ်ခုကို ပြောလိုကြောင်း သခင်မဝမ် သိလိုက်လေပြီ။

"ညည်းစိတ်ထဲရှိတာကိုသာ ပွင့်ပွင့်လင်းလင်း ပြောပါအေ၊ ညည်းအကြောင်းကို မကောင်းတာရယ်လို့ ငါ တစ်ခါမှမကြားဖူးပါဘူး။ ညည်းကို စိတ်ချပါတယ်။ ညည်းက ပေါက်ယုကိုလဲ ကောင်းကောင်းပြုစု၊ လူတွေနဲ့ဆက်ဆံရာမှာလဲ လိမ္မာရေးခြားရှိတဲ့ အခါကျတော့ ညည်းကို အားလုံးကလဲ အကောင်းပြောကြပါတယ်။ ဒီလို အသေးအဖွဲ့ကလေး တွေမှာ ကိုယ်ချင်းစာနာတတ်တာဟာ ကောင်းပါတယ်၊ ဒါ့ကြောင့်မို့ ညည်းကို အသိန်းဘော် သက်ဟောင်းကြီးတွေလို အထူးအခွင့်အရေး ပေး တာပေါ့။ ညည်းက ဒီမြင်အစေတော်တွေလို ဟေးသားဝါးသားမဟုတ် ဘူး၊ ကိုယ့်စည်းကမ်းလေးနဲ့ ကိုယ့်မူလေးနဲ့ကိုယ် နေတတ်တယ်။ ပြီးတော့ ညည်းစိတ်သဘောထားနဲ့လဲ ငါနဲ့ကိုက်ပါတယ်။ ကဲ၊ ဒီတော့ နိဒါန်းတွေ တာတွေ ပျိုးမနေပါနဲ့၊ ညည်းစိတ်ထဲမှာရှိတာကိုသာပြောပါ"

"တခြားတော့ မဟုတ်ပါဘူး၊ သခင်လေးကို ဥယျာဉ်ထဲကနေ ပြောင်းပြီး သခင်မကြီးတို့အနားမှာထားဖို့ပါ"

သခင်မဝမ်မှာ မမျှော်သင့်သော စကားကို ကြားလိုက်ရသည့် အတွက် အံ့အားသင့်သွားကာ မာလာ၏လက်ကို ဖမ်းကိုင်လိုက်၏။

"ဘာများဖြစ်လို့လဲအေ၊ မထိတ်သာမလန့်သာ ရှိလိုက်တာ"

"အို ဘာမှမဖြစ်ပါဘူး သခင်မကြီး။ မာလာပြောတဲ့ စကား ကြောင့် အလွဲမထင်လိုက်ပါနဲ့၊ မဖွယ်မရာ ဘာမှမဖြစ်ပါဘူး။ ဒါပေမယ့် မာလာ့အထင်ကိုပြောရမယ်ဆိုယင်တော့ သခင်လေးရော သခင်မလေး တွေရော ဟာ ကလေးတွေ မဟုတ်ကြတော့ဘူး၊ အရွယ် ရောက်

လာကြပြီ။ ပြီးတော့ မလေး ထိုက်ယု နဲ့ မလေး ပေါက်ကြည် တို့ဟာ သခင်မကြီးတို့ ဆွေမျိုးစုထဲက မဟုတ်ဘူး။ ဒီတော့ သွေး သား မနီးစပ်သူများဟာ ခပ်ဝေးဝေး နေသင့်တယ်လို့ မာလာ ထင်ပါတယ်။ သူတို့တစ်တွေ နေ့စဉ်နှင့်အမျှ တပူးတွဲတွဲနေကြတာဟာ သူတို့အတွက်လဲ မကောင်းဘူး၊ မာလာတို့အစေတော်တွေမှာလဲ အမြဲ စိုးရိမ်နေရတယ်။ ပြီးတော့ အပြင်လူတွေလဲ မြင်လို့မတင့်တယ်ဘူးလို့ထင် ပါတယ်။ 'အဆိုးဆုံးကိုရင်ဆိုင်ဖို့ အကောင်းဆုံး ပြင်ဆင်ထားရမယ်' ဆိုတဲ့ စကားပုံလဲရှိပါတယ်။ မသိမိုက်မဲတာက မကောင်းတာလုပ်ပါဘူး၊ ဒါပေမယ့် သိလျက်ရဲ့ ဒီလိုဆက်နေကြမယ်ဆိုယင် ဘေးလူတွေ ပြောစရာ ဖြစ်လာပါလိမ့်မယ်။ ဒီတော့ ပြဿနာမဖြစ်ခင်မှာ ကြိုတင်ရှင်းထားတာ ဟာ ကောင်းတယ်လို့ထင်ပါတယ်။

"သခင်မကြီးလဲ သခင်လေးပေါက်ယုအကြောင်းကို သိသားပဲ။ သခင်လေးဟာ မိန်းကလေးတွေနဲ့အရောတဝင်နေတတ်ပါတယ်။ တကယ် လို့ ကြိုတင်တားဆီးမထားခဲ့ယင်၊ သခင်လေးကလဲ ခြေလှမ်းတစ်ချက် မှားလိုက်ယင် လူပြောစရာတွေ ဖြစ်လာနိုင်ပါတယ်။ ဟုတ်တာ မဟုတ် တာကတော့ တစ်ပိုင်းပေါ့လေ။ အောက်တန်းစား ဆင်းရဲသားဆိုတာ အင်မတန်အတင်းအဖျင်းပြောတတ်ပါတယ်၊ သူတို့ဆိုယင် ကောင်းကင်ကို ရောက်အောင်ချဲ့ပြောပြီး သူတို့မလိုယင် လူကို တိရစ္ဆာန်ထက်ဆိုး အောင်နှိမ့်ချတတ်ကြပါတယ်။ လူတွေက သခင်လေးရဲ့ကောင်းကြောင်း ကိုပြောယင်တော့ အကောင်းဆုံးပေါ့လေ။ ဒါပေမယ့် သခင်လေး အပေါ်မှာ ပြောစရာ အစွန်းအထင်းတွေလာပြီဆိုယင်တော့ ကျွန်မတို့ အစေတော်တွေ အခါတစ်ထောင်လောက်ပြန်ဆေးဖို့သာကောင်းပါတော့ တယ်။ ဒါပေမယ့် ကျွန်မတို့ အခါတစ်ထောင်ပြန်ဆေးရတာက ကိစ္စမရှိ ဘူး၊ သခင်လေးရဲ့နာမည် တစ်သက်လုံးပျက်သွားပြီး သခင်ကြီးသိသွား မယ်ဆိုယင်တော့ သခင်မကြီးအနေနဲ့ ဘယ်လိုရှင်းမလဲ။ 'အမျိုးကောင်း သားတို့မည်သည် အမြော်အမြင်ရှိရမယ်' ဆိုတဲ့ စကားပုံ ရှိပါတယ်။ ဒီတော့ ပြဿနာတစ်စုံတစ်ရာဖြစ်ခင်မှာ ကြိုတင်ကာကွယ်ထားသင့်ပါ တယ်။ သခင်မကြီးမှာ ဒီပြင်ကိစ္စတွေရှိနေလေတော့ ဒီကိစ္စကိုစဉ်းစားဖို့





အချိန်ရမယ်မထင်ပါဘူး၊ မာလာတို့ကလဲ မတွေးတတ်ပါဘူး။ ဒါပေမယ့် ပြဿနာပေါ်လာလို့ မာလာတို့ကလဲ သခင်မကြီးတို့ကိုပြောမပြဘူးဆိုယင် အားလုံးဒုက္ခရောက်နိုင်ပါတယ်။ ဒီကိစ္စကို မာလာစဉ်းစားမိတာ တော် တော်လေးကြာပါပြီ၊ ဘယ်သူ့ကိုမှ မပြောခဲ့ပါဘူး။ ဒီကိစ္စအတွက် မာလာ့မှာ ဘယ်လောက်သောကရောက်ရတယ်ဆိုတာ မာလာ့အိပ်ရာဘေး မှာရှိတဲ့ မှန်အိမ်ပဲသိပါတယ်"

သခင်မဝမ်သည် မာလာ၏စကားကိုကြားသည့်အခါတွင် အံ့အား သင့်လျက်ရှိလေ၏။ ချင်ချွန်းနှင့်ဖြစ်သည့်ကိစ္စကို မိမိကိုယ်တိုင်ပင် သိခဲ့ပြီ မဟုတ်လော။ သခင်မဝမ်သည် ထိုအကြောင်းကိုတွေးမိကာ မာလာကို ကျေးဇူးတင်မဆုံးဖြစ်လျက်ရှိ၏။

"အင်း၊ ကလေးမ မာလာဟာ ဉာဏ်ရှိပါတယ်ကွယ်၊ အမြော် အမြင်ရှိပါပေတယ်။ ငါလဲ ဒါကိုတွေးတော့တွေးမိပါတယ်၊ ဒါပေမယ့် ငါ့မှာ တခြားကိစ္စတွေကလဲ တစ်ပုံကြီးမဟုတ်လား။ ခုတော့ ညည်းကလဲ သတိပေးပြီ။ ငါတို့ဆွေမျိုးရဲ့ဂုဏ်သိက္ခာအတွက် ညည်း ပူပန်ဖော်ရလို့ ဝမ်းလဲသာပါတယ်၊ ညည်း ဒီလောက်စိတ်ကောင်းစေတနာရှိမှန်းကို ငါ အစကမသိခဲ့ဘူး။ ကဲ ကဲ ငါ့တူမ၊ သွားတော့၊ ငါကြည့်ပြီးစီစဉ်မယ်။ ဒါပေမယ့် တစ်ခုတော့ ငါပြောလိုက်မယ်၊ ညည်းစကားတွေကို ကြားပြီး တဲ့အခါကျတော့ ပေါက်ယုကို ညည်းလက်ကိုပဲ စိတ်ချလက်ချအပ်ပါရ စေ။ ညည်းသခင်လေးကို ကောင်းကောင်းစောင့်ရှောက်ပါ၊ သူ့ကိုစောင့် ရှောက်ယင် ငါ့ကိုစောင့်ရှောက်တာနဲ့အတူတူပါပဲ။ ညည်းကျေးဇူးကို တို့မမေ့ပါဘူး"

မာလာသည် အားတက်သရော ကတိပေးကာ ပြန်လာခဲ့လေ၏။ နီမောင်းပျော်ဖွယ်ရိပ်သာသို့ ပြန်ရောက်သည့်အခါ၌ ပေါက်ယုမှာ အိပ် ရာမှ နိုးနေလေပြီ။ မာလာက သခင်မကြီးဝမ်ပေးလိုက်သည့် နှင်းဆီရည် နှင့် သစ်ခွရည်တို့အကြောင်းကို ပြောပြသည့်အခါတွင် ပေါက်ယုမှာဝမ်း သာလျက်ရှိ၏။ ပေါက်ယုက မြည်းစမ်းကြည့်ချင်သည်ဆိုပြီး မြည်းကြည့် ရာ များစွာအရသာရှိသည်ကို တွေ့ရလေ၏။

ပေါက်ယုသည် ထိုက်ယုနှင့်တွေ့ချင်လှသဖြင့် ထိုက်ယုဆီကိုလှူလွှတ်ပြီး အခေါ်ခိုင်းမည်စိတ်ကူးမိ၏။ သို့ရာတွင် မာလာဆူမည်ကို ကြောက်သဖြင့် ပရိယာယ်ဆင်ရလေ၏။ ပေါက်ယုသည် မာလာအား ပေါက်ကြည်ထံသွား၍ စာအုပ် ငှားရမ်းခိုင်းလိုက်ပြီး သူထွက်သွားသည်နှင့် ချင်ဝမ်းကိုခေါ်ကာ :

"သွား၊ မလေးထိုက်ယုဘာလုပ်နေသလဲဆိုတာ ကြည့်ချည်စမ်း။ ငါ့အကြောင်းကိုမေးယင် သက်သာပါပြီလို့ပြောခဲ့"

"သခင်လေးဟာကလဲ၊ ကျွန်မက ဘာကိစ္စလာသလဲလို့မေးယင် ဘယ့်နှယ်ပြောမလဲ၊ အကြောင်းတစ်ခုခုတော့ရှိရမှာပေါ့။ သခင်လေးက ကိစ္စတစ်ခုရှိလို့လွှတ်လိုက်လို့ဆိုယင်လဲ တော်သေးရဲ့"

"ငါလဲ ကိစ္စကို စဉ်းစားလို့မရဘဲဖြစ်နေတယ်"

"သခင်လေးက ပစ္စည်းတစ်ခုခုယင်လဲအပို့လွှတ်လိုက်။ ဒါမှမဟုတ် သူ့ဆီကယင်လဲ တစ်ခုခုအငှားခိုင်းလိုက်ပေါ့။ ဒီလိုမှမဟုတ်ယင် ကျွန်မက သူနဲ့တွေ့တော့ ဘာပြောရမှာလဲ၊ ကြောင်တက်တက်နဲ့"

ပေါက်ယုသည် အတန်ကြာမျှ စဉ်းစားနေပြီးနောက် လက်ကိုင်ပဝါနှစ်ထည်ကို လှမ်း၍ပစ်ပေးလိုက်ပြီးလျှင်

"ကောင်းပြီ၊ ဒီလိုဆိုယင်လဲ ဒီလက်ကိုင်ပဝါတွေကို သွားပေးချည်။ ငါကပေးခိုင်းလိုက်တယ်လို့ပြောခဲ့"

"ဟာ၊ သခင်လေးဟာကလဲ ပိုတောင်ဆိုးသေးတယ်။ ဒီလက်ကိုင်ပဝါအဟောင်းကြီး နှစ်ထည်ကို သူက ဘာလုပ်မှာလဲ၊ သူ့ကိုလှောင်တယ်ထင်ပြီး စိတ်ဆိုးနေပါဦးမယ်"

"အို နှင့်အပူမဟုတ်ပါဘူး၊ သူသိပါတယ်"

ချင်ဝမ်းသည် သူပေးသည့် လက်ကိုင်ပဝါ နှစ်ထည်ကို ယူကာ ထိုက်ယုနေထိုင်ရာ ဝေဠုဝန်ဆောင်သို့ လာခဲ့လေ၏။ ထိုက်ယု၏ အစေတော် ချွန်းချိန်သည် လက်ကိုင်ပဝါများကိုလျှော်ဖွပ်အား လက်ရန်းပေါ်တွင် လှန်းနေသည်ကို တွေ့ရလေ၏။

ချွန်းချိန်က လက်ညှိုးကိုပါးစပ်တွင်ကပ်၍ ထောင်ပြလိုက်ပြီး

"သခင်မလေး အိပ်နေတယ်"





ချင်ဝမ်းသည် မီးမထွန်းရသေးသဖြင့် မှောင်နေသည့် အခန်းတစ်ခန်းထဲသို့ ဝင်လိုက်လေ၏။ အိပ်ရာပေါ်တွင်လှဲနေသည့် ထိုက်ယုက မည်သူမည်ဝါ မေးလေ၏။

"ကျွန်မ ချင်ဝမ်းပါ သခင်မလေး"

"ဘာကိစ္စလဲ"

"သခင်လေးက သခင်မလေးဆီကို လက်ကိုင်ပဝါတွေ အပို့ခိုင်းလို့ပါ"

ငါ့ဆီကို ဘာ့ကြောင့်များ လက်ကိုင်ပဝါ ပို့ပါလိမ့်ဟု ထိုက်ယု ဥဉ်းစားလျက်ရှိလေ၏။

"သူ ဒီလက်ကိုင်ပဝါတွေကို ဘယ်ကရတာလဲ၊ လက်ကိုင်ပဝါက တော်တော်ကောင်းသားပဲ။ တခြားပေးချင်တဲ့လူရှိယင် ပေးပါလို့၊ အခုလောလောဆယ်မှာ ထိုက်ယုအတွက် မလိုသေးပါဘူးလို့ ပြောလိုက်"

ချင်ဝမ်းက ရယ်လိုက်ရင်း

"လက်ကိုင်ပဝါတွေက အသစ်မဟုတ်ဘူး မလေးရဲ့၊ သူ ခဏခဏ ကိုင်နေကျ"

ထိုစကားကြောင့် ထိုက်ယုမှာ ပို၍နားမလည်နိုင်အောင် ဖြစ်သွားလေ၏။ သို့ရာတွင် သေသေချာချာပြန်စဉ်းစားလိုက်သည့်အခါ၌ ထိုက်ယု ခပ်ရေးရေးသဘောပေါက်သလိုလို ဖြစ်လာလေ၏။

"ကောင်းပြီလေ၊ ဒါဖြင့်ထားခဲ့"ဟု ခပ်သွက်သွက်ပြောလိုက်၏။

ချင်ဝမ်းသည် လက်ကိုင်ပဝါကိုထားပစ်ခဲ့ကာ ပြန်လာခဲ့လေ၏။ သူ့ခေါင်းထဲတွင်လည်း လက်ဆောင်ကိစ္စကို တွေးလျက်ရှိလေ၏။

ထိုက်ယုမှာ ဘာကြောင့်ပေးသည်ကို တွေးတောလျက် ရှိလေ၏။ ပေါက်ယုသည် အမြော်အမြင်ရှိ၍ သူတို့အပေါ်တွင် ကြင်နာသနားသည့်အတွက် ထိုက်ယုသည် ကျေနပ်၏။ သို့ရာတွင် မိမိ၏ စိုးရိမ်ပူပန်မှုတို့သည် အဟောသိကံဖြစ်ရတော့မည်ဟု တွေးမိကာ စိတ်မသက်မသာ ဖြစ်လျက်ရှိလေ၏။ ရုတ်တရက်ကြည့်လိုက်လျှင် သုံးပြီးသားလက်ကိုင်ပဝါအဟောင်းနှစ်ထည်ကို လက်ဆောင်ပေးလိုက်ခြင်းသည် ရယ်စရာ ကောင်းသည်ဟုထင်ရသော်လည်း ထိုလက်ဆောင်၏ နောက်ကွယ်မှ အဓိပ္ပာယ်ကို ထိုက်

ယုကောင်းစွာ သဘောပေါက်လိုက်၏။ သို့ရာတွင် သုံးပြီးသား လက်ကိုင်ပဝါကို ပေးသူကပေး၍ လက်ခံသူက လက်ခံခြင်းကြောင့် ဘေးမှ ပြောစရာဖြစ်လာမည်ကိုလည်း ထိုက်ယု တွေးမိလေ၏။ ထိုက်ယုသည် မျက်ရည်လွယ်သူဖြစ်သည့်အတွက် ဤသို့ လက်ကိုင်ပဝါ လက်ဆောင်ပေးခြင်းဖြစ်သည်ဟု တွေးမိကာ ရှက်နေလေ၏။ သို့တွေးနေရင်းကပင် ထိုက်ယု၏ရင်ထဲတွင် တင်းကျပ်လာကာ ငိုချင်စိတ်ပေါက်၍ လာပြန်လေ၏။ ထိုက်ယုသည် မှန်အိမ်ကို အထွန်းခိုင်း၍ မင်သွေးခုံတွင် မင်တောင့်တစ်တောင့်ကို သွေးကာ စုတ်တံကို မင်ထဲတွင် နှစ်လိုက်ပြီးလျှင် လက်ကိုင်ပဝါပေါ်တွင် ကဗျာတိုကလေးတစ်ပုဒ်ကို ကောက်၍ရေးလျက်ရှိလေ၏။

ပုလဲမျက်ရည်၊ ယိုစီးလည်သည်
မည်သူအတွက် ပါလေနည်း။
ဇာဖျင်တစ်စ၊ လက်ဆောင်ရသည်
ငါ့မှာ စိတ်ဝေ့လည်တော့သည်။

အုံ့ပုန်းမျက်ရည်၊ ပုလဲသီသို့
စီးလည်သွန်ကျ၊ ခေါင်းအုံးစနှင့်
ပိုးစအကျီ၊ လက်ဖျားဆီတွင်
မျက်ရည်မြစ်ကြီး၊ တွေတွေစီးလျက်။

မျက်ရည်တွေဖုံး၊ ပုလဲလုံးကို
သီကုံးမရ၊ မျက်ရည်စတို့
ရှေ့မှဝါးပင်၊ စွန်းပြောက်ဆင်သည်
သခင့်မျက်ရည်ပင်တကား။ ။

[ရှေးက တရုတ်ပုံပြင်တစ်ခုတွင် ရှန်ဘုရင်ကြီးကွယ်လွန်၍မိဖုရားနှစ်ပါး ငိုသောမျက်ရည်တို့သည် ဝါးပင်များပေါ်တွင် အစက်အပြောက်ဆင် သည်ဟု ဆိုကြသည်။]

ကဗျာရေးနေစဉ် ထိုက်ယု၏ကိုယ်မှာ ချစ်ချစ်တောက်ပူလာပြီး မျက်နှာမှာလည်း ထူအမ်အမ်းဖြစ်လာလေ၏၊ ထိုက်ယုသည် မှန်တင်ခုံ





ဆီသို့ ထလာခဲ့ကာ မှန်ပေါ်မှ ပိုးဇာဖုံးကိုဖယ်၍ သူ့ကိုယ်သူမှန်ထဲသို့ကြည့်လိုက်သည်။ သူ့ပါးများသည် မက်မုံပွင့်ထက်ပင် နီရဲလျက်ရှိလေ၏။ သို့ရာတွင် ထိုသက္ကဏာမှာ ချောင်းဆိုး သွေးပါရောဂါ၏ ရှေ့ပြေးလက္ခဏာချက်များ ဖြစ်သည်ဆိုခြင်းကိုမူ ထိုက်ယုမသိချေ။ ထိုက်ယုသည် လက်ကိုင်ပဝါနှစ်ထည်ကို ရင်တွင်ပိုက်ကာ အိပ်ရာသို့ဝင်ခဲ့ပြီးနောက် ရောက်ဘတ်ရာရာတို့ကို တွေးတောလျက်ရှိလေ၏။

ပေါက်ကြည်ထံသို့ စာအုပ်ငှားသွားသည့် မာလာ၏အကြောင်းကို ပြန်ကောက်ဦးအံ့။ ပေါက်ကြည်မှာ ဥယျာဉ်ထဲတွင်မရှိဘဲ စံအိမ်ဝင်းထဲရှိ မိခင်ဖြစ်သူ ဒေါ်လေးဆွေ့၏ အိမ်သို့ ထွက်သွားသည်ဟု သိရသည့်အခါ၌ မာလာသည် လက်ချည်းသက်သက်ဖြင့် ပြန်လာခဲ့ရလေ၏။ ပေါက်ကြည်မှာ ဆယ်ချက်တီးကျော်မှ ပြန်လာလေ၏။

ပေါက်ကြည်သည် သူ့အစ်ကို ဆွေ့ဖန် ရမ်းကားကြောင်းကို ကောင်းကောင်းသိသူဖြစ်သည့်အတွက် ချုံရှန်းမင်းသား၏ ဝင်းမှူးလာရောက်တိုင်တန်းသည့်ကိစ္စတွင် ဆွေ့ဖန်၏ လက်ချက် ပါလိမ့်မည်ဟု အစောကြီးကတည်းက သံသယဖြစ်နေခဲ့၏။ မာသာ့ထံမှကြားရသောသတင်းအတိုင်း ဆိုလျှင် သူထင်သည့်အတိုင်းမှန်နေသေပြီ။ အမှန်အားဖြင့် မာလာသည် ထိုသတင်းကို ပေ့မင်းထံမှ ကြားခဲ့ရခြင်းဖြစ်ပြီး ပေ့မင်းမှာလည်း အထောက်အထားမရှိဘဲ အထင်ဖြင့် ပြောခြင်းသာဖြစ်၏။ မည်သို့ဖြစ်စေ ယခု ပေါက်ယုအရိုက်ခံရသည့်ကိစ္စတွင် ဆွေ့ဖန်လက်ချက်ပါနေကြောင်းမှာ ယုံမှားဖွယ်မရှိတော့ပြီ။ ဆွေ့ဖန်မှာ အပြစ်မရှိသကဲ့သို့ဖြစ်နေသည့်တိုင် ကွယ်ရာတွင်မူ ဆွေ့ဖန်ကို အပြစ်တင်လျက် ရှိကြလေ၏။

ယနေ့တွင်မူ ဆွေ့ဖန်သည် အရက်မူးပြီး အိမ်သို့ပြန်လာခဲ့ရာ ပေါက်ကြည်ရောက်နေသည်ကို တွေ့ရလေ၏။

"ပေါက်ယုအရိုက်ခံရတယ်ကြားတယ်၊ ဘာဖြစ်လို့လဲ"

ဒေါ်လေးဆွဲ့မှာ ပေါက်ယုအရိုက်ခံရသည့်အတွက် စိတ်မကောင်းဖြစ်လျက်ရှိစဉ် ယခုလို မေးလိုက်သည့်အခါတွင် ဆွဲ့ပေးသလိုဖြစ်သွားကာ

"နင်ဂြိုဟ်မွှေကာပေါ့ဟဲ့၊ နင်ဂြိုဟ်မွှေလို့ ဟိုမှာအရိုက်ခံရတာ။ နင်ကပဲ ပြန်မေးရသေးသတဲ့လား" ဟု အံကြိတ်၍ ပြောလေ၏။

ဆွဲ့ဖန်မှာ အံ့အားသင့်လျက်

"ဟင်၊ ကျွန်တော်က ဘာဂြိုဟ်မွှေလို့လဲ"

"ခုမှ နင်က အပြစ်မရှိချင်ယောင် ဆောင်မနေပါနဲ့၊ နင်သွားပြောလို့ ဒီလိုအရိုက်ခံရတယ်ဆိုတာ လူတိုင်းသိတယ်။ ဘာ မုသာဥလုပ်ချင်သေးသလဲ"

"ဘယ်သူပြောသလဲ၊ ပြောစမ်း။ ပြောတဲ့ကောင်ကိုသတ်ပစ်မယ်"

"နင့်ကြောင့်အရိုက်ခံရတယ်ဆိုတာ နင့်ညီမဖြစ်တဲ့ ပေါက်ကြည်တောင်သိတယ်။ ကိုယ့်နှမက မဟုတ်တဲ့နဲ့ ယုံမယ်တဲ့လား"

ပေါက်ကြည်က

"တိုးတိုးပြောကြပါ၊ သိပ်အော်မနေကြပါနဲ့၊ လူတွေကြားကုန်ပါမယ်။ ဒီကိစ္စက တဖြည်းဖြည်းတော့ ရှင်းမှာပါ" ဟု ပြော၍ ဆွဲ့ဖန်ဘက်သို့ လှည့်လိုက်ပြီးနောက်

"အစ်ကိုပြောသလား မပြောသလားတော့ မသိဘူး၊ အရိုက်ခံရတဲ့လူကတော့ မသေရုံ တစ်မည်ပဲကျန်တော့တယ်။ ဒီတော့ ဒီကိစ္စကို သိပ်ပြောမနေပါနဲ့တော့၊ တောင်ပို့ကို ဟိမဝန္တာဖြစ်အောင် လုပ်မနေပါနဲ့တော့။ တစ်ခုပဲ ပေါက်ကြည်ပြောချင်တယ်။ အစ်ကို ဒီမြို့ပေါ်လူတွေကို ဒုက္ခရောက်အောင် ဟောဟောဒိုင်းဒိုင်းမလုပ်ပါနဲ့၊ အပြင်မှာ အစ်ကိုလျှောက်ပြီး ပေးတာမနေပါနဲ့၊ ကိုယ့်အလုပ်ကို ကိုယ်လုပ်ပါ။ ခုတော့ အစ်ကို့ဟာက လူခမ်းကားတွေ၊ လူ့သောင်းကျန်းတွေနဲ့ပေါင်း၊ ရမ်းချင်တိုင်းရမ်းနေကြတာ။ ဘာမှမဖြစ်ဘူးဆိုယင်တော့ ကိစ္စမရှိပါဘူး၊ တစ်ခုခုဖြစ်လာတယ်ဆိုယင်တော့ အစ်ကိုတို့လုပ်လုပ် မလုပ်လုပ် အစ်ကိုတို့လိုက်ကြမှာပဲ။ တခြားလူမပြောနဲ့ ညီမလုပ်တဲ့လူကတောင် ထင်သေးတာ၊ တခြားလူတော့ ဘာပြောစရာရှိတော့မှာလဲ"







ဆွဲ့ဖန်ကား နဂိုကမှစိတ်ဆတ်ကာ ဟောဟောဒိုင်းဒိုင်းလုပ်တတ်သူပိပြီ ပေါက်ကြည်၏စကားများကို ကြားလိုက်ရသည့်အခါ၌ ဆွဲ့ဆွဲ့ခုန်လျက်ရှိလေပြီး အပြင်တွင်မူ ယစ်ရမ်းကားနေသည်ဟု ပေါက်ကြည်က စွပ်စွဲခြင်း၊ ပေါက်ယုအရိုက်ခံရသည့်ကိစ္စတွင် သူ့လက်ချက် ပါသည်ဟု မိခင်ဖြစ်သူက စွပ်စွဲခြင်း တို့ကိုကြားလိုက်ရသည့်အခါ ဆွဲ့ဖန်သည် စိတ်ကို မထိန်းနိုင်တော့ဘဲ ထိုကိစ္စကို ရှင်းရမည်ဟုဆိုကာ

"ပြောစမ်း၊ ကျွန်တော့်လက်ချက်ကြောင့်ဒီလိုဖြစ်ရတယ်လို့ ဘယ်သူက ပြောသလဲ။ ပြောတဲ့ကောင်ကို သွားတွေတစ်ချောင်းမှမကျန်အောင် ရိုက်ချိုးပစ်မယ်။ ဘာလဲ၊ အမေတို့က ပေါက်ယုသိက္ခာကို ဆယ်ဖို့အတွက် ကျွန်တော့်ကို ဓားစာခံခိုင်းကြတာပေါ့ ဟုတ်လား။ ပေါက်ယုကတော့ အပြစ်မရှိဘူးပေါ့၊ သူတော်ကောင်းကြီးပေါ့။ ဟင်း ဖြစ်နေလိုက်ကြတာ၊ ပေါက်ယုကို သူ့အဖေက ရိုက်တိုင်း တစ်အိမ်လုံး ဖြစ်နေလိုက်ကြတာ။ အလျင်တစ်ခါ အရိုက်ခံရတုန်းကတော့ ကျီချုကသွားတိုင်လို့ ဒီလိုအရိုက်ခံရတာတဲ့၊ သူတို့ပေါက်ယု သောက်ကမြင်းထတာတွေကြတော့ ဘာမှမပြောကြဘူး၊ မဆီမဆိုင် အေးလူတွေချည်းပဲ လိုက်တရားခံလုပ်နေကြတယ်။ ခုလဲ ကျွန်တော့်ကိုတရားခံလုပ်ကြပြန်ပြီ။ ကိစ္စမရှိပါဘူး၊ လုပ်ကြပေါ့။ ဆွဲ့ဖန် ဘယ်သူ့ကိုမှမကြောက်ဘူး၊ ပေါက်ယုဆိုတဲ့ကောင်ကို သွားသတ်ပြီးမှ စက်တိုင်တက်ပြမယ်။ အဲဒီကျတော့ရှင်းရောပေါ့"

ဆွဲ့ဖန်သည် တံခါးထိုးသည့် မင်းတုပ်ကြီးကိုဖြုတ်ကာအပြင်သို့ ပြေးထွက်သွားလေ၏။ ဒေါ်လေး ဆွဲ့က အကိတ်တလန့်ဖြင့် သူ့ကို အတင်းလိုက်ဆွဲ၏။

"ဟဲ့၊ နင် သဘက်စီးနေသလားဟင်။ ငါ့ကို သေအောင်သတ်၊ ငါ့ကိုအသေသတ်ပြီးမှ နင်လုပ်ချင်ရာလုပ်"

ဆွဲ့ဖန်၏မျက်လုံးများမှာ ဒေါသကြောင့် ပြူးထွက်လျက်ရှိကြလေ၏။

"ဖယ်ပါဗျ၊ ခင်ဗျားကြီးတို့ဘစ်တွေ သူမျိုးကိုတော့ ရှာရာမရှိအောင် ဝိုင်းပြောလိုက်ကြတာ၊ ဖယ်၊ ရှသွားရှင်းမယ်၊ ရှင်းမယ်ဆိုတော့လဲ မရှင်းရဘူးလား။ ပေါက်ယုဆိုတဲ့ကောင် ရှိနေသေးသမျှ ကျွန်တော့်ကို

ဓားစာခံ ဝိုင်းလုပ်ကြဦးမှာပဲ၊ အကုန်လုံး သေကုန်တာပဲ ကောင်းတယ်၊ ဒါမှ ကိစ္စပြီးမယ်''

ပေါက်ကြည်သည် အနီးသို့တိုးလာကာ

''အစ်ကို သိပ်မရမ်းပါနဲ့၊ မေမေသိပ်စိတ်ထိခိုက်နေတယ်။ အစ်ကိုက ချော့ရမယ့်အစား ခုဒီလိုလုပ်တော့ ပိုဆိုးတာပေါ့။ လူတွေကကိုယ့်ကို အကြံပေးတယ်ဆိုတာဟာ ကောင်းစေချင်လို့အကြံပေးတာပဲ၊ ကိုယ့်အမေဆိုတာတော့ ပြောမနေနဲ့တော့၊ ဘာ ဒီလောက်စိတ်ဆိုးစရာရှိသလဲ''

''ဪ၊ နင်ကငါ့ကိုလာပြီး ဆရာလုပ်နေပြန်ပြီပေါ့။ နင် ဂိုဟ်မွေ့တာ၊ နင် စ တာ''

''သူများက အကောင်းပြောတာကိုတော့ ဆရာလုပ်ဘယ်ဆိုပြီး လိုက်အပြစ်ဘင်တယ်၊ ကိုယ်သောင်းကျန်းရမ်းကားတာကိုတော့ ဘာမှ မပြောဘူး''

''ငါရမ်းကားတာလေးကကိုပဲပြောနေကြတာကိုး။ အပြင်ဘက်မှာ ပေါက်ယုသောင်းကျန်းတာကြတော့ နင်တို့ ဘာမှမပြောကြဘူး။ ဒီပြင်ဟာမကြည့်နဲ့၊ တစ်ခုပဲငါပြောမယ်၊ ချိုကွမ်းကိစ္စကိုပဲကြည့်။ ငါနဲ့ ချိုကွမ်းသိဘာ ကြာလှပြီ၊ တွေ့တာလဲ အကြိမ်ပေါင်းများလှပြီ၊ တစ်ခါမှ ပြဿနာမဖြစ်ဖူးဘူး။ ဒါပေမယ့် ပေါက်ယုနဲ့ တွေ့တဲ့အခါကျတော့ နာမည်ကိုတောင်မသိကြသေးဘူး၊ ခါးစည်းကြိုးကိုပေးလိုက်ဘယ်။ ကဲ၊ ဒါ ငါနဲ့ဘာဆိုင်လို့လဲ၊ ငါ့အပြစ်လို့ နင်တို့ပြောဦးမှာလား''

ဒေါ်လေးဆွေ့နှင့် ပေါက်ကြည်က

''တော်ပါတော့၊ ဒါတွေပြောပြန်ပြီလား။ ဒီကိစ္စကြောင့် အရိုက်ခံရတာ၊ ခု ဒီကိစ္စကို နင်ပြောဘယ်ဆိုတာ သေချာပါပြီ''

''ဘာလဲ၊ အမေတို့ ကျွန်တော့်ကိုစိတ်ဆိုးပြီး လျှောက်ရမ်းအောင် လုပ်နေကြတာလား''ဟု ဆွေ့ဖန်က ဟိန်းလိုက်၏။

''ကျွန်တော်က ကျွန်တော့်ကိုစွပ်စွဲဘာကို ဒီလောက်မခံချင်မဖြစ်ပါဘူး၊ ဒီပေါက်ယုဆိုတဲ့ကောင်ကို ရေးကြီးခွင့်ကျယ်လုပ်နေလို့ ပိုပြီးစိတ်ဆိုးတာ။ ဒီကောင့်အတွက် ပျာယာခတ်နေကြလို့ သောက်မြင်ကတ်တာ''





ပေါက်ကြည်က

''ဘယ်သူပျာယာခတ်လို့လဲ၊ အစ်ကိုပဲ မင်းတုပ်ကြိုးကိုင်ပြီး ရိုက်မယ် ပုတ်မယ်တကဲကဲဖြစ်နေတာမဟုတ်လား။ သူကပဲ ပျာယာခတ်သေးတယ်၊ သူကပဲ စွပ်စွဲသေးတယ် ဟင်း''

ပေါက်ကြည်ပြောသည့်စကားမှာ မှန်နေသည့်အတွက် ချေပရန်ခက်နေသဖြင့် ဆွေ့ဖန်သည် ပေါက်ကြည်တိတ်သွားအောင်လုပ်ချန်ချက်ကောင်းကိုရှာလျက်ရှိ၏။ ထိုနောက် ဒေါသထွက်လျက်ရှိသည့်အလျောက် ပြောသင့်မပြောသင့် ချိန်ဆခြင်း မပြုနိုင်တော့ဘဲ စိတ်ထဲ ရှိသည်တို့ကို ပြောချလိုက်လေ၏။

ဆွေ့ဖန်သည် လှောင်ပြုံးပြုံးလိုက်ပြီးနောက်

''ဒီမှာပေါက်ကြည်၊ ငါ့ကို ဒီလောက်လဲ ရန်ထောင်မနေနဲ့။ နင့်စိတ်ထဲမှာ ဘယ်လိုဖြစ်နေဘယ်ဆိုတာ ငါသိတယ်။ နင့်လည်မှာဆွဲထားတဲ့ ရွှေဘယက်ဟာ ကျောက်စိမ်းနဲ့ဖူးစာဆုံမယ်လို့ ဗေဒင်ဟောသွားတယ်ဆိုတာ မေမေက ငါ့ကိုပြောပြီးပြီ။ ဒီတော့ နင့်ဘယက်နဲ့လိုက်မယ့်ကျောက်စိမ်းကို နင်လိုက်ရှာနေတာ။ ခုတော့ နင် ပေါက်ယုကို တွေ့နေပြီမဟုတ်လား။ ပေါက်ယုလည်မှာဆွဲထားတဲ့ ဒီသောက်ကျောက်စိမ်းကိုမြင်တော့ နင် သူ့ဘက်လိုက်တော့မှာပေါ့''

ပေါက်ကြည်မှာ ဒေါသထွက်လွန်းသဖြင့် စကားပင် မပြောနိုင်တော့ချေ။ ပေါက်ကြည်သည် ငိုရှိုက်လျက်ရှိရာမှ သူ့မိခင်၏ လက်ကို ဆွဲကာ

''မေမေ သူပြောတာကြားတယ်နော်''

ဆွေ့ဖန်သည် မိမိစကားလွန်သွားပြီကို သတိရလိုက်သည့်အတွက် သူ့အခန်းထဲသို့ဝင်သွား၏။

ဒေါ်လေးဆွေ့မှာ ဒေါသကြောင့် တုန်ယင်လျက်ရှိသည့်တိုင် သမီးဖြစ်သူကို ချော့နေရလေ၏။

''ဒီကောင်ဟာ ဒီလိုပဲ၊ မဟုတ်တရုတ်တွေကို ပြောဘတ်တယ်ဆိုတာ သမီးလဲအသိပဲကွယ်။ မနက်ဖြန်ကျယင် သူ့ကို မေမေအတောင်းပန်ခိုင်းပါ့မယ်''

ပေါက်ကြည်မှာ ရှက်လည်းရှက်၊ ဒေါသလည်းထွက်သည့်အပြင် မိခင်ကြီးစိတ်မကောင်းမည်စိုးသည့်အတွက် အသာပင်ငြိမ်နေလိုက်ရ၏။ ပေါက်ကြည်သည် မျက်ရည်အရွဲသားဖြင့် မိခင်ဆီမှပြန်လာကာ တစ်ညလုံး အိပ်၍မရဘဲ ငိုလျက်ရှိလေ၏။

နောက်တစ်နေ့မနက်၌ ပေါက်ကြည်သည် အစောကြီး အိပ်ရာမှထကာ အလှအပကိုပင် ကောင်းစွာမပြင်နိုင်တော့ဘဲ အဝတ်အစားကို ကပျာကယာကောက်လဲ၍ မိခင်ကြီးဆီသို့လာခဲ့၏။ လမ်းတွင် စိန်ပန်းပင်ကြီးတစ်ပင်အောက်တွင် ရပ်နေသည့် ထိုက်ယုနှင့်တွေ့သည်တွင် ထိုက်ယုက မည်သည့်နေရာသို့သွားမည်နည်းဟု မေးလေ၏။ ပေါက်ကြည်သည်ရပ်၍ပင် စကားမပြောတော့ဘဲ အိမ်ပြန်မည်ဟုသာ သာမန်မျှသာပြောခဲ့၏။ ပေါက်ကြည်သည် ခါတိုင်းနှင့်မတူဘဲ မျက်နှာမကောင်းဖြစ်ကာ ငိုထားသည်ကို ထိုက်ယု သတိထားလိုက်မိလေ၏။

ထိုက်ယုက နောက်သလိုပြောင်သလိုဖြင့်

"မလေး ပေါက်ကြည်ရေ၊ သိပ်ငိုမနေနဲ့နော်၊ မျက်ရည်တွေ သံစည်ပိုင်းကြီးနဲ့ နှစ်လုံးပြည့်အောင်ငိုဦး၊ သူ့ကိုယ်ပေါ်က အရိုးအရိုးထင်နေတာတွေကို ပျောက်အောင်လုပ်နိုင်မှာမဟုတ်ဘူး"

ပေါက်ကြည်က မည်သို့ပြောသည်ကိုသိလိုလျှင် နောက်အခန်းကို ဖတ်ပါလော့။





## အခန်း ၃၅

### ယုချွန်သည် ကြာငှက်ဟင်းချိုကို မြည်းကြည့်ခြင်း။ ယင်အဲသည် ဆီးတော်ပွင့် ပိုက်ကလေး ထိုးပေးခြင်း။

ပေါက်ကြည်သည် ထိုက်ယု၏စကားကို ကြားလိုက်သော်လည်း မိခင်နှင့် အစ်ကိုတို့ကို တွေ့လိုလှပြီဖြစ်သည့်အတွက် မည်သို့မျှမပြောတော့ဘဲ ဆက်၍ လျှောက်လာခဲ့၏။ ထိုက်ယုသည် စိန်ပန်းပင်ကြီးအောက်တွင် ရပ်ရင်း ပေါက်ယု၏အဆောင်ဖြစ်သည့် နီမောင်းပျော်ဖွယ်ရိပ်သာဘက်ဆီသို့မျှော်ကြည့်လျက် ရှိလေ၏။ လီဝမ်း၊ ယင်ချွန်း၊ တန်ချွန်း၊ ဆီချွန်းနှင့် သူတို့အစေတော်များရောက်လာကာ ပေါက်ယု၏အခြေအနေကို မေးမြန်းပြီး ပြန်သွားကြသည်ကိုမြင်ရလေ၏။ သို့ရာတွင် နတ်ငှက်မယ်၏အရိပ်အယောင်ကား မတွေ့ရချေ။

"သူဘာဖြစ်လို့ ပေါက်ယုကိုလာမမေးတာပါလိမ့်။ ဘယ်လောက်ပဲ အလုပ်များများ မယ်မယ်နဲ့ဒေါ်လေးဝမ်တို့ ကျေနပ်အောင်တော့ သူလာမေးရမယ်၊ လာမမေးတာ အကြောင်း တစ်ခုခုတော့ ရှိမယ်"ဟု ထိုက်ယု တွေးနေလေ၏။

ထိုသို့တွေးရင်း ခေါင်းကိုမော့ကြည့်လိုက်သည့်အခါတွင် တောက်ပစွာ ဝတ်စားလာကြသည့်လူတစ်စုကို လှမ်းမြင်လိုက်ရလေ၏။ သေချာစွာကြည့်လိုက်သည့်အခါတွင် ရှေ့ဆုံးတွင် မယ်မယ်ကို နတ်ငှက်မယ်ကတွဲခေါ်လာပြီး နောက်တွင် ဒေါ်လေးဝမ်၊ ဒေါ်လေးဆင့်၊ အမြှောင်မယားချောနှင့် အစေတော်များက နောက်မှလိုက်လာကြသည်ကို မြင်ရလေ၏။ သူတို့တစ်သိုက်သည် ပေါက်ယု၏ အဆောင်ထဲသို့ ဝင်သွားကြလေ၏။ ထိုက်ယုသည် သူတို့ကိုကြည့်ကာ မျက်ရည်ကျလျက်ရှိပြီး သူများလို မိဘအစုံအလင်မရှိသော မိမိအဖြစ်ကို တွေးကာ မျက်ရည်ကျလျက်ရှိလေ၏။ ခဏကြာလျှင် ဒေါ်လေးဆွေ့နှင့် ပေါက်ကြည်တို့ သားအမိနှင့် အတူ အစေတော်ဇူချွန်းတို့လာနေကြသည်ကို မြင်ရပြန်လေ၏။ ထိုစဉ်သူ့အနားသို့ ဇူချွန်းရောက်လာပြီး

"မလေး၊ ဆေးသောက်မယ်ဆိုယင်သွားသောက်ချည်တော့လေ။ တော်တော်ကြာ ရေနွေးဆူပြီးသားတွေ အေးနေလိမ့်မယ်"

"နင်ကလဲဟယ်၊ ငါ့ကိုအတင်းချည်းပဲ ခိုင်းနေတာပဲ။ သောက်သောက် မသောက်သောက် နင့်အပူမဟုတ်ပါဘူး"

"မလေး ချောင်းဆိုးတာက တော်တော် သက်သာသွားပြီမဟုတ်လား။ သက်သာတုန်းမှာ ဆေးကိုရပ်မထားလိုက်နဲ့လေ၊ ရာသီဥတု သိပ်မအေးဘူးဆိုပြီး ပေါ့မနေလိုက်နဲ့။ ခုလဲ မနက်ခဝလီဝေလင်း ကျီးမနိုးခင်ကတည်းက အအေးကြီးထဲမှာ ရပ်နေတာ။ သွားလေ၊ အထဲဝင်တော့"

ထိုအခါကျမှ မိမိတစ်ကိုယ်လုံး နွမ်းနယ်နေသည်ကို ထိုက်ယုသတိပြုမိတော့သည်။ ထိုက်ယုသည်ဇူချွန်းကိုမှီတွဲကာ မိမိ၏အဆောင်ဖြစ်သော ဝေဠုဝန်သို့ ပြန်လာခဲ့လေ၏။ သူတို့ အဆောင်ဝင်းထဲသို့ ဝင်လာသည့်အခါတွင် ပြောက်တိပြောက်ကျားဖြစ်နေသည့် ဝါးရုံရိပ်များကိုမြင်သည့်အခါတွင် "ရေညှိစိမ်းမြနှင့်ဖြူလွှနှင့်၊ ညသို့တိတ်ဆိတ်၊ ထိုသစ်ရိပ်အောက်၊ လျှောက်လှမ်းခဲ့လျှင်၊ မည်သူပင်ဟု၊ စိတ်တွင်ဝိုးဝါး" ဟူသော 'အမနောက်ဆောင်' ဝတ္ထုထဲမှ စာသားအချို့ကို သတိရလေ၏။

"'အနောက်ဆောင်' ဝတ္ထုထဲက မင်းသမီးလေးစုယဉ်ယဉ်ခမျာ ကံဆိုးလိုက်တာ။ ဒါပေမယ့် ဘယ်လောက်ပဲ ကံဆိုးဆိုး၊ တိုင်ပင်ဖော်





တိုင်ပင်ဖော်အဖြစ် အမေမုဆိုးမကြီးနဲ့ မောင်လေးတစ်ယောက်ရှိသေးတယ်၊ ငါ့မှာတော့ ဘယ်သူမှမရှိဘူး။ ရှေးလူကြီးတွေကတော့ 'အလှမယ်တို့သည် ကံဆိုးမိုးမှောင်ကျတတ်ကြ၏' လို့ ဆိုတာပဲ။ ငါ့မှာတော့ အလှမယ်မဟုတ်ဘဲနဲ့ ဘာဖြစ်လို့များ ဒီလောက်ကံဆိုးမိုးမှောင်ကျနေရတာပါလိမ့်" ဟု တွေးလျက်ရှိလေ၏။

ဤသို့ဖြင့် ထိုက်ယုသည် စဉ်းစားရင်း လျှောက်လာခဲ့သည်တွင် အမိုးမိုးထားသည့် စင်္ကြံထဲတွင် နားနေသည့် သူ့ကြက်တူရွေးလေးသည် သူ့ခေါင်းကိုလာ၍ ထိုးဆိတ်လေ၏။

"ဩော် ရှေ့ကျေးရယ် လန့်လိုက်တာ၊ ငါ့ခေါင်းတော့ ပွကုန်ပြီထင်ပါရဲ့" ဟု ထိုက်ယုပါးစပ်မှ ညည်းလိုက်မိလေ၏။

ကြက်တူရွေးသည် သူနားနေရာ ကြက်တူရွေးတန်းပေါ်သို့ ပျံသွားကာ "ဇွေ့ယင်၊ ခန်းဆီးဖွင့်ပေး။ သခင်မလေးလာပြီ၊ သခင်မလေးလာပြီ" ဟု အော်လျက်ရှိလေ၏။

ထိုက်ယုသည် ကြက်တူရွေးအိမ်အနီးတွင်ရပ်ကာ အစာနှင့်ရေလဲပြီးပြီလားဟု ကြက်တူရွေးကို မေးလေ၏။ ကြက်တူရွေးက ထိုက်ယုသက်ပြင်းရှည်ကြီးချသည့် အသံမျိုးဖြင့် မြည်လိုက်ပြီးနောက်

နွေဦးရောက်လေ၊ ပန်းတို့ကြွေ
အလှလည်းပြေ၊ ပန်းလည်းကြွေ
တောင်ပံလည်းခုတ်၊ ပန်းလည်းပြုတ်
ပန်းနဲ့အလှကို ဘယ်သူမြေမြှုပ်။ ။

ဟု ရွတ်ဆိုလျက်ရှိလေ၏။

ထိုက်ယုနှင့် ဇူချွန်းသည် ရယ်လိုက်မိကြ၏။

"အဲဒါ မလေးထိုက်ယုရွတ်တဲ့ကဗျာလေ။ ကြည့်စမ်း၊ သူတောင်အလွတ်ရနေပြီ" ဇူချွန်းက ပြောလေ၏။

ထိုက်ယုသည် ကြက်တူရွေးလှောင်အိမ်ကို ဖြုတ်လိုက်ပြီးနောက် လသာပြတင်းဝရှိ ချိတ်တစ်ခုတွင် ဆွဲထားလိုက်၏။ ထိုနောက် အထဲသို့

ဝင်လာကာ ပြတင်းပေါက်တွင်ထိုင်၍ ဆေးသောက်ရန် ပြင်လျက်ရှိလေ၏။ ဇာခန်းဆီးကြားမှ ယိုဆင်းလာသော ဝါးပင်များ၏ အစိမ်းရောင် ရိပ်ရိပ်သဲတွင် စာပွဲများ၊ ထိုင်ခုံများသည် အေးမြသည့်အသွင်ကိုဆောင် နေကြလေ၏။ ထိုကဲ့သို့သည် ပျင်းပျင်းရှိသဖြင့် ပြတင်းပေါက်အပြင် ဘက်တွင် ချိတ်ဆွဲထားသည့် လှောင်အိမ်ထဲမှ ကြက်တူရွေးနှင့် စကား ပြောကာ သူနှစ်သက်သည့် ကဗျာဘစ်ပုဒ်ကို သင်ပေးနေလေ၏။

အိမ်သို့ မနက်အစောကြီးပြန်သွားသည့် ပေါက်ကြည်အကြောင်းကို ပြန် ကောက်ကြဦးစို့။ အိမ်သို့ ရောက်သွားသည့်အခါ၌ သူ့မိခင် ဒေါ်လေး ဆွေ့သည် ဆံပင်ဖြီးလျက်ရှိလေ၏။

"ဟဲ့သမီး၊ မနက်အစောကြီး ဘာဖြစ်လို့လာတာလဲ" ဟု ဒေါ် လေးဆွေ့က မေးလေ၏။

"မေမေ့ကို စိတ်မချလို့လာတာ။ မေမေ့သားကော၊ နောက်ထပ် ဆူဆူပူပူ လုပ်သေးသလား၊ ညကရော ပြန်အိပ်ရဲ့လား"

ပေါက်ကြည်သည် သူ့မိခင်အနီးတွင် ထိုင်ချလိုက်ကာ ငိုလျက် ရှိလေ၏။ ဒေါ်လေးဆွေ့ကလည်း ရောယောင်ငိုကာ

"ဒီလောက်လဲ အရေးတကြီးထားမနေပါနဲ့ သမီးရယ်၊ ဒီသရဲ သဘက်ကို မေ့မဆုံးမပါမယ်။ သမီးက ဒီလိုစိတ်ထိခိုက်လွယ်လို့ တစ်ခု တစ်ရာဖြစ်သွားယင် မေမေ ဘယ်သူ့ကိုသွားပြီး အားကိုးရမှာလဲဟင်"

ထိုသို့ပြောဆိုနေကြစဉ် ဆွေ့ဖန်ဝင်လာကာ ပေါက်ကြည်ကို ဦး ညွှတ်ပြလိုက်ပြီးနောက်

"ညီမလေး၊ အစ်ကို့ကို စိတ်မဆိုးနဲ့နော်။ မနေ့ညက အစ်ကို အရက်တွေမူးလာလို့ ပြောမိတာပါ။ အရက်သောက်ပြီး ပြန်အလာ လမ်း မှာ မိတ်ဆွေနဲ့တွေ့လို့ ထပ်သောက်တော့ တော်တော်လေးများသွား တယ်၊ မနေ့ညက ဘာတွေပြောလို့ ပြောမှန်းတောင် မမှတ်မိတော့ဘူး။ ဒီတော့ညီမလေးစိတ်ဆိုးတာကို အစ်ကိုဘယ်လိုမှ သဘောမထားပါဘူး"





ပေါက်ကြည်သည် မျက်နှာကို လက်ဝါးဖြင့်အုပ်၍ ငိုနေရာမှ ထိုစကားများကို ကြားသည့်အခါတွင် ပြုံး၍ မော့ကြည့်လိုက်လေ၏။

ထိုနောက် ပေါက်ကြည်သည် စိတ်ဆိုးဟန်ဖြင့် တံတွေးထွေးလိုက် ပြီးလျှင်

"တော်စမ်းပါ၊ ခုမှလာပြီး တောင်းပန်မနေစမ်းပါနဲ့။ ပေါက် ကြည်တို့သားအမိနှစ်ယောက်ဟာ အစ်ကို့အတွက် အနှောင့်အယှက်ဖြစ် နေတယ်ဆိုတာ ပေါက်ကြည်သိပါတယ်။ တကယ်ကတော့၊ အစ်ကိုက ညီမလေးတို့နှစ်ယောက် တခြားထွက်သွားအောင် လုပ်နေတာပါ။ ဒါမှ ပဲမှာ အစ်ကိုပျော်ချင်တိုင်းပျော်နိုင်မှာမဟုတ်လား"

"ဒီလိုမပြောပါနဲ့ညီမလေးရယ်၊ ညီမလေးကတောင် ဒီလိုပြော တယ်ဆိုယင် အစ်ကို့မှာ ဘယ်မှာနေစရာရှိပါတော့မလဲ။ ညီမလေးဟာ အလျင်နဲ့ကိုမတူဘူး၊ ခုတလောမှာ သိပ်ရက်စက်တာပဲ။ သံသယကလဲကြီး ပါတိသနဲ့"

ဒေါ်လေးဆွေ့က

"သူ့ကိုတော့ မင်းကရက်စက်တယ်ပြောတယ်၊ မင်း မနေ့ညက ပြောတာတွေကတော့ မရက်စက်ဘူးတဲ့လား။ မနေ့ညကမူ လိုက်ဘာကလဲ ပေါင်ချာစိုင်းနေတာပဲ၊ သတိဘောင်မှရရဲ့သား မပြောတတ်ပါဘူး"

"စိတ်မဆိုးပါနဲ့မေမေ၊ စိတ်မဆိုးပါနဲ့ညီမလေး။ နောင်ဆိုယင် ဒီကောင်တွေနဲ့အရက်သောက်ပြီး ရမ်းကားတာမျိုးတွေ မလုပ်တော့ပါ ဘူး၊ ကတိပေးပါတယ်။ ကျေနပ်ပြီမဟုတ်သား"

ပေါက်ကြည် ပြုံးနေလေ၏။

"ဒါဖြင့် အစ်ကို သတိတရားလေးဘာလေးရလာပြီပေါ့"

"ကြည့်ရဦးမှာပေါ့လေ၊ မင်းကတိတည်တယ်ဆိုယင်တော့ နဂါး တွေလဲ ကောင်းကောင်းဥအုနိုင်ပြီပေါ့"

"တကယ်ပါညီမလေးရယ်၊ နောက်တစ်ခါမှာ အစ်ကို ဒီကောင် တွေနဲ့ပေါင်းတယ်ဆိုယင် အစ်ကို့ကို လူပုံသယ်မှာ တံတွေးနဲ့ထွေးပါ။ အစ်ကို့ကို လူလို့မခေါ်ဘဲ တိရစ္ဆာန်လို့ခေါ်ပါ။ အစ်ကို့ကြောင့် ညီမ လေးတို့နှစ်ယောက် စိတ်ဒုက္ခမရောက်စေချင်ပါဘူး၊ အမေ စိတ်ဆင်းရဲ

အောင်လုပ်တာကိုကပဲ လုန်လုပါပြီ။ ဒီကြားထဲမှာ ညီမလေးကိုပါ စိတ်အနှောင့်အယှက်ဖြစ်အောင်လုပ်တယ်ဆိုယင် အစ်ကို ဘယ်ကောင်းပါတော့မလဲ၊ လူလိုတောင် ခေါ်လို့မကောင်းတော့ဘူး။ တကယ်တော့ ဖေဖေမရှိတဲ့နောက်မှာ အစ်ကိုဟာ မိဘမိခင်ကို လုပ်ကျွေးဖို့ကောင်းတာပေါ့။ ဒါပေမယ့် ခုတော့ ညီမလေးတို့နှစ်ယောက်လုံးကို စိတ်ဒုက္ခရောက်အောင်လုပ်ခဲ့မိတယ်။ အစ်ကိုဟာ လူမိုက်ထက်တောင်ဆိုးနေပြီ"

ထိုသို့ပြောဆိုနေရင်း ဆွေ့ဖန်၏ မျက်လုံးမှ မျက်ရည်တွေ စီးကျလာကြ၏။ သားမျက်ရည်ကျသည်ကိုမြင်လျှင် မိခင်ကြီးမှာလည်း မနေနိုင်တော့သည့်အတွက် ပေါက်ကြည်က

"တော်ပါတော့အစ်ကိုရယ်၊ ဒုက္ခတွေပေးခဲ့ပေါင်းများလှပါပြီ။ မေမေမျက်ရည်ကျအောင်လုပ်ဖို့ မကောင်းပါဘူး"

ဆွေ့ဖန်က မျက်ရည်များကိုလျှင်မြန်စွာသုတ်ကာ ပြုံးလိုက်ပြီးနောက်

"မျက်ရည်ကျအောင်လုပ်တာမဟုတ်ပါဘူးကွယ်။ ကဲ တော်ပါပြီ၊ ဒီအကြောင်းတွေ မပြောကြပါနဲ့တော့၊ မေ့လိုက်ပါတော့။ ယင်လင်းကိုခေါ်ပြီး လက်ဖက်ရည်အငွေ့ခိုင်းလိုက်မယ်"

"တော်ပါပြီ၊ မသောက်တော့ပါဘူး။ မေမေအဆင်သင့်ဖြစ်ယင် ညီမလေးတို့ ဥယျာဉ်ထဲကိုသွားကြတော့မယ်"

"ညီမလေးရဲ့ဘယက်ကို ပြစမ်းပါဦး၊ ကြည့်ရအောင်။ နောက် ရွှေရောင်တင်ဦးမလား"

"မလိုပါဘူး၊ ရွှေရောင်လက်နေသေးတာပဲ"

"ငါ့ညီမ အဝတ်အစားသစ်တွေဘာတွေလဲ ဝယ်စမ်းပါဦးဟယ်။ ညီမလေး ဘယ်လိုအရောင်တွေ ဘယ်လိုအဆင်တွေကြိုက်သလဲ"

"ပေါက်ကြည်မှာရှိတာတွေတောင် အကုန် မဝတ်ရသေးဘူး၊ ဘာဖြစ်လို့အသစ်ဝယ်မလဲ"

ထိုအချိန်တွင် ဒေါ်လေးဆွေ့မှာ အဝတ်အစားလဲပြီးပြီဖြစ်သည့်အတွက် သူတို့သားအမိနှစ်ယောက်သည် ဥယျာဉ်ဘက်သို့ ထွက်လာခဲ့ကြလေ၏။ ဆွေ့ဖန်မှာလည်း အပြင်သို့ထွက်သွား၏။





ပေါက်ယု၏အခြေအနေကို မေးမြန်းရန်အတွက် နီမောင်းပျော်ဖွယ်ရိပ်သာသို့ ရောက်လာသည့်အခါ၌ ဥယျာဉ်တွင်ရပ်နေသည့် အစေတော်များပြောပြချက်အရ မယ်မယ်နှင့် သခင်မငမ်တို့လည်း ရောက်နေသည်ဟုသိရ၏၊ ဒေါ်လေးဆွေ့သည် မယ်မယ်နှင့်တကွ သခင်မငမ်တို့အားလုံးကိုနှုတ်ဆက်ပြီးနောက် ပေါက်ယုအခြေအနေ မည်သို့ရှိသနည်းဟု မေးမြန်းလေ၏။ ပေါက်ယုက ထိုင်ဖုံပေါ်တွင် ထထိုင်လိုက်ပြီးလျှင်

"ကောင်းပါပြီ ဒေါ်လေးရယ်၊ ဒေါ်လေးတို့ကလဲ ဒုက္ခရှာလို့ အလကားလာမေးနေတာယ်"

"လိုတာ၊ စားချင်တာရှိယင်လဲပြောနော်"

"ဟုတ်ကဲ့ဒေါ်လေး၊ ပြောပါ့မယ်"

"ငါ့သား ဘာများစားချင်သလဲ၊ မေဖျား အပို့လွှတ်လိုက်မယ်လေ"

"သိပ်တောင့်တောင့်တတတော့ မရှိပါဘူး မေဖျားရယ်။ ဒါပေမယ့် တစ်ခါတုန်းက မေဖျားချက်ပေးတဲ့ ကြာရက်နုနုလေးတွေနဲ့ ကြာစေ့နဲ့ပြုတ်ထားတဲ့ဟင်းချိုတော့ သောက်ချင်သလိုလိုပဲ"

နတ်ငှက်မယ်က ရယ်လိုက်လျက်

"မောင်စားချင်တာက ရှားရှားပါးပါးထဲကတော့ မဟုတ်ပါဘူး။ ဒါပေမယ့် ကြုံကြုံဖန်ဖန်နိုင်လွန်းလှတယ်"

"လုပ်ပေးလိုက်စမ်း၊ လုပ်ပေးလိုက်စမ်း"ဟု မယ်မယ်က အမိန့်ပေးလိုက်၏။

"အံမယ်လေး၊ ဒီသောက်လဲ လောမနေနဲ့ဦးမယ်မယ်ရဲ့၊ ကြာစေ့ပြုတ်တဲ့ခွက်ကလေးတွေ ဘယ်ရောက်နေသလဲမသိဘူး၊ စဉ်းစားရဦးမယ်"

နတ်ငှက်မယ်သည် အစေတော်အဘွားကြီး တစ်ယောက်ခေါ်ကာ စားဖို့ဆောင်ထံသို့ခွက်ကလေးများယူရန် လွှတ်လိုက်လေ၏၊

ကြာကြာလျှင် အစေခံအဘွားကြီး ပြန်ရောက်လာကာ

"ကြာစေ့ပြုတ်တဲ့ခွက်ကလေးတွေကို ပြန်ပို့လိုက်ပြီလို့ ပြောပါတယ် သခင်မလေး"

"ဘယ်သူ့များ အသိမ်းခိုင်းမိသလဲမသိဘူး၊ မီးဖိုထဲက ပစ္စည်းခန်းထဲမှာများ ရှိမလားမသိဘူး"

နတ်ငှက်မယ်သည် ပစ္စည်းထိန်းထံသို့ အမေးခိုင်းလိုက်ပြန်၏။ သို့ရာတွင် ထိုနေရာတွင်လည်း မရှိပြန်ချေ။ နောက်ဆုံးတွင် ရွှေပန်းကန်ပြားနှင့် ငွေပန်းကန်ပြားတို့ကို သိမ်းသည့်ပစ္စည်းထိန်းချုပ်က ထိုခွက်များကို ပို့လိုက်လေ၏။

ဒေါ်လေးဆွေ့သည် ကြာစေ့ဖုတ်သည့် ခွက်ကလေးများထည့်သည့်သေတ္တာကလေးကိုကောက်ကိုင်ကာသေသေချာချာကြည့်လျက်ရှိလေ၏။ ထိုခွက်ကလေးမှာအရှည်တစ်ပေသာသာ၊ အကျယ်တစ်လက်မသာသာခန့်ရှိ၍ ပဲစေ့သာသာအရွယ်လောက်ကလေးရှိသည့် ခွက်ကလေးများထွင်းထားပြီးလျှင် အချို့မှာ သစ္စာပန်းပွင့်ပုံ၊ အချို့မှာ ဆီးတော်ပွင့်ပုံ၊ အချို့မှာ ကြာရွက်ပုံ၊ အချို့မှာ လေးညှင်းပွင့်ပုံသည်ဖြင့် အမျိုးမျိုးပုံဖော်ထားလေ၏။

ဒေါ်လေးဆွေ့က မယ်မယ်နှင့်သခင်မဝမ်ဘက်သို့ လှည့်ကာ

"မယ်မယ်တို့စံအိမ်ကြီးကတော့ အလှအာအရာမှာ စံထားထိုက်ပါတယ်ရှင်။ ဟင်းချိုရည် တစ်ခွက်ထဲကို ထည့်ဖို့ ပစ္စည်း ကလေးတွေကို လုပ်ထားတာကိုက ပုံစံအမျိုးမျိုးပဲနော်။ တကယ်လို့သာမပြောယင် ဘာမှန်းတောင်သိမှာမဟုတ်ဘူး"

နတ်ငှက်မယ်က ပြုံးလိုက်လျက်

"နှစ်က ထိပ်ထားလေးကြွလာတုန်းက စားတော်ဆက်များက စိတ်ကူးရကြတယ်လေ ဒေါ်လေးရဲ့။ ဂျုံမှုန့်လုံးလေးတွေကိုကြာရွက်စိမ်းနဲ့ပတ်ပြီး ပြုတ်ရတယ်။ ဒါပေမယ့် အဓိကကတော့ ဟင်းချိုရည် ပြုတ်တာက အဓိကပေါ့လေ၊ သူကတော့ အလှအပပါ။ ဒီလောက် ကရိကထများတာ တော်တော့်အိမ်မှာ ဘယ်စားနိုင်သောက်နိုင်ပါ့မလဲ ဒေါ်လေးရယ်။ ငှက်မယ်တို့တောင် ဒီခွက်ကလေးတွေရမှ တစ်ခါပဲပြုတ်သောက်ဖူးသေးတယ်။ ခုတော့ မောင်က ကြုံကြုံဖန်ဖန် ဒီဟင်းချိုရည်ကို သတိရသတဲ့လေ"ဟု ပြောကာ နတ်ငှက်မယ်သည် ဟင်းချိုရည်ပြုတ်သည့်ပစ္စည်း





များ ထည့်သောသေတ္တာကလေးကို အစေခံတော်တစ်ယောက်ကိုလှမ်းပေးလိုက်ရင်း

"စားဖိုကဲကို ပြောလိုက်၊ ကြက်ပေါင်ပြီး လူဆယ့်နှစ်ယောက်စာသောက်အတွက် ဟင်းချိုကောင်းကောင်း ပြုတ်ခဲ့ပါလို့ပြောလိုက်"

"များလှချည်လား ငှက်မယ်ရဲ့"

"မများပါဘူး မယ်မယ်ရဲ့၊ ဒါမျိုးဆိုတာ ဆယ်ပေါ့တစ်ခါစားဖြစ်သောက်ဖြစ်တာ။ ခုမောင့်ဖို့ပြုတ်တော့ မယ်မယ်တို့ ဒေါ်လေးဆွေ့တို့လဲ သောက်ရတာပေါ့၊ ငှက်မယ်တို့လဲ မြည်းစမ်းကြည့်ရတာပေါ့"

မယ်မယ်က ပြုံးကာ

"ချောက်မကလေးကတော့ တကယ်ဘယ်၊ သူကြီးတုန်း၊ ရှာသား ကောင်းမှုလုပ်တာပေါ့၊ ဟုတ်လား"

အားလုံးကပြုံးရယ်လိုက်သည့်အခါတွင် နတ်ငှက်မယ်ကပြုံးလျက်

"ရပါတယ်မယ်မယ်ရဲ့။ ဒီလောက်ကတော့ နတ်မယ် အကုန်အကျခံနိုင်ပါတယ်"ဟု ပြောကာ အစေခံဘက်သို့လှည့်လိုက်ပြန်လျက်

"စားဖိုကဲကို ပြောလိုက်၊ အခေါင်းဆုံးလုပ်ပါလို့၊ ပြီးယင် ငါ့စာရင်းထဲ ထည့်လိုက်လို့ပြော"

အစေခံထွက်သွားသည့်အခါတွင် ပေါက်ကြည်က

"ဒီကိုရောက်လို့ ပေါက်ကြည် သတိထားလာခဲ့တာ၊ မလေးငှက်မယ် ဘယ်လောက်ပဲ ပါးတယ် ပြောပြော၊ မယ်မယ့်ကိုတော့ မမီသေးဘူးနော်"

မယ်မယ်က

"ငါက အသက်လဲကြီးပါပြီအေ၊ ဉာဏ်လဲသိပ်မသွားတော့ပါဘူး။ ဒါပေမယ့် သူ့အရွယ်တုန်းကသာဆို ငှက်မယ် မယ်မယ့်ကိုဘယ်မီပါ့မလဲ၊ လွှထက်သာတာပေါ့။ ငှက်မယ်က ငါ့သို့သာမမီတာပါအေ့၊ သူ့ဒေါ်လေးဝမ်ဆက်တော့ သာပါတယ်။ ညည်းတို့ဒေါ်လေးဝမ်ကတော့ ပြောမနေနဲ့၊ သစ်တုံးပဲ၊ ဘာဆိုဘာမှပြောတာမဟုတ်ဘူး။ ခုတော့ ငှက်မယ်စားတတ်လွန်းလို့ ငှက်မယ်ကိုပဲ ချစ်နေကြရတာပေါ့"

ပေါက်ယုက ရယ်လိုက်လျက်

"ဒါဖြင့် မယ်မယ်က စကားများတဲ့လူကိုချစ်ပြီး စကားမများတဲ့လူကို မချစ်ဘူးဆိုပါတော့"

"အို၊ ဒီလိုတော့လဲ မဟုတ်ရပါဘူးကွယ်။ နှုတ်ချိုတဲ့ လူများမှာ သူတို့နည်းနဲ့သူတို့ ချတ်ယွင်းချက်ရှိသလို စကားနည်းတဲ့လူများမှာလဲ သူတို့နည်းနဲ့ သူတို့ ကောင်းတာတွေ ရှိတာပေါ့"

"ဒီလိုလဲလုပ်ပါဦး မယ်မယ်ရယ်၊ မလေးလီဝမ်းဆိုယင် စကားသိပ်မပြောဘူးမဟုတ်လား၊ ဒါပေမယ့် သူ့ကျတော့လဲမယ်မယ်က မလေးငှက်မယ်ကို ချစ်သလိုချစ်သားပဲ။ စကားပြောကောင်းတဲ့သူကိုမှ မယ်မယ်ချစ်တယ်ဆိုယင် မလေးငှက်မယ်နဲ့ မလေးထိုက်ယုတို့နှစ်ယောက်ကိုပဲ ချစ်စရာရှိတော့မှာပေါ့"

မယ်မယ်က

"ကလေးမတွေအကြောင်း စကားစပ်မိလို့ ပြောလိုက်ရဦးမယ်။ သူ့အမေ ဒေါ်လေးဆွေ့ ရှေ့မှာမို့လို့ ပြောတာမဟုတ်ပါဘူး၊ တို့အိမ်က မိန်းကလေး လေးယောက်ကဖြင့် ပေါက်ကြည်နဲ့ ယှဉ်လိုက်ယင် နောက်ကျ ကျန်ရစ်ခဲ့တာပဲ"

ဒေါ်လေးဆွေ့က ကျေနပ်စွာပြုံးကာ

"ဒါတော့ မယ်မယ်က ဘက်လိုက်ပြောတာပါ"

"ဘက်လိုက်တာမဟုတ်ဘူး၊ မယ်မယ်က ငါ့ကိုပြောနေတာကြာလှပြီ။ ပေါက်ကြည်က တော်တဲ့အကြောင်းကို ငါ့ကို ခဏခဏပြောတယ်" ဟု သခင်မဝမ်ကပြောလေ၏။

ထိုစဉ် နေ့လယ်စာ ပြင်ပြီးကြောင်း လာပြောသဖြင့် မယ်မယ်သည် ထိုင်ရာမှ ထလိုက်လေ၏။ မယ်မယ်သည် ပေါက်ယုအား ကောင်းကောင်းအနားယူရန်နှင့် အစေတော်များအား ပေါက်ယုကို ကောင်းစွာပြုစုစောင့်ရှောက်ရန် ပြောပြီးနောက် နှတ်ငှက်မယ်၏ လက်ကိုတွဲကာ ဒေါ်လေးဆွေ့အား ရှေ့မှသွားရန် ပြောလေ၏။ ဟင်းချို အဆင်သင့်ဖြစ်မဖြစ်ကို မေးမြန်းသည့်အခါတွင် ဒေါ်လေးဆွေ့တို့တစ်သိုက်မှာ မည်သည့်အစာမျိုးကို စားရလေမည်နည်းဟု စိတ်ကူးလျက် ရှိကြလေ၏။





"စားလို့ကောင်းတာ ထူးထူးဆန်းဆန်းတွေ့ယင် ငါ့ကိုပြောကြနော်။ ဟောဒီ ရုပ်တေးမငှက်မယ် ဘယ်လို စီမံခိုင်းထားတယ်ဆိုတာ ငါပြောပြမယ်"

ဒေါ်လေးဆွေ့က

"မယ်မယ်က ငှက်မယ်ဆိုယင် သိပ်စတာပဲနော်။ ငှက်မယ်လဲ မယ်မယ်အတွက် စီမံချက်ပြုတ်ခိုင်းလိုက်ရတာ အမောပဲ၊ ပြီးတော့ မယ်မယ်က သိပ်လဲစားနိုင်တာမဟုတ်ဘူး"

ငှက်မယ်က

"အံမယ်လေး၊ အချိုးကျူးမစောနဲ့ဦး ဒေါ်လေးဆွေ့ရေး လူသားများ မပုပ်ဘူးဆိုယင် ခုလောက်ဆို မယ်မယ်ဟာ ငှက်မယ့်ကိုတောင်စားပြီးရော့မယ်"

အားလုံးမှာ နှတ်ငှက်မယ်စကားကို ပွဲကျသွားလေ၏။ ပေါက်ယုမင်လျှင် ခုတင်ပေါ်တွင် လှဲနေရာမှ ရယ်မောလျက် ရှိနေလေ၏။

"ဟောဒီမလေးငှက်မယ်ဟာ တစ်ချက်မှမခံဘူး၊ တော်တော်ကိုစွာတယ်"ဟု မလာဇ ပြုံး၍ပြောလေ၏။

ပေါက်ယုသည် မာလာ၏လက်ကို လှမ်းဆွဲကာ သူ့အိပ်ရာပေါ်တွင် အထိုင်ခိုင်းလိုက်၏။

"ရုပ်နေရတာ မာလာညောင်းလှရောပေါ့ မာလာရယ်"

"အလို ကြည့်စမ်း၊ မေ့တတ်လိုက်တာ။ မလေး ပေါက်ကြည်မသွားခင် ယင်အဲကိုလွှတ်လိုက်ဖို့ မှာလိုက်ပါလား၊ ပိုက်ကွန်ကလေးတွေ အရက်ခိုင်းချင်လို့ဆို"

"ဟုတ်သားပဲ၊ မှာလိုက်စမ်းပါ"

ပေါက်ယုသည် အိပ်ရာပေါ်တွင် ထထိုင်လိုက်ကာ ပြတင်းပေါက်မှနေ၍ ပေါက်ကြည်ကို လှမ်းခေါ်လိုက်၏။

"မလေးတို့ ထမင်းစားပြီးယင် ယင်အဲကို လွှတ်လိုက်ပါလား။ လူအားယင် ပိုက်ကွန်ကလေးတွေ အထိုးခိုင်းချင်လို့"

ပေါက်ကြည်က နောက်ပြန်လှည့်၍

"လွှတ်လိုက်မယ်၊ လွှတ်လိုက်မယ် ခုပဲ လွှတ်လိုက်မယ်"

သူတို့စကားကို မကြားလိုက်သူ အချို့က ပေါက်ယုက ဘာ ပြောင်းသနည်းဟု ပေါက်ကြည်ကိုမေးကြ၏။ ပေါက်ကြည်က ပြောပြ သည့်အခါတွင် မယ်မယ်က

"ယင်အဲက သဘော ကောင်းရှာပါတယ်ကွယ်၊ သူမှာတဲ့အတိုင်း လွှတ်လိုက်ပါ။ လိုသေးဘယ်ဆိုယင် မယ်မယ့်ဆီမှာ အားနေတဲ့ ကောင်မ လေးတွေ အများကြီးရှိသေးတယ်။ လိုယင် အခေါ်လွှတ်လိုက်"

'ကျွန်မတို့မှာ မလိုပါဘူး မယ်မယ်ရဲ၊ ယင်အဲမရှိလဲ အလုပ်က ပြီးပါတယ်၊ တကယ်တော့ ယင်အဲဆိုတာ နေ့တိုင်း ဘာမှဒိသောက် အလုပ်ရှိလှတာမဟုတ်ဘူး၊ အားအားရှိ ထိုင်နေတာပဲ။ ခုလိုအလုပ်ရှိတော့ ကောင်းတာပေါ့၊ စိတ်မလေဘူးပေါ့"

ထိုသို့ပျော်ကြသည့် ဥယျာဉ်ထဲတွင် ပန်းကောက်နေကြသည့် ဆိုင်ယွန်း၊ ယင်လင်း၊ ပင်အဲ စသူတို့တွေ့သဖြင့် သူတို့နှင့် စကားပြောကြ ပြီးနောက် ဥယျာဉ်ထဲမှ အတူတူ ထွက်လာခဲ့ကြလေ၏။

မယ်မယ်ပင်ပန်းနေမည်စိုးသဖြင့် သခင်မဝမ်က သူ့ယောက္ခမ ဖြစ်သူမယ်မယ်အား သူ့အဆောင်တွင် ခဏတစ်ဖြုတ် နားရန် ပြော လေ၏။ မယ်မယ် မှာသည်း ခြေထောက်တွေ အောင့်လှပြီဖြစ်သည့် အတွက် ချွေးမဖြစ်သူ၏ အဆောင်တွင်နားရန် သဘောတူ လိုက်လေ၏၊ အစေတော်များသည် အဆောင်တွင် နေရာထိုင်ခင်း အသင့်ပြင်ဆင်ထား ရန် ရှေ့မှ ထွက်သွားကြလေ၏။ ထိုအချိန်တွင် အမြှောင်ဖြစ်သူ ချော မှာ နေထိုင်မကောင်းဟုဆိုကာ အဆောင်သို့ မလာသဖြင့် အမြှောင် ဖြစ်သူ ချူတစ်ယောက်တည်းသာလျှင် အစေတော်များကို ကူညီလုပ်ကိုင် ပေးလျက်ရှိ၏။ အစေတော်များသည် ခန်းဆီးများကို မ,တင်ကာ မီအုံးများ၊ ထိုင်ဖုံများကို ထုတ်လာကြလေ၏။ မယ်မယ်သည် နတ်ငှက် မယ်ကိုမှီတွဲကာ အဆောင်ထဲသို့ ဝင်လာခဲ့ပြီး ဒေါ်လေး ဆွဲ့နှင့်အတူ ခေါင်းရင်းဘက်တွင် တိုင်လျက်ရှိ၏။ ပေါက်ကြည်နှင့် ဆိုင်ယွန်းတို့က အောက်မှထိုင်ကြ၏။ သခင်မဝမ်သည် မယ်မယ့်အတွက် လက်ဖက်ရည်ကို ကိုယ်တိုင်ငှဲ့ပေးပြီးလျှင် ဒေါ်လေးဆွဲ့အား လီဝမ်းထငှဲ့ပေး၏။





မယ်မယ်က

"နေပါစေအေ၊ ကလေးတွေငှဲ့ပေးပါလိမ့်မယ်၊ ညည်းကိုယ်တိုင် လုပ်မနေပါနဲ့။ တို့နားသာထိုင်ပြီး စကားပြောလှည့်ပါ"

သခင်မဝမ်သည် အောက်က ခွေးခြေကလေးတစ်လုံးပေါ်တွင် ထိုင်ကာ မယ်မယ့်အတွက် စားစရာယူခဲ့ရန် နတ်ငှက်မယ်ကို ခိုင်းလိုက်၏။ နတ်ငှက်မယ်သည် ထွက်သွားကာ မယ်မယ်အတွက် စားဖွယ်တို့ကိုယူလာ လို့ မယ်မယ်၏အစေတော်များကို အကြောင်းကြားရန် ဒေါ်လေးဝမ်၏ အစေတော်များကိုခိုင်းလိုက်လေ၏။ သခင်မဝမ်ကမူ အစေတော်များ အားလွှတ်၍ မိန်းမပျိုများကို အခေါ်လွှတ်လိုက်၏။ အတန်ကြာသည့် အခါတွင် တန်ချွန်းနှင့် ဆီချွန်းတို့သာရောက်လာ၏။ ယင်ချွန်းမှာ ထိုနေ့ က စားသောက်လိုစိတ် မရှိသည့်အတွက် မလာတော့ချေ။ ထိုက်ယုမှာ လည်း အစားအသောက်နည်းပြီး တစ်ခါစားပြီးလျှင် တစ်နေ့တွင်ထမင်း တစ်နပ်သာ စားလေ့ရှိသည့်အတွက် သူ့ကို အမှတ်တမဲ့ဖြစ်နေကြ၏။

ခဏကြာလျှင် စားဖွယ်သောက်ဖွယ်များရောက်လာကြကာ စားပွဲ များကို ခင်းကျင်းပြီးသွား၏။

နတ်ငှက်မယ်က လက်သုတ်ပဝါတစ်ထည်ဖြင့်ပတ်ထားသော ဆင် စွယ်တူများကိုယူလာကာ

"မယ်မယ်နဲ့ ဒေါ်လေးဆွဲ့ကတော့ ကြိုက်သလောက် စားကြ နော်၊ အားမနာနဲ့။ ဒါပေမယ့် ငှက်မယ်ပြောတဲ့အတိုင်းစားရမယ်"

"တို့အိမ်မှာတော့ သူ့အမိန့်အတိုင်း လိုက်နာနေရတာပဲအေ့" ဟု မယ်မယ်က ဒေါ်လေးဆွဲ့ကို လှမ်းပြောလိုက်၏။

နတ်ငှက်မယ်သည် ဆင်စွယ်တူတစ်စုံကို မယ်မယ်၊ ဒေါ်လေး ဆွဲ့၊ ပေါက်ကြည်နှင့် ရှိမ်းယဉ်တို့ရှေ့သို့ အသီးသီး လာချပေး၏။ သခင်မဝမ်နှင့် လီဝမ်းတို့က ဟင်းလျာပန်းကန်များကို လိုက်ချနေကြ၏။ ထိုနောက် နတ်ငှက်မယ်သည် ပန်းကန်ပြား, သန့်သန့်များကိုတောင်းကာ ပေါက်ယုထံပို့ရန် ဟင်းများကို ရွေးထည့်လျက်ရှိလေ၏။

ကြာရိုး ဟင်းချိုရောက်လာ၍ မယ်မယ်က မြည်းကြည့်ပြီးသည့် အခါတွင် သခင်မဝမ်က သူ့နောက်တွင်ရပ်နေသည့် ယင်ချွန်းအား ပေါက်ယုထံ ဟင်းအပို့ခိုင်းလိုက်၏။

"ဒေါ်လေးကလဲ ဒီဟင်းပွဲတွေအားလုံးကို သူတစ်ယောက်တည်း ဘယ်နိုင်ပါ့မလဲ ဒေါ်လေးရဲ့" ဟု နက်ငှက်မယ်က ပြော၏။

ထိုစဉ် အစေတော်များဖြစ်သည့် ယင်အဲနှင့် ဆီအဲ့တို့ ရောက်လာကြလေ၏။ သူတို့မှာ ထမင်းစားပြီးမှ လာခြင်းဖြစ်ကြောင်း ပေါက်ကြည်သိလိုက်၏။ ပေါက်ကြည်က ယင်အဲကိုလှမ်း၍

"မောင်လေးပေါက်ယုက ညည်းကိုမေးနေတယ်၊ ပိုက်ကလေးတွေ အထိုးခိုင်းချင်လို့တဲ့။ ယုချွန်းကိုခေါ်ပြီးသွားလိုက်"

သူတို့နှစ်ယောက်က ထွက်သွားမည်ပြုစဉ် ယင်အဲက

"ဒီလောက်ပူတဲ့ ဟင်းချိုတွေကို ကျွန်မတို့ ယူလို့မနိုင်ဘူးထင်တယ်"

"မပူပါနဲ့အေ၊ ငါကြည့်စီမံပါ့မယ်" ဟု ယုချွန်းကပြောလေ၏။

ယုချွန်းသည် အစေတော်အဘွားကြီးတစ်ယောက်ကို ခေါ်ကာ ဟင်းချိုပန်းကန်နှင့် အခြားဟင်းပန်းကန်များကို လက်ဆွဲချင်းတစ်လုံးထဲတွင်ထည့်၍ အဆွဲခိုင်းခဲ့ပြီး သူတို့နှစ်ယောက်မှာ ဘာမျှမယူဘဲ စကားတပြောပြောဖြင့် နံမောင်း ပျော်ဖွယ်အဆောင်ဘက်သို့ ထွက်လာခဲ့ကြလေ၏။ ထိုနောက် သူတို့သည် ရှေ့ကသွားနှင့်သော အစေတော်အဘွားကြီးကို မီလာကြကာ သုံးယောက်သား အဆောင်ထဲသို့ ဝင်ခဲ့ကြလေ၏။ ပေါက်ယုအား အပျင်းပြေ ပျော်တော်ဆက်နေကြရသည့် မာလာ၊ ရှေ့ယွေ့နှင့် ချင်ဝမ်တို့သည် သူတို့ကို မြင်သည့်အခါတွင် ထ၍နှုတ်ဆက်ကြပြီး

"ညည်းတို့နှစ်ယောက်က ဘယ်လိုလုပ်ပြီး အတူတူ ရောက်လာကြတာလဲ" ဟု ဆိုကာ ဆွဲချင်းကို လှမ်းယူလိုက်လေ၏။

ယုချွန်းက ကုလားထိုင်တစ်လုံးပေါ်သို့ ပစ်ထိုင်လိုက်သော်လည်း ယင်အဲမှာမထိုင်ချေ။ မာလာသည် ခွေးခြေတစ်လုံးကို ဆွဲယူကာ ယင်အဲကို အတင်းတိုင်ခိုင်းလေ၏။





ပေါက်ယုမှာ ယင်အဲရောက်လာသဖြင့် ဝမ်းသာသွားသော်လည်း ယုချွန်း(ရေတွင်းထဲသို့ ခုန်ဆင်းသွားသည့် ချင်ချွန်း၏အစ်မ) လိုက်ပါလာသည်ကို မြင်ရသည့်အခါတွင် ရှက်အမ်းအမ်း ဖြစ်ရုံမျှမက ချင်ချွန်းကို အမှတ်ရကာ စိတ်မကောင်းဖြစ်လျက်ရှိလေ၏။ ထို့ကြောင့် ယုချွန်းကို ဦးစားပေး၍ နှုတ်ဆက်လေ၏။ မာလာမှာ ဤသည်ကို မြင်လျှင် ယင်အဲ စိတ်မကောင်းဖြစ်မည်စိုးသည့်အတွက် ယင်အဲကလည်း ထိုင်စရာပေးသည်ကိုပင် မထိုင်ဘဲနေသဖြင့် အပြင်ခန်းသို့ခေါ်၍ လက်ဖက်ရည်တိုက်ကာ စကားစမြည်ပြောနေရလေ၏။

ရှေ့ယွေ့နှင့် အခြားအစေတော်များသည် ပေါက်ယု ထမင်းစားရန်အတွက် ပန်းကန်များကို ယူလာကြ၏။ သို့ရာတွင် ပေါက်ယုမှာ ထမင်းကိုပင် မစားနိုင်သေးဘဲ ယုချွန်းနှင့် စကားပြောနေလေ၏။

"နင့်အမေကော နေကောင်းရဲ့လား"

ယုချွန်းသည် တစ်ခွန်းမျှ ဖြဘဲ မျက်နှာမှင်ကုတ်၍ မျက်နှာလွှဲထား၏။ အတန်ကြာမှ

"ကောင်းပါတယ်" ဟု သံပြတ်ဖြင့် ဖြေလေ၏။

ပေါက်ယုမှာ အနေရကျပ်နေ၏၊ သူတို့နှစ်ယောက်သည် အတန်ကြာမျှတိတ်ဆိတ်နေကြ၏။ ပေါက်ယုသည် နောက်တစ်ခါ စကားပြောကြည့်ပြန်၏။

"နင့်ကို ဘယ်သူက ထမင်းအပို့ခိုင်းလိုက်တာလဲ"

"ဘယ်သူရှိရမလဲ၊ သခင်မကြီးနဲ့ သခင်မလေးတွေကပေါ့"

ယုချွန်းက သူ့ကို မကျေမနပ် ဖြစ်နေခြင်းမှာ အခြားကြောင့်မဟုတ်၊ သူ့တို့ညီမ ချင်ချွန်းကိစ္စကြောင့်ဖြစ်သည်ကို ပေါက်ယု သိသဖြင့် ပေါက်ယုသည် ယုချွန်းစိတ်ပြေအောင် အမျိုးမျိုးကြိုးစားကြည့်၏။ သို့ရာတွင် အခြားသူများရှေ့တွင် ယုချွန်းအား လေချိုသွေးရမည်ကို ရှက်သဖြင့် ပေါက်ယုသည် ကျန်အစေတော်များအားလုံးကို အကြောင်းရှာ၍ခိုင်းလိုက်ပြီးနောက် ယုချွန်းအား တတ်နိုင်သမျှကြိုးစား၍ ချော့မော့လေ၏။ ယုချွန်းသည် ပေါက်ယုကို ခပ်စိမ်းစိမ်းဆက်ဆံလိုသည့်တိုင် မိမိ ရှိန်းပျ

စာဆက်ဆံသည်ကို သည်းခံသည့် ပေါက်ယုကိုမြင်လျှင် အားနာသွားကာ စိတ်ပြေသွား၏။ ထို့ကြောင့် ယုချွန်းမှာ ရှက်အမ်းအမ်းဖြစ်လျက်ရှိ၏။

ယုချွန်း၏မျက်နှာ ကြည်လင်လာသည်ကို မြင်သည့်အခါတွင် ပေါက်ယုက

"ကဲ ညီမရယ်၊ ဟင်းချိုပန်းကန်လေး လှမ်းလိုက်ပါကွာ။ မြည်းကြည့်ရအောင်"

"ကျွန်မက ဘယ်သူ့ကိုမှ ကျွေးဖူး မွေးဖူးတာမဟုတ်ဘူး၊ တစ်ယောက်ယောက်လာအောင် စောင့်ပါဦးလား"

"မင်းကျွေးစရာမလိုပါဘူး၊ ငါ့ဘာသာငါ အိပ်ရာထဲက ထ စားမှာပါ။ ဒါပေမယ့် ငါက အိပ်ရာကမထနိုင်သေးဘူးကွာ၊ ငါ့ဆီကိုသာ ဟင်းချိုပန်းကန်လေးလှမ်းလိုက်ပါ။ ပြီးတော့ မင်းလဲ ထမင်းမစားရသေးယင် ပြန်စားချည်ဦးပေါ့၊ စားပြီးမှလာခဲ့ပေါ့။ မင်းကို အနားမှာပြီးစားနေလို့ ဘယ်ကောင်းမလဲ။ မင်းယူမပေးဘူးဆိုယင်လဲ ကိုယ့်ဘာသာကိုယ် ယူရတော့မှာပေါ့။ ဒဏ်ရာကနာပေမယ့် ဘယ်တတ်နိုင်တော့မလဲ"

ပေါက်ယုက အိပ်ရာမှထလိုက်၏။ သို့ရာတွင် ညည်းတွားကာ ပြန်ထိုင်လိုက်၏။ ယုချွန်းမှာ ငြိမ်းရက်တော့ချေ။

ယုချွန်းသည် ထိုင်ရာမှထလာပြီးနောက်

"ကဲကဲ အိပ်သာနေပါ၊ သခင်လေးကြည့်ရတာ မသက်သာလိုက်တာ။ အဲဒါ အလျင်ဘဝတုန်းက အကုသိုလ်တွေများခဲ့လို့ ဒီလိုဖြစ်တာ သိရဲ့လား"

ယုချွန်းက ခပ်ပြုံးပြုံးဖြင့် ဟင်းချိုပန်းကန်ကို ယူပေး လိုက်၏။ ပေါက်ယုက လေပျော့ကလေးဖြင့်

"ညီမရယ်၊ မင်း ငါ့ကိုစိတ်ဆိုးတယ်ဆိုယင် ဒီလိုနေရာမှာပဲ စိတ်ဆိုးပါ၊ မယ်မယ်တို့ မေဖျားတို့ရှေ့မှာဆိုယင်တော့ ဒီလို မဆက်ဆံပါနဲ့။ တော်တော်ကြာ သူတို့မြင်သွားယင် မင်းကို စိတ်ဆိုးပြီး အကြိမ်းခံနေရမယ်"

"ကိုယ့်ဟင်းချိုကို သောက်မှာ သောက်စမ်းပါ၊ ကျွန်မကို ဒီလို စကားလုံးလှလှကလေးတွေနဲ့ ချော့သို့ ပျော့မယ်ထင်နေသလား"





ယုချွန်းသည် ပေါက်ယုအား ဟင်းချိုရည်တိုက်သော်လည်း နှစ်ဇွန်းသုံးဇွန်းသောက်သေး၏။ သို့ရာတွင် ပေါက်ယုသည် အနံ့အရသာကို မကြိုက်သည့်ဟန်ဆောင်ကာ ကျန်ဟင်းချိုရည်တို့ကိုတို့ပင် မတို့တော့ချေ။

"ဘုရားရေ၊ သခင်လေးကို ပြုစုရဘာကလဲမသွယ်ပါလား၊ တယ်လဲ ကြေးများကာကိုး"

"နင်တို့ဟင်းချိုရည်က ဘာမှအရသာမရှိတာ၊ ဘယ်သောက်ချင်ပါ့မလဲ။ မယုံယင် မြည်းကြည့်ပါလား"

ယုချွန်းသည် သူပြောသည်ကို အဟုတ်ထင်ကာ ဟင်းချိုပန်းကန်ထဲမှ ဟင်းချိုကို သောက်ကြည့်လိုက်သည်။ ထိုစဉ် ပေါက်ယုက

"ခုအချိန်လောက်ဆိုယင်တော့ အရသာ ရှိချင်ရှိလောက်ပြီ" ဟု ပြောလေ၏။

မိမိအား ပေါက်ယုက လိမ်ပြောကြောင်းကို သိလိုက်သည့်အခါတွင် ယုချွန်းက

"သခင်လေးဟာ စောစောတုန်းကတော့ မကြိုက်ဘူးလို့ ပြောတယ်၊ ခု တစ်ခါကျတော့ အရသာရှိတယ်လို့ ပြောတယ်။ တော်ပြီ၊ ဒီလောက်တောင်ဖြစ်လှကာ သခင်လေးကို မတိုက်တော့ဘူး"

ပေါက်ယုကပြုံး၍ သူ့ကို ထမင်းကျွေးရန်တောင်းပန်သော်လည်း ယုချွန်းမှာ ငြင်းဆန်လျက်ရှိလေ၏။ ယုချွန်းသည် ပေါက်ယုကို လာ၍ ထမင်းကျွေးရန် အခြား အစေတော်များကို ခေါ်လိုက်လေ၏။ ထိုသို့ ပြောဆိုနေကြစဉ် သခင်လေးဖုရှိအိမ်မှ အထိန်းတော်ကြီး နှစ်ယောက် လာရောက်နှုတ်ဆက်ကြောင်းဖြင့် ပြောပြလေ၏။

အထိန်းတော်ကြီးနှစ်ဦးမှာ မိမိဖခင်ကြီး၏ တပည့်ဖြစ်သူ လက်ထောက်မြို့ဝန် ဖုရှီ၏အိမ်မှ အထိန်းတော်ကြီးများဖြစ်ကြောင်း ပေါက်ယု သိလေ၏။ ဖုရှီသည် မိမိ၏ခမည်းတော်ကြီး ကူညီလိုက်သဖြင့် ထိုလက်ထောက်မြို့ဝန်ရာထူးကို ရခဲ့ခြင်းဖြစ်လေ၏။ ခမည်းတော်ကြီး ကျိချိန်သည် ဖုရှီကို အခြားသောတပည့်များထက် ဦးစားပေးလေရာ ဖုရှီကလည်း မိမိတွင်ရှိသည့် အစေတော်များကို မကြာခဏလွှတ်ကာ ပြုစုခိုင်းလေ့ရှိ၏။ ပေါက်ယုသည် ဖျင်းအလှသောအစေတော် အဘွားကြီးများ

နှင့် နွေးကွေးလေးလံလှသော ယောကျ်ားအစေတော်များကို နှစ်သက်ခြင်းမရှိသည့်တိုင် ယနေ့တွင်မူ ဖုရှိ၏ညီမငယ်ဖြစ်သူချုံဖန်မှာ ပညာသည်းတတ်၊ ရုပ်လည်းရုပ်ချောသည်ဟု နာမည်ကြီးသည့်အတွက် အစေတော်အဘွားကြီးနှစ်ယောက်ကို အခေါ်လွှတ်လိုက်ခြင်းဖြစ်လေ၏။ ပေါက်ယုသည်ချုံဖန်ကိုယခုတိုင်တစ်ခါမျှမမြင်ဖူးသေးသော်လည်းသူကလွှတ်လိုက်သော အစေတော်များကို လက်ခံတွေ့ဆုံခြင်းပြုလျှင် ရှိင်းရာ ရောက်မည်စိုးသည့်အတွက် လက်ခံလိုက်ခြင်းဖြစ်၏။ ထို့ကြောင့် ပေါက်ယုသည် အစေတော်အဘွားကြီး နှစ်ယောက်ကို အဆောင်ထဲသို့ ခေါ်ခေါ်ခဲ့ရန် ပြောလိုက်လေ၏။

ဖုရှိသည် ရှေ့ဘက်လမ်းကို ရှားနေသူတစ်ဦးဖြစ်သည့် အလျောက် ရုပ်လည်းချော၊ ပညာလည်းတတ်သည့် မိမိ၏ညီမငယ်ကို ချမ်းသာသည့် မှူးမတ်အိမ်ထောင်ထဲမှ တစ်ဦးဦးနှင့်ပေးစားရန် စိတ်ကူးလျက် ရှိလေ၏။ ဖုရှိသည် သူ့ညီမအတွက် ကြွက်ချေးကိုရှောင် စောင့်လျက်ရှိလေရာ သူ့ညီမမှာ ယခုအသက်နှစ်ဆယ့်သုံးနှစ်သို့ရောက်သည့်တိုင်အောင် အပျိုကြီးဖြစ်လျက် ရှိလေ၏။ ဖုရှိမှာ ဆင်းရဲ၍ အမျိုးသည်လည်း မထင်မရှားအမျိုးသာဖြစ်သည့်အတွက် ချမ်းသာသည့်မှူးမျိုးမှူးမတ်မျိုးနွယ်လူငယ်များက သူ့ညီမကို စိတ်မဝင်စားကြချေ။ သို့ဖြင့် နောက်ဆုံး၌ ဖုရှိသည် ယွန်းစံအမကြီး မှ ကျိမိသားစုများထံ အောက်ကျို့ဆက်ဆံနေခြင်းဖြစ်လေ၏။

ဖုရှိအိမ်မှစေလွှတ်လိုက်သော အထိန်းတော် နှစ်ဦးမှာ ခါတိုင်း အထိန်းတော်များထက်ပင် ပို၍ဖျင်းသေး၏။ ခန်းဆောင်ထဲသို့ ရောက်လာသည့်အခါတွင် အထိန်းတော်အဘွားကြီးနှစ်ယောက်သည် ပေါက်ယုကို နှုတ်ဆက်ကြ၏။ ယုချွန်းမှာလည်း ပေါက်ယုကို မစောင့်ဘဲ လက်တွင် ဟင်းချိုရည်ပန်းကန်ကိုကိုင်၍ တိုက်ကျွေးနေရင်းက အဘွားကြီး နှစ်ယောက်ပြောသည့်စကားများကို နားထောင်လျက်ရှိလေ၏။ ပေါက်ယုသည် ထမင်းစားရင်း စကားပြောလျက်ရှိရာမှသူတို့နှစ်ယောက်စလုံးသည် အဘွားကြီးနှစ်ယောက်ကိုစိုက်ကြည့်လျက်ရှိလေ၏၊ ထိုစဉ် ပေါက်ယုသည် ဟင်းချိုပန်းကန်ကို လှမ်းယူလိုက်ရာ လက်နှင့်တိုက်မိပြီး မှောက်သွားကာ





ဟင်းချိုရည်များ လက်ပေါ်သို့ဖိတ်ကျကုန်လေ၏။ ယုချွန်းသည် သူ့ကို မလောင်သည့်တိုင် ယောင်၍အော်လိုက်မိလေ၏။

''သခင်လေး ဘာလုပ်လိုက်တာလဲဟင်''

ထိုစဉ် အခြား အစေတော်များလည်း ပြေးဝင်လာကြလေ၏။ ပေါက်ယုက

''ယုချွန်းက ဘာဖြစ်သွို့ ကိုယ့်ကိုယ်ကိုယ် အပူလောင်အောင် လုပ်တာလဲဟင်၊ နင် ဘယ်ကိုထိသွားသလဲ

ဤတွင် အားလုံးကဝိုင်းရယ်လိုက်ကြကာ

''အပူလောင်တာက သခင်လေးရယ်ရှင့်၊ ကျွန်မ မဟုတ်ဘူး''ဟု ယုချွန်းကပြောလေ၏။

ထိုအခါကျမှပင် ပေါက်ယုသည် သူ့လက်တွင် စပ်ဖျဉ်းဖျဉ်းဖြစ်နေသည်ကို သတိရတော့သည်။

ချက်ချင်းပင် ဖိတ်သွားသော ဟင်းချိုရည်များကိုသုတ်ပစ်ကြ၏။ ပေါက်ယုသည် ထမင်းဆက်မစားတော့ဘဲ လက်ဆေးကာ လက်ဖက်ရည် သောက်ရင်း ဖုရှိအိမ်မှလွှတ်လိုက်သည့် အထိန်းတော်အဘွားကြီးနှစ်ဦးနှင့် စကားပြောလျက်ရှိလေ၏။ ထို့နောက် အဘွားကြီးနှစ်ဦးလည်း နှုတ်ဆက်၍ ပြန်သွားလေရာ ချင်ဝမ်းနှင့်အစေတော်များက သူတို့ကိုတံခါးလေးအထိ လိုက်၍ပို့ကြလေ၏။

သူတို့နှစ်ယောက်တည်း ပြန်လာသည့်အခါတွင် အဘွားကြီး တစ်ယောက်က ရယ်လျက်

''ကျုပ်တို့သခင်လေး ပေါက်ယုက ရုပ်ချောသသောက် ဉာဏ်မရှိတဲ့ ကလေးလို့ခေါ်တာ ဟုတ်တာပေါ့ဘော်။ ရုပ်တော့ချောပါရဲ့၊ဒါပေမယ့် ကိုယ့်လက်ကို အပူလောင်မှန်းတောင် မသိဘာကတော့ ဆိုးလွန်းလှတယ်''

''ဒါဘာဟုတ်သေးလို့တုံး၊ အလျင်တစ်ခါက ကျုပ်လာတုန်းက သူ့ကို အစေတော် တောင်မလေးတွေက ကွယ်ရာမှာ အရူးလို့တောင်ခေါ်တာပဲ။ သူကတော့ မိုးရေတွေထဲ လျှောက်သွားပြီး တခြားလူတွေကျတော့ မိုးမစိုအောင်စကြိုကလျှောက်လို့ပြောသတဲ့။စိတ်သဘောကောင်း

တာလို့တော့ မခေါ်နိုင်ဘူး၊ ရှုးနေတာပဲဖြစ်ရမယ်။ တစ်ခါတလေလဲ တစ်ယောက်တည်း ငိုချင်ငို၊ ရယ်ချင်ရယ်နေတတ်သတဲ့။ ပျံလွှားငှက်တွေ ပျံနေတာတွေ့ယင် ပျံလွှားငှက်နဲ့ စကားပြောသတဲ့။ ချောင်းထဲမှာ ငါးတွေကို မြင်ယင် ငါးတွေနဲ့စကားပြောသတဲ့။ တစ်ခါတလေကျတော့လဲ သက်ပြင်းကြီးတချချချလုပ်နေပြီး လတို့ကြယ်တို့နဲ့စကားပြောသတဲ့။ စိတ်နဲ့ လိုက်တာကလဲ အလွန်ပဲတဲ့၊ တစ်ခါတလေမှာ ကောင်မလေးတွေနဲ့ပြိုင်ပြီး စိတ်ကောက်ချင် ကောက်နေတတ်သတဲ့။ တစ်ခါတလေ ကျတော့ ဘယ်လောက်တောင် ကပ်စေးနှဲသလဲဆိုယင် အပ်ချည်အပြတ်ကလေးကိုတောင် ကောက်သိမ်းချင် သိမ်းထားသတဲ့။ တစ်ခါတလေကျတော့လဲ ငွေကိုသုံး လိုက်တာ ကျောက်ခဲသလဲ ကျနေတာပဲတဲ့''

အဘွားကြီး နှစ်ယောက်သည် ဤသို့ စကား တပြောပြောဖြင့် ဥယျာဉ်ထဲမှ ပြန်လာခဲ့ကြလေ၏။

မာလာအကြောင်းကို ပြန်ကောက်ကြဦးစို့။ အဘွားကြီးနှစ်ယောက် ပြန်သွားသည့်အခါ၌ မာလာသည် ယင်အဲကိုခေါ်လာကာ မည်သို့သော ပိုက်ကွန်မျိုးကို အထိုးခိုင်းမည်နည်းဟု မေးလေ၏။

ပေါက်ယုက ပြုံးလိုက်ကာ

"အဘွားကြီးနှစ်ယောက်နဲ့ စကားကောင်းနေတာနဲ့ နင့်ကိုတောင် မေ့နေတယ်၊ ငါ့ကိုပိုက်ထိုးပေးစမ်းပါဟာ''

"ဘယ်လိုပိုက်မျိုးထိုးပေးရမလဲ သခင်လေး''

"ဘယ်လိုဟာမျိုးဖြစ်ဖြစ်ပေါ့ဟာ။ တစ်မျိုးကိုနည်းနည်းစီပေါ့''

ယင်အဲက လက်ခုပ်လက်ဝါးတီး၍ ရယ်လိုက်ကာ

"ဘုရားရေ၊ သခင်လေးဟာက ဘယ်လိုပိုက်မျိုးထိုးချင်မှန်းမှမသိ တာ။ ပိုက်မျိုးစုံကို ထိုးပေးရမယ်ဆိုယင် ဆယ်နှစ်လုံး ထိုင်ထိုး ပေးနေတောင် ပြီးမှာမဟုတ်ဘူး''

"နင့်မှာ တခြားဘာမှလုပ်စရာမရှိဘူး မဟုတ်လား။ ဒီ တော့ငါ့ကို ပိုက်ဆလေးတွေ ထိုးပေးပေါ့''





မာလာကပြုံး၍

"သခင်လေးဟာက ဘယ်လိုပိုက်မှန်းမှမသိတာ၊ ဘယ့်နှယ်လုပ်ထိုး မလဲ။ သခင်လေးလိုချင်တာကိုပြောမှ ထိုးလို့ရမှာပေါ့''

"ပိုက်က အမျိုးမျိုးရှိတယ်သခင်လေးရဲ့။ ယပ်တောင်ထည့်တဲ့ပိုက်၊ နံ့သာအိတ်ထည့်တဲ့ပိုက်၊ ခါးစည်းကြိုးထည့်တဲ့ပိုက် အမျိုးစုံပဲ''

"ဟုတ်ပြီ၊ ဒါဖြင့်ယင် ပိုးခါးစည်းကြိုးထည့်ဖို့ပိုက်ထိုးပေး''

"ခါးစည်းကြိုးက ဘာရောင်လဲ''

"ကြက်သွေးရောင်''

"ဒီလိုဆိုယင် အနက်ရောင်ပိုက်၊ ဒါမှမဟုတ်ယင်လဲ သင်ပုန်း ကျောက်ရောင်ပိုက်နဲ့မှ လိုက်တယ်''

"ဖက်ဖူးရောင် ခါးစည်းကြိုးဆိုယင်ရော''

"မက်မုံပွင့်ရောင်၊ ပန်းနုရောင်ပိုက်နဲ့လိုက်တယ်''

"ကောင်းပြီ။ ဒါဖြင့်ယင် ငါ့ဖို့ မက်မုံပွင့်ပန်းနုရောင်နဲ့ အစိမ်းရင့် ရောင် ထိုးပေး''

"ပုံကတော့ ဘယ်လိုပုံမျိုးကြိုက်သလဲ''

"နင်က ဘယ်နှစ်ပုံထိုးတတ်လို့လဲ''

"အမျိုးစုံထိုးတတ်ပါတယ်။ အမွှေးတိုင်ပုံ၊ လေ့ကျားမုံ၊ မှန်ကူ ကွက်ပုံ၊ စတုရန်းနှစ်ထပ်ပုံ၊ သံကြိုးပုံ၊ ဆီးတော်ပွင့်ပုံ၊ မိုးမရွက်ပုံ''

"ဟိုနေ့တုန်းက တန်ချွန်းကိုထိုးပေးတာ ဘယ်လိုပုံလဲ''

"အဲဒါ ဆီးတော်ပွင့်ခိုင်ပုံ''

"အေး၊ ဒီလိုဆိုယင် ငါ့ကိုလဲ အဲဒီပုံပဲ ထိုးပေး''ဟု ဆိုကာ ပေါက်ယုသည် မာလာကို ပန်းထိုးချည်များအယူခိုင်းလိုက်၏။

ထိုစဉ် ပြတင်းပေါက်နားတွင် အစေတော်တစ်ယောက်ရောက်လာ ကာ 'ထမင်းပြင်ပြီးပြီ'ဟု လာပြောလေ၏။

"ကဲ ဒါဖြင့် ထမင်းသွားစားချည်ဦး။ စားပြီးယင် မြန်မြန် လာခဲ့''

မာလာကပြုံးလျက်

"ဒီမှာ ညှော်သည်တွေရောက်နေတယ်လေ၊ ဘယ့်နှယ်လုပ် စားလို့ဖြစ်ဦးမလဲ"

"သွားစားချည်ပါ၊ ရပါတယ်"ဟု ယင်အဲ့ကပြောကာ ပန်းထိုးချည်များကို ရွေးနေ၏။

အခစခံသူငယ်မလေးနှစ်ယောက်မှအပ မာလာနှင့် ကျွန်အစေတော်များသည် ထမင်းစားရန် ထွက်သွားကြလေ၏၊ ပေါက်ယုသည် ပန်းထိုးနေသည့် ယင်အဲနှင့်ဆိုင်၍ စကားပြောလျက်ရှိ၏။

"နင် အသက်ဘယ်လောက်ရှိပလဲ"

ယင်အဲက လက်ချောင်းကလေးများဖြင့် ကျွမ်းကျင်စွာ ပန်းထိုးလျက်ရှိရာမှ

"ဆယ့်ခြောက်နှစ်ပါ"

"ဆွေမျိုးစု နာမည်ကကော"

"ဟုန့်ပါ"

ပေါက်ယုက ပြုံးလိုက်၏။

"အင်း၊ ဒီလိုဆိုယင် နာမည်နဲ့လူနဲ့လိုက်သားပဲ။ နင့်ကိုကြည့်ရတာ ရွှေဥသြကလေးလိုပဲ"

"အစတုန်းကတော့ ကျွန်မနာမည်က ချင်ယင်းတဲ့၊ ဒါပေမယ့် ကျွန်မသခင်မကလေးက ဒီနာမည်ကိုမကြိုက်ဘူးဆိုပြီး ယင်အဲလို့ ပြောင်းပေးလိုက်တယ်၊ ခုတော့ အားလုံးက ယင်အဲလို့ခေါ်နေကြပါပြီ"

ပေါက်ယုက

"မလေးပေါက်ကြည်က နင့်ကို တော်တော်ချစ်ဟန်တူတယ်။ သူအိမ်ထောင်ကျယင် နင့်ကိုလဲခေါ်သွားမယ်ထင်တာပဲ"

ယင်အဲသည် သူ့စကားကြောင့် ပြုံးနေလေ၏၊ မည်သို့မျှမပြောချေ။

"မာလာကို ငါခဏခဏပြောမိတယ်၊ မလေးပေါက်ကြည်ကိုရတဲ့လူကတော့ ကံကောင်းတာပဲလို့၊ သခင်မကလဲ အလိမ္မာ၊ အစေတော်ကလဲ့ အလိမ္မာ။ ဒီလိုဟာမျိုးကို သိပ်ရခဲတာပဲလို့"





ယင်အဲက

"မလေးပေါက်ကြည်က ရုပ်ချောရုံတင်မကဘူး၊ ထူးခြားတဲ့ အရည်အချင်းလဲရှိတယ်။ ကျွန်မအထင်တော့ ဒီလိုအရည်အချင်းမျိုးရှိတဲ့လူ ကမ္ဘာမှာတောင်ရှိမယ်မထင်ဘူး။ သခင်လေးတို့ကတော့ ဘယ်သိမလဲလေ"

ပေါက်ယုမှာ ယင်အဲ၏ စကားပြောပုံ၊ ချစ်စရာကောင်းသည့် အပြုအမူ၊ သခင်မနှင့်ပတ်သက်၍ ရိုးသားစွာပြောပုံတို့ကိုကြည့်ကာသဘောကျလျက် ရှိလေပြီ။

"ဘယ်လိုအရည်အချင်းမျိုးတွေများလဲ၊ ပြောပြစမ်းပါဦး"

"သူ့ကိုတော့ ပြန်မပြောနဲ့နော်"

"မပြောပါဘူးကွယ်"

ထိုစဉ် "ဘယ့်နှယ်လဲ အထဲက ငြိမ်ချက်သားကောင်းလှချည်လား" ဟူသော အသံတစ်သံကို အပြင်ဘက်မှ ကြားရလေ၏။

ကြည့်လိုက်သည့်အခါတွင် ပေါက်ကြည်ကိုယ်တိုင်ဖြစ်နေသည်ကို တွေ့ရလေ၏။ ပေါက်ယုက နေရာထိုင်ခင်းပေးလေ၏။ ပေါက်ကြည်သည် ဝင်ထိုင်လိုက်ပြီးနောက် ဘယ်လိုပိုက်မျိုးထိုးနေသနည်းဟု ယင်အဲကိုမေးလေ၏။ ပေါက်ကြည်သည် တစ်ဝက်တပျက်ပြီးနေသည့် ပိုက်ကို ကြည့်လိုက်ရင်း

"ဒီပိုက်က မကောင်းပါဘူးဟယ်။ မောင့်ရဲ့ ကျောက်စိမ်းလေး ထည့်ဖို့ ထိုးပေးတာမဟုတ်ဘူး"

ပေါက်ယုက ဝမ်းသာအားရဖြင့်

"ဟုတ်သားပဲ၊ အဲဒါကိုမေ့နေတယ်။ ဘာရောင်ထိုးယင်ကောင်းမလဲဟင်"

"ဘာရောင်နဲ့ဖြစ်ဖြစ် လိုက်ပါတယ်၊ သိပ်ခြောက်တဲ့ အရောင်မဟုတ်ယင် ပြီးတာပဲ။ ဒါပေမယ့် ကြက်သွေးရောင်ဆိုယင်တော့ အစိမ်းနဲ့ လိုက်ဘူး။ အဝါဆိုယင်လဲ မှိန်လွန်းတယ်။ အနက်ဆိုတော့လဲ သိပ်ခြောက်နေပြန်ရော။ အကောင်းဆုံးကတော့ ပိုက်ကွန်ထိပ်ကို အနက်နဲ့ထိုး၊ အောက်ပိုင်းကို ရွှေရောင်နဲ့ထိုး။ ဒီလိုဆိုယင် သင့်လိုက်မှာပဲ"

ပေါက်ယူမှာ သဘောကျသွားသဖြင့် မာလာကိုခေါ်ကာ ရွှေခြည်များကို အယူခိုင်းလိုက်လေ၏။ ထိုစဉ် မာလာသည် စားသောက်ဖွယ် ပန်းကန်နှစ်လုံးကို ကိုင်၍ ရောက်လာလေ၏။

"ဟော့ဒီမှာ သခင်မကြီးဝမ်က ဟင်းနှစ်ပန်းကန် အပို့ခိုင်းလိုက်ပြန်ပြီ"

"မေဖျားက ဒီနေ့ ဟင်းဟွေဘယ်လောက်များ ချက်ထားသလဲ မဆိုနိုင်ဘူး၊ လာသမျှလူတွေကို ကျွေးမွေးလို့ပဲ မကုန်နိုင်တော့ဘူး"

"မဟုတ်ဘူးမလေးရဲ့၊ ဒီနှစ်ပန်းသန်က မောင့်ဖို့ အထူးချက်ထားတာ"

"ဒါဖြင့်လဲ စားလိုက်ဦးလေ၊ ဘာဖြစ်လို့ထိုင်နေရတာလဲ"

"ဒီလို တစ်ခါမှ မပို့ဖူးဘူး။ မေဖျားက မောင့်ဆီကို ချက်ပို့နေရတယ်ဆိုတော့ ဘယ်ကောင်းမလဲ မလေးရယ်၊ စားရတာ ရှက်စရာကြီး"

ပေါက်ကြည်က သိသိသာသာပြုံးလိုက်ကာ

"ဘာရှက်စရာရှိသလဲမောင်ရယ်၊ တစ်နေ့မှာ ဒီထက်တောင် ရှက်စရာ အားနာစရာတွေ တွေ့ချင်တွေ့ရဦးမှာ"

ပေါက်ကြည်မှာ နောက်တဖန်ပြောင်တတ်သူ မဟုတ်သည့်အတွက် ထိုစကားများ နောက်ကွယ်တွင် အဓိပ္ပာယ် တစ်စုံတစ်ရာ ရှိကြောင်းကို မာလာရိပ်မိလိုက်၏။ မာလာသည် ပေါက်ယူ နှင့် ပေါက်ကြည် တို့၏ "ကျောက်စိမ်းနှင့်ရွှေ"အကြောင်း သခင်မဝမ်ပြောဖူးသည်ကို ချက်ချင်း သတိရလိုက်ကာ ထိုအကြောင်းကို ဘာမျှမမေးတော့ဘဲ ပန်းကန်များကို ချခဲ့ပြီးလျှင် အပြင်သို့ ထွက်လာခဲ့လေ၏။

"မာလာ လက်တွေ သွားဆေးလိုက်ဦးမယ် နော် သခင်လေး။ ပြီးယင် ရွှေခြည်တွေ ယူလာခဲ့မယ်"

ထမင်းစားသောက်၍ လက်ဆေးပြီးလျှင် မာလာသည် ရွှေခြည်များကို ယင်အဲထံယူလာခဲ့လေ၏။ ပေါက်ကြည်မှာ သူ့အစ်ကို ဆွေဖန်က ခေါ်သဖြင့် ပြန်သွားနှင့်လေပြီ။ ပေါက်ယူသည် ယင်အဲ ပန်းထိုးနေသည်ကို ထိုင်ကြည့်နေစဉ် ဒေါ်လေးဆင့်ထံမှ အခစေဘော် နှစ်ယောက် ရောက်လာကာ သစ်သီးများလာပို့လေ၏။





"လမ်းလျှောက်နိုင်ပြီဆိုယင် မနက်ဖြန်ကျတော့ ဥယျာဉ်ထဲကို ဆင်းလျှောက်ပါတဲ့။ သူ့ဆီကိုလဲ လာခဲ့ပါဦးလို့ သခင်မကြီးက မှာလိုက်ပါတယ်"

"လမ်းလျှောက်နိုင်ယင် လာမယ်လို့ပြောလိုက်။ ခုလဲ တော်တော် နေကောင်းသွားပါပြီလို့၊ သိပ်ပြီး စိတ်မပူပါနဲ့လို့ ပြောလိုက်"

ပေါက်ယူသည် သစ်သီးလာပို့သည့် အခစေတော် သူငယ်မလေးများကို အသိုင်ခိုင်းပြီးနောက် သစ်သီးအချို့ကို ထိုက်ယုထံ ချင်ဝမ်းအား အပို့ခိုင်းလိုက်လေ၏။ ချင်ဝမ်းက သစ်သီးများကို သွားပို့မည်ပြုစဉ် အပြင်ဘက်မှ ထိုက်ယုအသံကိုကြားလိုက်ရသဖြင့် ပေါက်ယုက ခန်းဆောင်ထဲသို့ အခေါ်ခိုင်းလိုက်လေ၏။

မည်သို့ဖြစ်သည်ကိုသိလိုလျှင် ဆက်ဖတ်ပါလေ။

## အခန်း ၃၆

### နိမောင်းပျော်ဖွယ်ဆောင်တွင် မန်ဒါလီဘဲရှပ်ကလေးများကို ရွှေခြည်ထိုးမေးနေစဉ် အိပ်မက်တစ်ခုမြင်မက်ခြင်း။ သစ်တောင်မွေးဆောင်တွင်ရှိစဉ် ပေါက်ယုသည် ရွှေးရေစက်ကြောင့် ဖူးစာဆုံသည်ဟု ထင်မိခြင်း။

ပေါက်ယု၏အခြေအနေ ကောင်းမွန်လာပြီဟုကြားရသည့်အတွက် မယ်မယ်သည် ကျေနပ်အားရစွာဖြင့် သခင်မဝမ်၏အဆောင်မှ မိမိ၏အဆောင်များဆီသို့ ပြန်လာခဲ့လေ၏။ ပေါက်ယုအား နောက်ထပ် ဆူပူကြိမ်းမောင်းမည်ကို စိုးရိမ်သည့်အတွက် မယ်မယ်သည် ကျိချိန်၏သူငယ်တော်ကိုခေါ်၍ အောက်ပါအတိုင်းအမိန့်ပေးလိုက်လေ၏။

"နင်တို့သခင်ကြီးကို ပြောလိုက်။ နောက်တစ်ခါ ပေါက်ယုကိုတွေ့ချင်တယ် ဒါမှမဟုတ် ဧည့်သည်တွေကို ဧည့်ခံကျွေးမွေးချင်တယ်ဆိုယင် အဠမလအထိ ဒုတိယဝင်းတံခါးအပြင်ဘက်ကို မထွက်ရဘူးလို့ မယ်မယ်က အမိန့်ထုတ်ထားတယ်လို့ပြောလိုက်။ ကလေးက ဒီလောက် အရိုက်ခံထားရယင် တော်တော်နဲ့ လမ်းလျှောက်နိုင်ဦးမှာမဟုတ်ဘူး။ ပြီးတော့





ကလေးရဲ့ဇာတာက ခုတလောမှာသိပ်မကောင်းဘူး၊ ယာတြာတို့ဘာတို့ချေရဦးမယ်။ ဒါကြောင့် မယ်မယ်က ဘယ်မှထွက်ခွင့်မပြုဘူးလို့ ပြောလိုက်၊ ကြားလား"

သူငယ်တော်ထွက်သွားလျှင် မယ်မယ်သည် အထိန်းတော်ကြီးလီနှင့် မာလာတို့ကိုခေါ်ကာ ပေါက်ယုကိုလည်း ဘယ်မှမထွက်ဖို့ မှာထားကြောင်းဖြင့်ပြောရန် အမိန့်ပေးလေ၏။

ပေါက်ယုသည် အိမ်တွင်စာပေပညာရှင်များ၊ မိတ်ဆွေများကို ခေါ်ယူကျွေးမွေးဧည့်ခံသည်ကို နှစ်သက်ခြင်းမရှိချေ။ ထို့ပြင် ပွဲတက်ဝတ်စုံများကိုဝတ်၍ အမေ်အနားသို့တက်ရခြင်း၊ အပြန်အလှန်လည်ပတ်ဂါရဝပြုရခြင်း၊ သွားရောက်နှုတ်ဆက်ရခြင်း၊ အသုဘ စသည့်ကိစ္စများတွင် သွားရောက်မေးမြန်းရခြင်း စသည့်ကိစ္စများကိုလည်း မုန်းတီးသူဖြစ်လေ၏။ ယခု မယ်မယ်က ဤသို့ ပြောလိုက်သည့်အခါတွင် ပေါက်ယုဝမ်းသာလိုက်ပုံမှာ ဆိုဖွယ်မရှိတော့ပြီ။ ထို့ကြောင့် ပေါက်ယုသည် မိတ်ဆွေများ၊ ဆွေမျိုးများကို သွားရောက်တွေ့ဆုံခြင်း မရှိတော့ရုံမျှမက နံနက်နှင့်ညနေများတွင် လူကြီး မိဘများထံသွားကာ ကျန်းမာရေးကိုမေးမြန်းခြင်း၊ ဂါရဝပြုခြင်း စသည့် ကိစ္စများကိုလည်း မပြုလုပ်ဖြစ်တော့ဘဲ ပျက်ကွက်လာခဲ့လေ၏။ ပေါက်ယုသည် မယ်မယ်နှင့် မိခင်ကြီးကို မနက်တိုင်းသွားရောက်ကန်တော့ပြီး ကျန်အချိန်များတွင်မူ ဥယျာဉ်ထဲတွင်သာ အချိန်ကုန်လျက်ရှိကာ အစေခံတော်ကလေးများအား တတ်နိုင်သမျှကူညီလျက်ရှိ၏။ ပေါက်ကြည်နှင့် အခြားသူများက ထိုသို့ အစေခံတော်များအား ကူညီခြင်းမပြုရန် တားမြစ်သည့်အခါတွင် ပေါက်ယုမှာ စိတ်ဆိုး၍မဆုံးတော့ချေ။

"ကြည့်စမ်း။ ဒီအစေခံတော်ကလေးတွေဟာ ဘယ်လောက်အပြစ်ကင်းကြသလဲ၊ ဘယ်လောက် သန့်ရှင်းကြသလဲ။ သူတို့ဟာ ကိုယ်ကျိုးရှာသမားတွေ၊ ကောင်းတော်ညိုတ်၊ စိတ်တော် သိဆိုတဲ့အခွင့်အရေးသမားတွေထဲမှာ ကျွန်ခံနေကြရတယ်။ အဲဒီလူတွေဟာ ဒီလိုမိန်းမအစေခံတော်တွေကို ဘယ်နှစ်ယောက်ပိုင်သလဲဆိုတာကို ဂုဏ်ယူနေကြတယ်။ ဒါဟာ ဘာဖြစ်လို့လဲ၊ ရှေးတုန်းက အစဉ်အလာတွေကြောင့် ဖြစ်နေတာ။ ရှေး

တုန်းက ပညာရှိဆိုတဲ့လူတွေက အသိဉာဏ်မရှိတဲ့လူတွေကို အုပ်ချုပ်ဖို့အတွက် ဥပဒေတွေ၊ စည်းမျဉ်းတွေထုတ်ခဲ့ကြတယ်၊ နီတိတွေထုတ်ခဲ့ကြတယ်။ သူတို့မှာ ဒီအလုပ်ကလွဲလို့ တခြားဘာမှ လုပ်စရာမှမရှိကြပဲကိုး၊ ခုတော့ ဒီရှေး ပညာရှိဆိုတဲ့သူတွေကြောင့် အပြစ်မဲ့တဲ့ ကလေးမထက္ကလေးတွေဟာ သူတစ်ပါးဆီမှာလာပြီး ကျွန်ခံနေကြရတယ်။ ခု မောင်တို့ ခေတ်ကျတော့ အယဉ်ကျေးဆုံး၊ အလှပဆုံးဆိုတဲ့အမျိုးသမီးငယ်တွေရဲ့ခန်းဆောင်တွေ တောင် မသန့်ရှင်းတဲ့ ညစ်ညမ်းကုန်ကြပြီ။ ဘုရားသခင်ဟာ အမျိုးသမီး ငယ်တွေကိုကောင်းမြတ်တဲ့အရည်အချင်းတွေပေးခဲ့တယ်။ခုတော့ ဒီအမျိုး သမီးငယ်တွေရဲ့ဘဝဟာလဲ ညစ်ညမ်းခဲ့ရပြီ။ ဒါဟာ အင်မတန်ကြီးလေး တဲ့ဒုစရိုက်မှုကြီးဖြစ်တယ်''

ပေါက်ယုသည် ရှေးသူဟောင်း ပညာရှိများကို စိတ်ဆိုးဆိုးဖြင့် ကျိန်ဆဲ၏။ သူ့ထံတွင် 'ကျမ်းလေးကျမ်း' ဟူသော စာအုပ်မှအပ ကျန် ကွန်ဖြူးရှပ်ကျမ်းစာများအားလုံးကို မီးရှို့ပစ်၏။ ဤသို့ စိတ်လိုက်မာန်ပါ လုပ်ဘတ်သည့်အတွက် သူ့အား မည်သူကမျှ ဝေဖန်ကဲ့ရဲ့စကားမျိုးကို မပြောကြတော့ချေ။ ပေါက်ယုသည် ထိုကယုဘစ်ယောက်ကိုသာဘကယ် မြတ်နိုးခြင်းဖြစ်မိလေ၏။ မိမိအား ရာထူးကြီးကြီးတွင် ထမ်းဆောင်ရန် ကျော်ကြားမှုကိုရှာရန် တိုက်တွန်းခြင်းမပြုသူဟူ၍ ထိုက်ယုဘစ်ယောက် သာ ရှိလေ၏။

နတ်ငှက်မယ်အကြောင်းကို ပြန်ကောက်ကြဦးစို့။ ချင်ချွန်းတစ်ယောက် ကိုယ့်ကိုယ်ကိုယ် သတ်သေသွားပြီးသည့်နောက်၌ အစေခံတော်များသည် နတ်ငှက်မယ်အား လက်ဆောင်များပေးခြင်း၊ လာရောက်ဂါရဝပြုခြင်း၊ မြှောက်ပင့်ပြောဆိုခြင်း စသည်တို့ကို သိသိသာသာကြီး လုပ်လာခဲ့ကြ၏။ မိမိအား အဘယ့်ကြောင့် ဤသို့လက်ဆောင်တွေ ပေးနေကြလေသနည်း ဟု နတ်ငှက်မယ် စဉ်းစား၍ မရနိုင်အောင်ဖြစ်လျက်ရှိလေ၏။ တစ်ညနေ လူရှင်းသည့်အချိန်တွင် နတ်ငှက်မယ်က ပင်အဲအား





''ဟဲ့ ပင်အဲရဲ့၊ တချို့ အစေခံတော်မတွေရဲ့ အိမ်တွေက ငါ့ဆီကို အလျင်တုန်းက ဒီလိုလက်ဆောင်တွေဘာတွေ မပို့ဖူးပါဘူး။ ခုမှ ငါ့ကို ဘာဖြစ်လို့သာပြီး ခယဝယလုပ်နေကြသလဲမသိဘူးတဲ့''

ပင်အဲက ပြုံးလိုက်ရင်း

''မလေးကလဲ ဒီလောက်မှ မသိဘူးလား။ သခင်မကြီး ဝမ်ဆီ မှာ အစေတော်လုပ်နေတဲ့ သူတို့သမီးတွေ ရှိလိမ့်မယ်။ သခင်မကြီးဆီမှာ အလုပ်လုပ်တဲ့ အစေခံတော်မှူးလေးယောက်ရှိတယ်။ သူတို့က တစ်လကို ငွေတစ်ကျပ်သားရတယ်၊ ကျန်တဲ့ အစေခံတော်ကလေးတွေကတော့ ကြေး ပြားတစ်ထုပ်ပဲ ရတယ်မဟုတ်လား။ ခု ချင်ချွန်းသေသွားတော့ ချင်ချွန်း နေရာမှာ တစ်သကိုငွေစင်တစ်ကျပ်သားရတဲ့အလုပ်ကိုလိုချင်ကြတာပေါ့''

နတ်ငှက်မယ်က ရယ်လိုက်လျက်

''ဟုတ်တယ်နော်၊ တချို့လူတွေဟာ သောဘမသတ်နိုင်ကြဘူး။ ပိုက်ဆံကိုတော့ လိုချင်ကြတယ်၊ ဒါပေမယ့် အလုပ်ကိုတော့ မလုပ်ချင် ကြဘူး။ ခု ကိုယ့်သမီးတွေကို လက်သွတ်လိုက်ရလို့ တာဝန်ပေါ့သွားတဲ့ အတွက် ကျေနပ်နေပြီထင်သလား၊ မကျေနပ်ကြသေးဘူး၊ ပိုပြီးလိုချင် ကြတယ်။ ခုလဲ ငါ့ကို ဒီယုန်မြင်လို့ ဒီချုံထွင်ကြတာပါအေ၊ ငါ့ကိုချစ်ခင် လို့ ဒီလိုလက်ဆောင်တွေ ဘာတွေပေးတတ်ကြတာ မဟုတ်ပါဘူး။ ဒါ ပေမယ့် ဘာပဲဖြစ်ဖြစ် သူတို့က ပေးလာမှတော့ ငါလက်ခံထားလိုက်ဦး မယ်။ သူတို့သမီးတွေကိုတော့ အစေခံတော်မှူး ဘယ်ပေးမလဲအေ၊ ဝေး လိုက်တာ၊ ကိုယ့်ဆုံးဖြတ်ချက်အတိုင်း ကိုယ်လုပ်ရုံပေါ့''

သို့ဖြင့် နတ်ငှက်မယ်သည် ပေးသမျှလက်ဆောင်တို့ကို စိတ်တိုင်း ကျ လက်ခံပြီးနောက် အစေခံတော်မှူးခန့်ရေးကိစ္စကို သခင်မဝမ်သို့ တင် ပြခြင်း ပြုလေ၏။

တစ်နေ့သ၌ ဒေါ်လေးဆွေ့၊ ပေါက်ကြည်နှင့် ထိုက်ယုတို့သည်ဒေါ်လေး ဝမ်၏ အခန်းဆောင်ထဲတွင်ဖရဲသီးစားနေကြလေ၏။ ဤသို့နတ်ငှက်မယ်က

"ယုချန်းရဲ့ ညီမချင်ချန်းသေသွားတော့ ဒေါ်လေးမှာ အစေတော်မှုးတစ်ယောက် လိုနေဦးမှာပေါ့နော် ဒေါ်လေး။ ဒေါ်လေးခန့်ချင်တဲ့ကောင်မလေးများမြင်ထားယင်ငှက်မယ်ကိုပြောလိုက်လေ။ နောက်လဆိုယင် ကောင်မလေးကို လစာထုတ်ပေးလိုက်တာပေါ့"

သခင်မဘမ်က မည်သူ့ကို ခန့်ရမည်နည်းဟု စဉ်းစားလျက်ရှိလေ၏။

"အစေတော်မှူးက အပြည့်ရှိဖို့မလိုပါဘူး ထင်ပါရဲ့ကွယ်။ ဒေါ်လေးမှာ လုံလောက်နေပြီပဲ၊ ဘာဖြစ်လို့ ခန့်ဦးမှာလဲ၊ မခန့်ဘဲ ထားလိုက်တာပေါ့"

"ဒေါ်လေးပြောတာတော့ဟုတ်ပါရဲ့၊ ဒါပေမယ့် စံအိမ်သခင်မဆိုယင် အစေတော်မှူးက အနည်းဆုံး လေးယောက်ထားရမယ့် ထုံးစံရှိတယ် ဒေါ်လေးရဲ့။ အမြှောင်တွေမှာတောင် တစ်ယောက်ကို အစေတော်နှစ်ယောက်ထားသေးတာပဲ။ ဒေါ်လေးက ဘာဖြစ်လို့ အပြည့်မထားရမှာလဲ။ မထားလို့ သက်သာအောင်ဆိုယင်လဲ တစ်လမှာ ငွေစင်တစ်ကျပ်သား သက်သာတော့မပေါ့"

သခင်မဘမ်က နှတ်ငှက်မယ် ပြောလိုက်သည်ကို သဘောပေါက်သွားဟန်ဖြင့်

"ကောင်းပြီလေ၊ တစ်ယောက်စာ လစာခတော့ ထုတ်ခွင့်ပေးထားလိုက်ပေါ့။ ဒါပေမယ့် ဒေါ်လေးအတွက် အစေတော်တစ်ယောက်နောက်ထပ်မရှာနဲ့တော့အေ၊ အဲဒီ ငွေစင်တစ်ကျပ်သားကို ယုချန်းကို ပေးလိုက်ပေါ့။ သူ့ညီမချင်ချန်းဟာ သေသွားသည်အထိ ငါ့ကိုပဲပြုစုပြီး ငါ့အစေတော်ပဲ လုပ်သွားခဲ့တယ်မဟုတ်လား။ ဒီတော့ သူ့အစ်မ ယုချန်းကို နှစ်ယောက်တွက် ထုတ်ပေးလိုက်ပါ"

နှတ်ငှက်မယ်သည် ယုချန် ကိုလှမ်း ကြည့်လိုက်၏။

ယုချန်းက ရှေ့သို့တိုးလာကာ ကျေးဇူးတင်သည့်အနေဖြင့် ဦးချလေ၏။

"အင်း၊ ညည်းကိုမြင်တော့ ချင်ချန်းကိုသတိရတယ်အေ။ နေစမ်းပါဦး၊ အမြှောင်ချော နဲ့ချူတို့ကို တစ်လကိုဘယ်လောက်ထုတ်ပေးသလဲ"





"တစ်ယောက်ကို ငွေစင်နှစ်ကျပ်သားစီ ပေးပါတယ်။ ချောကတော့ သား ကျွဲဟုန်အတွက်ပါ နောက်ထပ် ငွေစင်နှစ်ကျပ်သားနဲ့ ကြေးပြား တစ်ထုပ်ပေးပါတယ်"

"လစဉ်လတိုင်း ပြည့်ပြည့်ဝဝပေးကြရဲ့လား"

နှတ်ငှက်မယ်က တအံ့တသြဖြင့်

"ပေးပါတယ်ဒေါ်လေးရဲ့၊ ဘာဖြစ်လို့လဲ"

"တစ်နေ့ကတုန်းက ချောကိုပေးတဲ့ငွေထဲမှာ ကြေးပြားထုပ် တစ်ထုပ် လျော့နေတယ်လို့ ပြောသံကြားလို့ပါ။ ဘာဖြစ်လို့ လျော့ရတာလဲ"

နှတ်ငှက်မယ်က ခေါင်းမော့ အဖြေပေးလိုက်၏။

"အမြှောင်တွေရဲ့ အစေတော်တွေလစာက တစ်လကို ကြေးပြား တစ်ထုပ်ပဲရှိတယ်ဒေါ်လေးရဲ့။ ဒါပေမယ့် မနှစ်ကတော့ ငှက်မယ်တို့စံအိမ်ငွေကိုင်ဌာနကလူတွေက တစ်ဝက်လျှော့လိုက်တယ်။ တစ်ဝက်လျှော့လိုက်တော့ သူတို့မှာ ကြေးပြားငါးရာပဲ ရတော့တာပေါ့ ဒေါ်လေးရယ်။ ဒီတော့ အမြှောင်တွေမှာ အစေတော် နှစ်ယောက်ရှိတဲ့အနက် ထက်ဝက်စီလျှော့လိုက်တော့ တစ်ယောက်စာတစ်ထုပ်လျော့သွားတာပေါ့။ ဒီတစ်ခါတော့ ငှက်မယ်က လျော့တာလို့ သူတို့မပြောနိုင်တော့ဘူးလေ။ ငှက်မယ်ကတော့ ခါတိုင်းလိုပဲ ပေးချင်ပါတယ်၊ မလျှော့ချင်ပါဘူး။ ဒါပေမယ့် ဒါက ငွေကိုင်ဌာနကဖြတ်လိုက်တာ၊ ငှက်မယ်ဘာတတ်နိုင်မလဲ။ ငှက်မယ်က ကြားက လစာထုတ်ပေးရတဲ့လူပဲ၊ ဘာပြောပိုင်ခွင့်ရှိတာမှတ်လို့။ ငှက်မယ်ကလဲ သူတို့ထုတ်ပေးတာကိုပဲ ပေးလိုက်ရတာပေါ့။ ငှက်မယ်ကိုယ်တိုင်ကပဲ လစာကို နဂိုမူရင်းအတိုင်း ပြန်ထားဖို့ မကြာခဏပြောတာပဲ၊ ဒါပေမယ့် ဒီလောက်ပဲ ဝေစုရှိတယ်ဆိုတော့ ငှက်မယ် ဘာတတ်နိုင်တော့မှာလဲ။ ငှက်မယ်တတ်နိုင်တာက လဆန်းတာနဲ့တစ်ပြိုင်နက် သူတို့လက်ထဲကို လစာရောက်အောင် လုပ်ရုံပဲ တတ်နိုင်တော့တယ်။ အလျင်တုန်းကဆိုယင် လစာက တော်တော်နဲ့မထုတ်ဘူး။ ငွေကိုင်ဌာနက လူတွေက ဆိုင်းဆိုင်းထားလို့။ အချိန်မှန်မှန်ရတယ်လို့ တစ်ခါမှမရှိခဲ့ဖူးဘူး"

အတန်ကြာမျှတိတ်ဆိတ်နေကြလေ၏။ ထိုနောက် သခင်မဝမ်က

"မယ်မယ်ရဲ့ အစေတော်တွေအကော တစ်ယောက်ကို ဘယ်လောက်စီရကြသလဲ။ ငွေစင် တစ်ကျပ်သားရတဲ့ အစေတော် ဘယ်နှစ်ယောက်များရှိသလဲ"

"အလျင်တုန်းကတော့ ရှစ်ယောက်ရှိတယ်ဒေါ်လေး။ ခုတော့ ခုနစ်ယောက်ပဲရှိတော့တယ်။ ငွေစင်တစ်ကျပ်သားရတဲ့ တခြားလူဆိုလို့ မာလာတစ်ယောက်ပဲရှိတော့တယ်"

"အင်း၊ ဟုတ်တယ်။ ပေါက်ယုမှာ ငွေစင် တစ်ကျပ်သားရတဲ့ အစေတော်တန်းထဲက တစ်ယောက်မှမရှိပါဘူး။ မာလာဆိုတာကလဲဒီက သွားကတည်းက ငွေစင်တစ်ကျပ်သားရတဲ့အဆင့်နဲ့ သွားတာမဟုတ်လား။ မယ်မယ့်ဆီမှာနေကတည်းက ဒီလောက်တော့ရနေတာပဲဟာ"

"ဟုတ်တယ်ဒေါ်လေး၊ တကယ်ကတော့ မာလာက မယ်မယ့်ရဲ့ အဆောင်မှာပဲ စာရင်းရှိသေးတယ်။ ခေါင်လေးဆီကိုပို့တာက ခဏငှားတဲ့ အနေနဲ့ပို့တာ။ ဒါ့ကြောင့် မာလာရဲ့လစာက မယ်မယ့်အဆောင်ကအစေတော်တွေရဲ့လစာနဲ့ ရောတွက်တယ်။ မယ်မယ့်ကိုလဲ နောက်ထပ် အစေတော်တစ်ယောက်မပေးဘူး။ မောင်လေးပေါက်ယုဆီမှာ ရောက်လို့ဆိုပြီး မာလာကိုလဲ ငွေစင်တစ်ကျပ်သားအဆင့်က လျှော့မယ်ဆိုယင်တော့ သိပ်မတောင်းလှဘူး။ တစ်ခါ မာလာရဲ့လစာကို မဖြတ်ဘူး ဆိုပြန်ယင်လဲ ကျိဟုန်ဆီမှာရှိတဲ့အစေတော်တွေကို ငွေစင်တစ်ကျပ်သားအဆင့် တိုးပေးမှ မျှတလိမ့်မယ်။ ချင်ဝမ်းတို့၊ ရွှေယွေ့တို့နဲ့ တခြားအစေတော် ငါးယောက်ကတော့ ကြေးထုပ်တစ်ထုပ်စီရပါတယ်။ ကျိယွိတို့ဆိုတဲ့ကောင်မလေးတွေကျတော့ ကြေးထုပ်တစ်ဝက်ရပါတယ်။ ဒါကလဲ မောင်လေးအဆောင်က အစေတော်တွေကို ဒီအတိုင်း ပေးရမယ်လို့ မယ်မယ် ညွှန်ကြားလို့တော့ သူ့အဆောင်က အစေတော်တွေကိုတော့ မဖြတ်ရဲတော့ပေါ့"

ဒေါ်လေးဆွေ့က ရယ်လိုက်ရင်း

"ငှက်မယ်စကားပြောတာ နားထောင်ကြည့်စမ်း၊ သစ်ကြားသီးတိုက်လာတဲ့ လှည်းကြီးပေါ်က သစ်ကြားသီးတွေ တဖြောက်ဖြောက်ကျ





လာသလိုပဲ။ ဒါပေမယ့် တစ်ချက်မှမမှားရဘူး။ ပြောလိုက်တာမှ ချောနေတာပဲ"

"ငှက်မယ်ပြောတဲ့အထဲမှာ အမှားတော့ မပါပါဘူးနော် ဒေါ်လေးဆွေ့"

"အံမယ်လေး၊ မပါပါဘူးတော်။ ဒါပေမယ့် ငါတွေးကြည့်ရတာ မေးလှတယ်၊ ဖြည်းဖြည်းပြောပါ"

နတ်ငှက်မယ်သည် ခပ်ပြုံးပြုံးဖြင့် သခင်မဝမ်၏ ညွှန်ကြားချက်ကို စောင့်လျက်ရှိလေ၏။ သခင်မဝမ်သည် အတန်ကြာမျှ တွေးနေလေ၏။

"ကဲ၊ ဒါဖြင့် ဒီလိုလုပ်။ မာလာမရှိတော့တဲ့အတွက် မယ်မယ်ကို အစားတစ်ယောက်ရှာပေးလိုက်။ ပြီးတော့ မာလာ့လစာကိုလဲ အဲဒီထဲက မပေးနဲ့တော့။ ငါသုံးဖို့အတွက် တစ်လကို ငွေစင်နှစ်ဆယ်သားလျှော့ထားတယ်၊ အဲဒီထဲကနေပြီး မာလာကို ငွေစင်နှစ်ကျပ်သားနဲ့ ကြေးပြားတစ်ထုပ်ပေးလိုက်၊ နောင်မှာလဲ ဒီအတိုင်းပေးလိုက်။ သူ့ကို အမြှောင်မရှချာကိုပေးသလို လစဉ်ပေးပါ။ ငွေကတော့ ညည်းတို့စံအိမ်ငွေထဲက မထုတ်နဲ့တော့၊ ငါရမယ့်လစာထဲက ခွဲပေးလိုက်"

နတ်ငှက်မယ်က ဒေါ်လေးဆွေ့ကို တံတောင်ဖြင့် တွက်လိုက်ရင်း

"ကြားရဲ့လား ဒေါ်လေးဆွေ့၊ ကျွန်မ အစောကြီးကတည်းက ပြောတယ်မဟုတ်လား"

ဒေါ်လေးဆွေ့က

"အစောကြီးကတည်းက ဒီလိုပေးသင့်နေတာ။ မာလာက ရုပ်ကလေးကလဲချောတယ်။ ပြီးတော့ ဒီလောက်ယဉ်ကျေးသိမ်မွေ့တဲ့ကလေးမျိုးကို ဘယ်မှာသွားရှာမလဲ။ နူနူနယ်နယ်ပေမယ့် မဟုတ်တာမမှန်တာကို မခံဘူး၊ သူများကိုလဲ မဟုတ်တာမလုပ်ဘူး။ ဒီလိုကလေးမျိုးကတော့ တကယ်ရှားပါတယ်"

သခင်မဝမ်က မျက်လုံးတွင် မျက်ရည်တွေဝဲလျက်

"အံမယ်လေး၊ ခုဒေါ်လေးဆွေ့တို့ပြောတာက သူ့ အရည်အချင်း တစ်ဝက်လောက်တောင် မရှိသေးဘူး။ မာလာဟာ ငါ့သား

ပေါက်ယုထက် ဆယ်ဆမက ဘော်တယ်။ ပေါက်ယုကိုသာ မာလာ တစ်သက်လုံး စောင့်ရှောက်သွားမယ်ဆိုယင် ငါသေပျော်ပါပြီအေ''

''ဒီလိုဆိုယင်လဲ မာလာကိုအခမ်း အနားနဲ့အမြှောင်အဖြစ်မြှောက်လိုက်ပါလား ဒေါ်လေးရဲ့''ဟု နတ်ငှက်မယ်က ပြောလေ၏။

''ဒီလိုတော့လဲ မဖြစ်သေးဘူးလေ၊ သူတို့ နှစ်ယောက် စလုံးကငယ်လဲငယ်သေးတယ်။ ပြီးတော့ ဖအေကြီးကလဲ သဘောတူမှာ မဟုတ်ဘူး။ နောက်တစ်ခုက သူ ရှမ်းကားသောင်းကျန်းလို့ရှိယင် အစေတော်တစ်ယောက်အနေနဲ့ မာလာပြောတာကို နားထောင်ပေမယ့် အမြှောင်ဖြစ်သွားပြီဆိုတဲ့ အခါကျတော့ နားထောင်ချင်မှ နားထောင် တော့မှာ။ မာလာကလဲ သူ့ကိုအလျင်တုန်းကလို ပြောစရာရှိတိုင်းပြောလို့ မကောင်းတော့ဘူးပေါ့။ ခုလောလောဆယ်တော့ ဒီအတိုင်းပဲ နေတာ ကောင်းပါတယ်အေ''

သခင်မဝမ်၏ စကားဆုံးသည့်အခါတွင် နတ် ငှက် မယ် လည်း နောက်ထပ် ပြောစရာမရှိတော့သဖြင့် ပြန်လာခဲ့လေ၏။ အပြင်ဘက်စင်္ကြံသို့ရောက်သည့်အခါတွင် မိမိအား စောင့်ဆိုင်းလျက်ရှိသည့် ပစ္စည်းထိန်းများ၏ မိန်းမများကိုတွေ့ရလေ၏။

'မလေးငှက်မယ်တို့များ ဒီနေ့အထဲဝင်သွားတာ ကြာလိုက်တာ၊ ဘာတွေများအလုပ်များနေသလဲမသိပါဘူး။ အထဲမှာ ဒီလောက်တောင်ထိုင်နေရတာ မပူဘူးလား''

နတ်ငှက်မယ်သည် အင်္ကျီလက်ကို လိပ်တင်လိုက်ပြီးနောက် လှေကားထိပ်ဘွင် ရပ်လိုက်၏။

''ဟုတ်ပါ့၊ ဒီနားရောက်မှပဲ အေးသွားတော့တယ်။ ဒီနားမှာခဏလောက်ရပ်ပြီး အအေးခံလိုက်ဦးမယ်။ အထဲမှာဒီသောက်ကြာနေတာကတော့ နတ်ငှက်မယ်ရဲ့အပြစ်မဟုတ်ဘူး တော်တို့ရေ၊ ဒေါ်လေးဝမ်ကရာဇဝင်ကို ပြန်မေးနေလို့ ကျုပ်မှာ တစ်ခုပြီးတစ်ခု ပြန်ခင်းပြနေရတာ''

နတ်ငှက်မယ်က ခပ်မဲ့မဲ့ပြုံးလိုက်ရင်း

''ဒီနေ့ကစပြီး ငှက်မယ်ဘယ်သူ့ကိုမှ အညာမပေးတော့ဘူး၊ ခပ်ပြတ်ပြတ်ပဲလုပ်တော့မယ်။ မကျေနပ်ယင်လဲ ဒေါ်လေးဆီ သွားတိုင်





ကြ။ ကောင်မတွေ တော်တော်လူပါးဝတယ်၊ သိကြရောပေါ့၊ ခုတော့ သူတို့ကိုယ်သူတို ဟုတ်လှပြီထင်နေကြမှာပေါ့။ ဒါပေမယ့်ကြည့်ပါ၊ ခွေးရူးကောင်းစား တစ်မွန်းတည့်ပေါ့၊ ဒီကောင်မတွေ ဘယ်လောက် ကြာကြာကောင်းစားနိုင်မှာတဲ့လဲ။ ကြည့်စမ်းပါဦး၊ သူတို့အစေတော်တွေ လစာအဖြတ်ခံရတာနဲ့ ငါ့ကို သွားတိုင်တယ်၊ သူတို့ကိုယ်သူတို့ ဘာကောင်မတွေများ အောက်မေ့နေပါလိမ့်၊ သူတို့ကကော အစေတော်ထားထိုက်တဲ့ကောင်မတွေလား ဟွင်''

နတ်ငှက်မယ်သည် ပါးစပ်ဖျားမှ တဗျစ်တောက်တောက် ရွတ်ဆိုရင်း ဒေါ်လေးဝမ်အတွက် အစေတော်ရှာရန် ထွက်လာခဲ့လေ၏။

ဒေါ်လေးဝမ်နှင့် အဖော်ဘစ်သိုက်မှာ ဖရဲသီးစားပြီးကြလေပြီ။ အတန်ကြာစကားပြောဆိုပြီးနောက် မိန်းမပျိုများလည်း မိမိတို့အဆောင်များရှိရာ ဥယျာဉ်ဘက်သို့ ပြန်သွားကြလေ၏။ ပေါက်ကြည်က ယင်ချွန်းထံသွားလည်ရန် ခေါ်သေးသော်လည်း ထိုက်ယုသည် ရေချိုးဦးမည်ဟု အကြောင်းပြကာ မိမိအဆောင်သို့ ပြန်လာခဲ့၏၊ သူတို့နှစ်ယောက်ခွဲလာသည့်အခါတွင် ပေါက်ကြည်သည် ပျင်းပျင်းရှိသည်နှင့် နီခေါင်းပျော်ဖွယ်ရိပ်သာရှိ ပေါက်ယု၏အဆောင်သို့ တစ်ယောက်တည်း ထွက်လာခဲ့လေ၏။

ပေါက်ယု၏အဆောင်မှာ အထူးတိတ်ဆိတ်လျက်ရှိသည်ကို တွေ့ရ၏။ ချည်ခင်စွပ် ငှက်ကြီးနှစ်ကောင်မှာ ငှက်ပျောပင်ရိပ်တွင် အိပ်နေသည်ကိုတွေ့ရလေ၏။ ဝရန်တာအတိုင်း လျှောက်လာခဲ့ရာ အပြင်ခန်းတွင် အေးအေးလူလူအိပ်နေကြသော ပေါက်ယု၏ အစေခံများကိုတွေ့ရလေ၏။ ပေါက်ကြည်သည် ရှေးဟောင်းပစ္စည်းများထားသည့် ဗီရိုအနီးမှဖြတ်ကာ ပေါက်ယုအခန်းထဲသို့ဝင်လာခဲ့ရာ ပေါက်ယုမှာလည်း အိပ်ပျော်နေသည်ကိုတွေ့ရ၏။ မာလာမှာ အနီးတွင်ထိုင်၍အပ်ချုပ်လျက်ရှိပြီး သူ့အနားတွင် အဖြူရောင်ခြင်ရိုက်တစ်ခုကိုချထားလေ၏။

ပေါက်ကြည်သည် မာလာ့ထံသို့ခြေဖျားထောက်၍ လျှောက်လာခဲ့လေ၏။ အနားသို့ရောက်လျှင် ခပ်အုပ်အုပ်ချယ်ကာ

"မာလာတို့ကတော့ပိုပြီ။ အထဲမှာ ယင်တို့ခြင်တို့မရှိဘဲနဲ့ ဘာဖြစ်လို့ခြင်ရိုက်ကြီးကို အနားမှာချထားရတာလဲ"

မာလာသည် ခေါင်းကိုမော့၍ ကအံ့ဩသဖြင့် သူ့ကိုလှမ်းကြည့်ပြီးနောက် ချည်ထည်ကိုချကာ မတ်တတ်ထလိုက်၏။ ထို့နောက် လေသံကလေးဖြင့်

"ခြောက် မဒေါ်းပေါက်ကြည် ကိုး၊ လန့်သွားတာပဲ မလေးရယ်။ အဆောင်ထဲမှာ ခြင်တို့ယင်တို့တော့ မရှိပါဘူး၊ ဒါပေမယ့် ဖြုတ်ကလေးတွေရှိတယ် မလေးရဲ့။ ဖြုတ်မှ သေးသေးကလေးတွေ၊ ဇာခန်းဆီးပေါက်ထဲကဝင်လာတာ။ အိပ်နေယင်သိပ်ကိုက်တာပဲ၊ တစ်ခါတလေများ ပူရှက်ဆိတ်ကိုက်သထက်တောင် နာသေးတယ်"

"ဟုတ်လား၊ မာလာတို့နောက်ဖေးမှာ ကွက်လပ်မှ သိပ်မရှိဘဲကိုး။ ဒါပေမယ့် ပန်းပင်တွေရှိတော့ အဆောင်ထဲမှာမွှားနေတာပဲနော်။ ပန်းဝတ်မှုန်ကလေးတွေမှာ လာလာနားတဲ့ ပိုးကောင်မွှားကောင်ကလေးတွေက အမွှေးနံ့ဆိုယင် သိပ်ကြိုက်တာ"

ထိုသို့ပြောဆိုနေစဉ် ပေါက်ကြည်သည် မာလာသက်ထဲတွင် ကိုင်ထားသည့်ချုပ်ထည်ကို ကြည့်နေ၏။ ထိုချုပ်ထည်မှာ အနီကွပ်ထားသည့် အဖြူရောင်ပိုးရင်လွှမ်းတစ်ထည်ဖြစ်ပြီး ကြာပန်းများကြားတွင် မန်ဒါလီဘဲကလေးများ ဆော့ကစားနေပုံကို ရွှေခြည်ထိုးထားလေ၏။ ကြာပန်းများမှာ ပန်းရောင်ဖြစ်ပြီး ကြာရွက်များမှာ အစိမ်းရောင်ဖြစ်လျက် ဘဲများမှာ ရောင်စုံထိုးထားလေ၏။

"ဟယ်၊ လှလိုက်တာနော်။ ဘယ်သူ့ဖို့မို့လို့ ဒီလောက်ဒုက္ခခံပြီး ထိုးနေတာလဲ"

မာလာက အိပ်ရာဆီသို့ မေးထိုးပြ၏။

"ဒီအရွယ်ကြီးရောက်ကာမှ ရင်လွှမ်းတွေဘာတွေ ဝတ်နေဦးမှာလားကွယ်"

မာလာက ပြုံးလိုက်၏။

"သူကလဲ မဝတ်ချင်ဘူးတဲ့၊ သူ ကလေး မဟုတ်တော့ဘူးတဲ့။ ဒါနဲ့ သူဝတ်ချင်အောင်ဆိုပြီး မာလာက လှလှကလေးထိုးပေးတာ။ နေက





သိပ်ပူတော့ သူက အဝတ်အစားကို သိပ်ဝတ်ချင်တာမဟုတ်ဘူးမလေးရဲ့၊ ညကို စောင်မခြုံယင်တောင်မှ ဒါလေးလွှမ်းထားယင် အအေးမမိတော့ဘူးပေါ့။ မဒေါ်းက ကျွန်မသိုးပေးနေတဲ့ဟာကိုတော့ မြင်တာကိုး၊ ခု သူခြုံထားတဲ့ခြုံစောင်ကိုမှ မတွေ့သေးပဲ"

"မာလာက သိပ်စိတ်ရှည်တာပဲနော်"

ပေါက်ကြည်သည် ခြုံစောင်ကလေးကို သဘောကျသွားသဖြင့် မာလာ့နေရာတွင်ဝင်ထိုင်ကာ သူကိုယ်တိုင်ဝင်၍ ပန်းထိုးပေးလျက်ရှိလေ၏။

ထိုအတောအတွင်း၌ ထိုက်ယုသည် ရှိစမ်းယဉ်နှင့် တွေ့သဖြင့် မာလာအား အဆင့်တိုးပေးသည့်အတွက် မာလာကိုသွား၍ ဝမ်းသာစကားပြောကြရန် နှစ်ယောက်အတူတက်လာခဲ့ကြ၏။ အဆောင်ထဲတွင် ကိတ်ဆိတ်နေသည်ကိုတွေ့ရသည့်အခါတွင် ရှိစမ်းယဉ်သည် မာလာကိုရှာရန် အစေတော်များနေသည့် နောက်ဖေးတန်းလျားဘက်သို့ လာခဲ့လေ၏။

ထိုက်ယုမှာ ပြတင်းပေါက် ဇာခန်းဆီးမှနေ၍ ပေါက်ယု၏ အဆောင်ထဲသို့ ချောင်းကြည့်ကျန်ရစ်ခဲ့၏။ ပေါက်ယုမှာ ပန်းရောင်ခြုံထည်တစ်ခုကိုခြုံ၍ အိပ်ပျော်လျက်ရှိပြီး ပေါက်ကြည်မှာ အနီးတွင် ခြင်ရိုက်ကိုချကာ ပန်းထိုးနေသည်ကိုတွေ့ရလေ၏။ ဤသည်ကို ထိုက်ယုမြင်လျှင် ရယ်ချင်သဖြင့် လက်တစ်ဖက်ဖြင့် ပါးစပ်ကိုအုပ်ပြီး အခြားလက်တစ်ဖက်ဖြင့် ရှိစမ်းယဉ်ကိုလှမ်းခေါ်လိုက်လေ၏။ ရှိစမ်းယဉ်သည် ပြေးလာကာ အထဲသို့ချောင်းကြည့်လိုက်၏။ သူကိုယ်တိုင်ရယ်ချင်လာသည့်တိုင် ပေါက်ကြည်သည် သူ့အပေါ်တွင် ကောင်းခဲ့သဖြင့် ရယ်ချင်စိတ်ကို မနည်းချုပ်တည်းထားရလေ၏။

ထိုက်ယုက မည်သို့မျှမပြောမီ ရှိစမ်းယဉ်သည် ထိုက်ယု၏လက်ကို ဆွဲလိုက်ပြီး

"လာပါကွယ်၊ မာလာက ကန်မှာအဝတ်တွေသွားလျှော်မယ်လို့ ပြောထားတာ ခုမှသတိရတယ်။ အဲဒီကန်နားမှာ သွားရှာချည်ရအောင်"

ထိုက်ယုသည် သူ့ကိုပရိယာယ်ဖြင့်ခေါ်မှန်းသိသော်လည်း ဘာမျှ မပြောတော့ဘဲ ရှိစမ်းယဉ်ခေါ်ရာသို့ လိုက်လာခဲ့လေ၏။

ပေါက်ကြည်ထိုင်၍ ပန်းလွာနှစ်ချပ်သုံးချပ်ကို ထိုးပြီးနေချိန်တွင် ပေါက်ယုသည် အပ်ပဲပျော်ချင်း ယောင်နေသံကိုကြားလိုက်ရ၏။

"ဒီကိုရင်ကြီး ပြောတာကို ဘယ်သူကယုံမှာလဲဗျ၊ တစ်နေ့မှာ ကျောက်စိမ်းနဲ့ နဖူးစာဆုံရမယ်ဆိုတာ မဖြစ်နိုင်ပါဘူး။ တကယ်တို ကျောက်စိမ်းနဲ့ သစ်သားကမှ နဖူးစာ ဆုံချင်ဆုံဦးမယ်"

ပေါက်ကြည်မှာ ယောင်သံကိုကြားသဖြင့် အံ့အားသင့်လျက်ရှိ လေ၏။ ထိုစဉ် မာလာပြန်ရောက်လာကာ

"ခုထက်ထိ မနိုးသေးဘူးလား"

ပေါက်ကြည်က ခေါင်းကို ယမ်းပြလိုက်၏။

'မသေးထိုက်ယုနဲ့ မသေးစမ်းယဉ်တို့ကို တွေ့လိုက်တယ်။ ဒီကိုလာ သွားကြသေးသလား"

'ပင့်အင်း၊ မတွေ့လိုက်မိဘူး။ သူတို့က မာလာ့ကို ဘာဘွေပြော သွားကြသေးသလဲ"

'ဘာမှမပြောပါဘူး၊ ထုံးစံအတိုင်း နောက်သွားကြတာပေါ့"

"နောက်တာမဟုတ်ဘူး မာလာရေ့၊ ဒီတစ်ခါတော့ တကယ်။ ပေါက်ကြည်တောင် မာလာ့ကိုပြောမလို့၊ မာလာထွက်သွားတာနဲ့ မပြော လိုက်ရတာ"

ထိုစဉ် နတ်ငှက်မယ်၏ အစေတော်တစ်ယောက် ရောက်လာကာ မာလာကို လာခေါ်လေ၏။

"ကဲ၊ မပြောဘူးလား" ဟု ပေါက်ကြည်က ပြော၍ ရယ် လိုက်၏။

မာလာသည် အခြားအစေတော်နှစ်ယောက်ကို နှိုး၍ အစောင့် ထားခဲ့ပြီး ပေါက်ကြည်နှင့်အတူ ရိပ်သာအဆောင်ထဲမှ ထွက်လာခဲ့ပြီး လျှင် နတ်ငှက်မယ်၏ အဆောင်ဘက်ဆီသို့ တစ်ယောက်တည်း ထွက်လာ ခဲ့လေ၏။ နတ်ငှက်မယ်၏ အဆောင်သို့ ရောက်လျှင် တကယ်ပင် သူ့အား





အဆင့်တိုးကြောင်း ကြားရပြီး သခင်မဝမ်အား သွား၍ ကန်တော့ရမည် ဟု သိရလေ၏။ မာလာမှာ အကြီးအကျယ် ဝမ်းသာလျက်ရှိလေ၏။

သခင်မဝမ်ကို ကန်တော့ပြီး ခပ်ဆုတ်ဆုတ် ပြန်လာသည့်အခါ တွင် ပေါက်ယုမှာ နိုးနေလေပြီ။ ပေါက်ယုက မာလာမည်သည့်နေရာ သို့ သွားနေကြောင်းကို မေးလေသ၏။ မာလာက ရှောင်လွှဲဖြေနေလေ၏။ ထိုနေ့ည သူတို့နှစ်ယောက်သာရှိသည့်အခါတွင်မှ မာလာက အဖြစ် အပျက်အမှန်ကို ပြောပြလေရာ ပေါက်ယုမှာလည်း ဝမ်းသာလျက်ရှိ လေ၏။

'ဒါဖြင့်၊ မာလာအိမ်ကို မပြန်တော့ဘူးပေါ့နော် ဟုတ်လား။ ဟိုလေလျှင်တစ်ခါ မာလာအိမ်ပြန်သွားပြီးတော့ ပြောတဲ့စကားကို မာလာ မှတ်မိသေးရဲ့လား။ အိမ်ကို အပြီးပြန်တော့မယ်လို့ မာလာပြောခဲ့တာ လေ။ အဲဒီတုန်းက မာလာပြောတာက ရက်စက်လိုက်တာ 'မာလာရယ်၊ အိမ်ကိုအပြီးပြန်တော့မယ်တဲ့၊ မာလာ့ကို မာလာ့ရဲ့ အစ်ကိုက ပြန်ရွေး မတော့မယ်တဲ့၊ ဒီအိမ်မှာ မနေရတော့ဘူးတဲ့၊ ပြောချက်လိုက်တာ မာလာ ရယ်။ ကဲ ဒီတစ်ခါတော့ မာလာ့ကို ဘယ်သူခေါ်ရဲသေးသလဲ။ ခေါ်ရဲ တဲ့လူခေါ်ကြည့်စမ်း"

မာလာက လှောင်ပြုံးလိုက်ကာ

"အံမယ်သေး၊ မောင်ကဘာဆိုင်လို့ ဒီစကားမျိုးပြောရတာလဲ။ ရှက်ပါတယ်၊ သူနဲ့လဲ မဆိုင်ဘဲနဲ့၊ မာလာက မောင့်အစေတော်မဟုတ်ဘူး ရှင့်၊ သခင်မဝမ်ရဲ့ အစေတော်။ ဘယ်သွားသွား မောင့်ဆီကို ခွင့်ပန်ဖို့ မလိုဘူး၊ သခင်မဝမ်ရဲ့ ခွင့်ပြုချက်ရယ် ပြီးတာပဲ"

"ဒါဖြင့် တကယ်လို့ မောင်ဆိုးသွမ်းနေယင် မာလာကမဖျားကို ခွင့်ပန်ပြီး ပြန်သွားမယ်ပေါ့ ဟုတ်လား။ ဒီလိုဆိုယင် လူတွေကလဲ မောင့် ကိုပဲ အပြစ်ဆိုကြမှာပါ။ အဲ့ဒီအခါမျိုးကျယင် မာလာ စိတ်မကောင်း မဖြစ်ဘူးလား"

မာလာက ရယ်လိုက်၏။

"ဘာဖြစ်လို့ စိတ်မကောင်းဖြစ်ရမှာလဲ၊ မောင် လူဆိုးဓားပြကြီး ဖြစ်ယင် မာလာလဲ နောက်ကလိုက်ခဲ့ရမှာလား။ ဒီမှာမောင်၊ ဘယ်ကိုစ

မှာဖြစ်ဖြစ် အကျပ်အတည်းတွေလာယင် သတ်သေတဲ့ထွက်ပေါက်ရှိတယ်။ မာလာတို့တစ်တွေဟာ အသက်တွေ တစ်ရာနေရသည့်တိုင်အောင် တစ်နေ့ကျတော့ သေရမှာချည်းပဲ။ မာလာ နောက်ဆုံးထွက်သက်ကိုမှုတ်ထုတ်ပြီးလို့ ဘာကိုမှ မကြားနိုင် မမြင်နိုင်တော့ဘူးဆိုတဲ့ နေ့ကျတော့ မောင့်နောက်ကို လိုက်ခဲ့မယ် စိတ်ချ”

ပေါက်ယုက မာလာ၏ ပါးစပ်ကို လက်ဖြင့် ကပျာကယာ အုပ်လိုက်၏။

“ကဲ တော်ပါပြီမာလာရယ်၊ တော်ပါတော့။ ဒါမျိုးတွေမပြောပါနဲ့တော့”

မာလာသည် ပေါက်ယု၏အားနည်းချက်များကို ကောင်းကောင်းသိ၏။ ပေါက်ယုသည် ဟန်ဆောင်ပန်ဆောင် အပေါ်ယံပြောသည့်စကားများကို မုန်းတီး၏။ သို့ရာတွင် စိတ်ထဲရှိသည်တို့ကို ဖွင့်ပြောပြန်လျှင်လည်း ပေါက်ယုသည် စိတ်ထိခိုက်တတ်လေ၏။ မိမိက စိတ်ထဲရှိသမျှတို့ကိုပြောလိုက်မိသည့်အတွက် မာလာသည် စိတ်မကောင်းသွားကာ သူစိတ်ဝင်စားမည့် အခြား အကြောင်းအရာများကို ပြောဆိုလျက်ရှိလေ၏။ နွေဦးလေပြည်နှင့် ဆောင်းဦးလ၊ နံ့သာနှင့် နှုတ်ခမ်းဆိုးဆေး၊ နောက်ဆုံးတွင် မိန်းကလေးတို့၏ အရည်အချင်းကောင်းများအကြောင်း စသည်တို့ ဖြစ်လေ၏။ သို့ဖြင့် စကားပြောကြရင်း ငယ်ငယ်ရွယ်ရွယ်နှင့် သေသွားသည့် အကြောင်းကို မတော်တဆစကားစပ်မိသွားသည့်အခါတွင် မာလာသည် စကားကို ဖြတ်လိုက်လေ၏။

ပေါက်ယုကလည်း စိတ်အားထက်သန်စွာ စကားပြော၏။ မာလာက စကားရပ်လိုက်သည့်အခါတွင် ပေါက်ယုက ရှင်လန်းစွာဖြင့်

“လူတွေဟာ တစ်နေ့မှာတော့ သေရမှာချည်းပါပဲ။ ဒါပေမယ့် အရေးကြီးတာက ကောင်းသောသေခြင်းဖြစ်ဖို့လိုတယ်။ ဘုရင်ကိုဆန့်ကျင်ကန့်ကွက်ပြီး အသေခံသွားကြတဲ့ မှူးမတ်သေနာပတိတွေ၊ စစ်မြေပြင်မှာ အသက်စွန့်သွားကြတဲ့ စစ်သူကြီးတွေကို သူရဲကောင်းတွေအဖြစ် တချို့လူတွေက ချီးကျူးကြတယ်။ ထာဝရ ကျော်ကြားမှုကိုရတဲ့ အာဇာနည်





တွေလို့ ဆိုကြတယ်။ ဒါပေမယ့် သူတို့မသေဘဲ နေယင် သည်ထက်ပိုမကောင်းဘူးလား”

“တကယ်ကျတော့ မှူးမတ်သေနာပတိတွေက ဆန့်ကျင်ကန့်ကွက်ဖို့ဆိုတာလဲ ကန့်ကွက်ချင်တိုင်း ကန့်ကွက်လို့ရတာ မဟုတ်ဘူး၊ သူတို့ ဆန့်ကျင် ကန့်ကွက်ဖို့အတွက် ဘုရင်လုပ်သူကိုယ်တိုင်ကလဲ မင်းဆိုးမင်းညစ်ဖြစ်ဖို့လိုသေးတယ်။ ခုတော့ သူတို့ဟာက ဒီလို မဟုတ်ဘူး၊ ကိုယ့်အရှင်သခင်ရဲ့ကျေးဇူးတရားကိုမထောက်ဘဲ သူတို့နာမယ်ကြီးဖို့၊ ကျော်စောဖို့အတွက် ဘုရင်ကို စော်ကား မော်ကားပြောပြီး ကိုယ့်သေတွင်း ကိုယ်ဆင်းနေကြတယ်။ အလားတူပဲ။ စစ်သူကြီးတွေ စစ်မြေမှာ အသက်စွန့်ချင်ယင် စစ်ပွဲတစ်ပွဲရှိရတယ်၊ စစ်ပွဲရှိမှ စစ်မြေမှာ အသက်စွန့်ဖို့ အခွင့်အရေးရမှာပေါ့။ အဲဒီအခါကျတော့ အဲဒီစစ်သူကြီးတွေဟာ တိုင်းပြည်ရဲ့ သက်သာချောင်ချိရေးကိုမကြည့်ဘဲ ကိုယ်နာမည်ကြီးချင်တာနဲ့ မိုက်မိုက်ကန်းကန်း အသေခံတိုက်ကြတယ်။ ဒီလိုသေချင်းမျိုးဟာ အဖိုးတန်တဲ့သေခြင်းမဟုတ်ဘူးလို့ မောင်ထင်တယ်”

“သစ္စာရှိတဲ့မှူးမတ်နဲ့ အရည်အချင်းရှိတဲ့ စစ်သူကြီးဆိုတာ လိုအပ်မှ အသေခံတာပါမောင်ရဲ့”ဟု မာလာကပြန်ချေ၏။

“ဒီလိုဆိုယင် မောင်မေးမယ်။ တဖောက်ကန်းလုပ်တတ်ပြီး စစ်သေနင်္ဗျူဟာကို ဘာမှနားမလည်တဲ့ စစ်သူကြီးတစ်ယောက်ဟာ တိုက်ပွဲမှာ ကိုယ်အသုံးမကျလို့ ဆုံးသွားပြီဆိုပါတော့၊ ဒါမျိုးကို လိုအပ်လို့သေတယ်လို့ခေါ်မလား။ အရပ်သားအမှုထမ်းကတော့ ဒီထက်တောင်ဆိုးသေးတယ်။ ကျမ်းဂန်ထဲက စာလေးပေလေးကို မတောက်တခေါက်ဖတ်ပြီး အလွတ်ကျက်၊ အစိုးရမှာ ပြောစရာအပြစ်မတွေ့နဲ့၊ နည်းနည်းကလေး တွေ့လိုက်တယ်ဆိုယင် အကြီးအကျယ် ပုံကြီးချဲ့ပြော၊ ဒီနည်းအားဖြင့် သူ့ကိုယ်သူ နိုင်ငံကို သစ္စာရှိတဲ့ သူရဲကောင်းကြီး ဖြစ်ဟန်ဆောင်။ ဒီလိုလုပ်လို့ ဘုရင်က အမျက်တော်ရှပြီး သတ်ပစ်တယ် ဆိုပါတော့။ ဒါမျိုးကိုကော လိုအပ်လို့ အသေခံတယ်လို့ ပြောဦးမှာလား။ တကယ်တော့ ပြည့်ရှင်ဧကရာဇ်ဆိုတာ ဘုရားသခင်ရဲ့ အခွင့်အာဏာကို ရထားတဲ့ ပုဂ္ဂိုလ် မဟုတ်လား၊ နှယ်နှယ် မဟုတ်ဘူး။ ဒီလောက်ကိုတော့

သူတို့သိဖို့ကောင်းတယ်။ ဒီလောက် ကြီးလေးတဲ့ တာဝန်ကြီးကို ဘုရားဟာ လူတိုင်းကို မအပ်နှင်းနိုင်ဘူး၊ အင်မတန် အကျင့်သီလပြည့်စုံတဲ့ သူတော်စင်တွေကိုမှအပ်နိုင်မယ်၊ ဒီတော့ စောစောကမောင်ပြောတဲ့လူတွေရဲ့ သေခြင်းဟာ မြင့်မြတ်တဲ့လောကနိယာမတရားတွေအတွက် အသေခံကြတာမဟုတ်ဘူး၊ သူတို့နာမည်ကြီးဖို့အတွက် အသေခံကြတာပါ''

''မောင်သာသေရမယ်ဆိုယင် သူတို့လိုမသေနိုင်ဘူး၊ မသေချင်ဘူး။ မာလာတာတို့ဘစ်တွေဝိုင်းရံပြီး မောင်သေမယ်။ အကောင်းဆုံးကတော့ မာလာတို့ မျက်ရည်တွေဟာ ချောင်းကြီးဖြစ်ပြီး စီးဆင်းသွားတဲ့အခါမှာ မောင့်အလောင်းဟာ အဲဒီမျက်ရည်ချောင်းမှာ မျောသွားပြီး ငှက်တွေ ကျီးတွေ မရှိတဲ့နေရာ၊ တိတ်ဆိတ်ငြိမ်သက်ပြီး ဘယ်သူမှမရှိတဲ့ နေရာကိုရောက်၊ နောက်ဆုံးမှာ ဘယ်တော့မှ လူ့ဘဝကို ပြန်မရောက်တော့ဘဲလေနဲ့အတူလွင့်စဉ်ပျောက်ကွယ်သွားယင် အကောင်းဆုံးပဲ။မောင်သေယင် အဲဒီနည်းနဲ့ပဲ သေချင်တယ်''

မာလာသည် လေးနက်သည့် စကားများကို ပြတ်သွားစေရန်အတွက် ပင်ပန်းပြီဟုဆိုကာ သူ့မေးသည့်မေးခွန်းများကိုသည်း မဖြေတော့ဘဲ ငြိမ်နေလိုက်လေ၏။ ပေါက်ယုလည်း မျက်စိကိုမှိတ်ကာ အိပ်ပျော်သွားလေ၏။ နောက်တစ်နေ့တွင် ပေါက်ယုသည် ထိုအကြောင်းကို ပြန်မကောက်တော့ချေ။

ထိုနေ့တွင် ပေါက်ယုသည် ဥယျာဉ်ထဲတွင် နေရသည်ကို ငြီးငွေ့လှပြီဖြစ်သဖြင့် 'ခေါင်ရမ်းပွင့်ခန်းဆောင်' ဇာတ်မှ စာသားများကိုအမှတ်ရကာ ထိုဇာတ်စာအုပ်ကို ပြန်ဖတ်လျက်ရှိလေ၏။ ထိုမျှနှင့်မကျေနပ်သေးသဖြင့် ကချေသည်ဆယ့်နှစ်ယောက်တို့တွင် သီချင်းဆို အကောင်းဆုံးဖြစ်ပြီး နန်းတွင်းသူ မိန်းမချောအခန်းမှူးပါရသည့် ကချေသည် လင်ကွမ်းထံ သွားရန် စီစဉ်ထားလေ၏။ ပေါက်ယုသည် လင်ကွမ်းကိုရှာရန် သစ်တော်မွှေးရိပ်သာသို့ မလှယ်တံခါးမှ ထွက်လာခဲ့လေ၏။ ဝင်းထဲတွင် ပေါက်ကွမ်းနှင့်ယုကွမ်းတို့ကိုတွေ့သဖြင့် သူတို့က သူ့ကို ညှော်ခံ ကြို ဆို ကာ အဆောင်ထဲသို့ဝင်ရန်ဖိတ်လေ၏။





''လင်ကွမ်းရော''

''သူ့အခန်းထဲမှာ ရှိပါတယ်''

ပေါက်ယုသည် အခန်းထဲသို့ ခပ်သုတ်သုတ် ဝင်လာခဲ့လေ၏။ လင်ကွမ်းသည် အိပ်ရာပေါ်တွင်လှဲနေလေ၏။ ပေါက်ယုကိုမြင်သည့်အခါတွင် လင်ကွမ်းသည် လှုပ်ရှားခြင်းမရှိချေ။ ပေါက်ယုသည် မိန်းမပျိုများနှင့် နောက်ပြောင်ကစားနေကျဖြစ်သည့်အတိုင်း လင်ကွမ်းသည်လည်း အခြား မိန်းမပျိုများကဲ့သို့ သူနှင့်အတူ နောက်ပြောင်ကျီစယ်လိမ့်မည်ဟု ပေါက်ယု ထင်ခဲ့၏။ ထို့ကြောင့် ပေါက်ယုသည် ခုတင်စွန်းတွင် ဝင်ထိုင်လိုက်ကာ ထ၍ သူ့ကိုသီချင်းတစ်ပုဒ်သီဆိုပြရန် တောင်းပန်လေ၏။

လင်ကွမ်းသည် မည်သို့မျှမပြောဘဲ အိပ်ရာမှ ထသွားသဖြင့် ပေါက်ယုမှာ အံ့အားသင့်လျက်ရှိလေ၏။

''ဆိုလို့မရဘူး၊ အသံဝင်နေတယ်။ နန်းမတော် ထိပ်ထားလေးက ရွှေနန်းတော်ကြီးမှာ ခေါ်အဆိုခိုင်းတုန်းကတောင် အသံဝင်နေလို့ မဆိုခဲ့ရဘူး''

လင်ကွမ်းသည် ထထိုင်လိုက်သည့်အခါ၌ နှင်းဆီချုံ နားတွင် ထိုင်ကာ 'နှင်းဆီ' ဆိုသည့်စာလုံးများကို ဆံညှပ်ကလေးဖြင့် မြေကြီး ပေါ်တွင် ရေးခြစ်နေသူမှာ သူဖြစ်ကြောင်းကို ပေါက်ယု သိလိုက်လေ၏။ ပေါက်ယုသည် ထိုသို့တစ်ခါမျှ အငြင်းခံရသည်ဟူ၍ မရှိခဲ့ဖူးချေ။ ပေါက်ယုသည် ရှက်ရှက်ဖြင့် ခန်းဆောင်ထဲမှ ထွက်လာခဲ့လေ၏။ ပေါက်ကွမ်းနှင့် အခြားသူများက အကျိုးအကြောင်းကို မေးသည့်အခါတွင် ပေါက်ယုက အဖြစ်အပျက်ကို ပြောပြလေ၏။

''သခင်လေးကျိကျန်း ပြန်လာအောင် စောင့်လိုက်ပါလား။ သခင်လေးကျိကျန်း အဆိုခိုင်းယင် ဒီကောင်မ ငြင်းရဲပါဘူး၊ ဆိုရမှာပါ''

''ဒါဖြင့် ကျိကျန်းကဘယ်မှာလဲ''

''လင်ကွမ်းက ဘာပူဆာလို့မှန်းမသိဘူး၊ အပြင်ကို တစ်ခုခု သွားရှာတယ် ထင်တာပဲ''

ပေါက်ယုသည် ဘုမသိဘမသိဖြင့်စောင့်နေလေ၏။ ထိုစဉ်ကျိကျန်းသည် ငှက်တစ်ကောင်ကိုထည့်ထားသည့် ငှက်လှောင်အိမ်တစ်ခုနှင့် ခုံလေး

တစ်ခုံကိုကိုင်ကာ ဝင်လာလေ၏။ ကျီကျန်းသည် ဝမ်းသာအားရဖြင့် လင်ကွမ်းရှိရာသို့ဝင်လာသည်တွင် ပေါက်ယုကိုမြင်သည့်အခါ၌ ခြေလှမ်းတုံ့သွားလေ၏။

"ဘာငှက်လဲကွ၊ နှုတ်သီးမှာလဲ အလုံးတစ်ခုကိုက်လို့ပါလား။ ပြီးတော့ လှောင်အိမ်ထဲမှာ တန်းကလေးနဲ့"

"ငှက်ဝါ အစ်ကိုလေးရဲ့"

"ဘယ်လောက်ပေးခဲ့ရသလဲ"

"ငွေစင်တစ်ကျပ်သားနဲ့ ကြေးပြားရစ်ဆယ်ပေးခဲ့ရတယ်"

ကျီကျန်းသည် ပေါက်ယုကိုအစောင့်ခိုင်းခဲ့ပြီးနောက် လင်ကွမ်း၏ အခန်းထဲသို့ ဝင်သွားလေ၏။ ယခုအချိန်၌ ပေါက်ယုသည် လင်ကွမ်း သီချင်းဆိုသည်ကို နားမထောင်လိုတော့ဘဲ ကျီကျန်းနှင့် လင်ကွမ်းတို့၏ ဆက်ဆံရေးကို သိလိုလျက်ရှိလေပြီ။ ကျီကျန်းသည် ရွှင်ပျစွာဖြင့် အခန်းထဲသို့ ဝင်သွားကာ

"လင်ကွမ်းရေ၊ ထကွယ်။ ဟောဒီမှာ" ဟု လှမ်းပြောနေလေ၏။

"ဘာလဲ" ဟု လင်ကွမ်းက အိပ်ရာမှ ကိုယ်ကိုထူ၍မေး၏။

"မင်းပျင်းနေမှာစိုးလို့ အစ်ကို ငှက်ကလေးတစ်ကောင် ဝယ်လာခဲ့တယ်။ ငှက်က ငှက်လိမ္မာကွ၊ လာကြည့်လှည့်စမ်း"

ကျီကျန်းသည် သစ်စေ့အချို့ကိုထုတ်ပြကာ ငှက်ကလေးကိုအလုံ ကောက်ခိုင်းနေလေ၏။ ငှက်က အလုံကိုနှုတ်သီးဖြင့်ကိုက်ချီကာ တန်းပတ် ပတ်လည်ကို လျှောက်ပြလေ၏။ အခြားမိန်းကလေးများမှာ သဘောကျ၍ ရယ်ကြသော်သည်း လင်ကွမ်းက မျက်နှာကိုမဲ့ပြလိုက်ကာ အိပ်ရာပေါ်တွင် ပြန်လှဲလိုက်သည်။

"ဘယ့်နှယ်လဲ၊ သဘောမကျဘူးလား" ဟု ကျီကျန်းက ပြုံး၍ မေး၏။

လင်ကွမ်းက

"တော်ပါတော့အစ်ကိုရယ်။ ကျွန်မတို့ကို ဒီစံအိမ်ဝင်းကြီးထဲမှာ ဒီလောက်ပိတ်လှောင်ထားရယင် တော်ရောပေါ့၊ ကျွန်မတို့အတွက် ငှက်ကလေးတစ်ကောင်ဝယ်လာတယ်ဆိုပြီး ကျွန်မတို့လိုပဲ လှောင်ပိတ်ထားဦး၊





မလိုလား။ အမှန်ကတော့ ကျွန်မတို့အပျင်းပြေအောင် အစ်ကိုဝယ်လာတာမဟုတ်လား။ ဝယ်လာပြီးမှတော့ ကြိုက်သလား မကြိုက်ဘူးလားဆိုတာ မေးမနေပါနဲ့တော့"

ကျီကျန်းမှာ အနည်းငယ်မျက်နှာပျက်သွားပြီး မိမိတွင် ထိုသို့ သဘောစေတနာမျိုး မရှိရကြောင်းဖြင့် ကျိန်တွယ်ပြောလေ၏။

"အေး ဒါတော့ မင်းတို့သဘောပေါ့ကွာ။ ငါမှာတော့မင်းတို့ အပျင်းမပြေပါစေတော့ဆိုပြီး စေတနာနဲ့ဝယ်လာရတာ။ ဝယ်သဲလာရ ပေးတယ်၊ အကောင်းလဲအပြောမခံရဘူး။ ကောင်းပြီ၊ မင်းတို့ ဒီလောက် ကောင်ဖြစ်နေယင် ဒီငှက်ကို ငါပြန်လွှတ်ပစ်လိုက်မယ်"

ထိုသို့ပြောပြီးနောက် ကျီကျန်းသည် ငှက်ကို ပြန်လွှတ်လိုက်ပြီး လျှင် လှောင်အိမ်ကိုလည်း ရိုက်ချိုးပစ်လိုက်၏။

"ဒီငှက်ကလေးဟာ လူမဟုတ်ပေမယ့် အသိုက်ထဲမှာ ဒီမေတို့ ဟာတို့ကျန်ရစ်ခဲ့မှာပဲ။ အစ်ကိုက အပျင်းပြေစေဖို့အတွက် ဒီငှက်လေးကို သူ့အသိုက်မြုံကခွဲထုတ်သာသာဟာတော့ ရက်စက်ရာ ရောက်လွန်းပါမယ်။ ဒီနေ့ဆိုယင် ကျွန်မသွေးအန်တာ နှစ်ကြိမ်ရှိပြီ၊ သခင်မဝမ်အာ ကောင် သမားတော်တစ်ယောက်ကို လွှတ်လိုက်မယ် ပြောဖော်ရသေးတယ်။ အစ်ကိုအခုတော့ ဘာမဟုတ်တဲ့ ငှက်တစ်ကောင်ကိုဝယ်လာတယ်။ ဟုတ်ပါတယ်၊ ကျွန်မတို့ကိုကံဆိုးပါတယ်။ ကျွန်မတို့မှာ နေထိုင်မကောင်း ဖြစ်မှ စောင့်ရှောက်မယ့်သူမရှိ ဘာမရှိနဲ့"

လင်ကွမ်းသည် ငိုလျက်ရှိလေပြီ။

"မဟုတ်ပါဘူးဟာ၊ မနေ့ညက ငါသမားတော်နဲ့ တွေ့ခဲ့ပါပြီ၊ အရောဂါမှကြီးကြီးကျယ်ကျယ်မရှိဘူးတဲ့၊ သူကိုယ်တိုင် လာ လာကြည့်ဦးမယ်တဲ့။ သူပေးတဲ့ဆေးကို တစ်ခါနှစ်ခါလောက် သောက်လိုက်ယင် ပျောက်သွားမှာပါတဲ့။ နောက်တစ်ခါသွေးအန်တာကတော့ ငါမှ မသိတဲ့ကိုး။ ဒီလိုဆိုယင် သမားတော်ဆီကို ခုချက်ချင်းပဲ ငါသွားလိုက်မယ်"

ကျီကျန်းကသွားရန်ပြင်လိုက်၏။ သို့ရာတွင် လင်ကွမ်းက လှမ်း တားလိုက်၏။

"နေသိပ်ပူနတယ်၊ ခု သွားခေါ်မနေပါနဲ့တော့။ နောက်မှ ခေါ်ပါ"

သို့ဖြင့် ကျီကျန်းမှာ သူ့နေရာတွင်ပြန်ထိုင်နေလေ၏။

ပေါက်ယုသည် သူတို့နှစ်ယောက် စကားပြောနေသည်ကို ကြ ရင်း လင်ကွမ်းသည် အဘယ့်ကြောင့် မြေကြီးပေါ်တွင် 'နှင်းဆီ' သည့်စကားလုံးများကိုရေးနေကြောင်းကို စဉ်းစားလျက်ရှိ၏။ ပေါက်ယု သည် ဝေခွဲမရသောစိတ်ဖြင့် ထိုနေရာမှပြန်ထွက်လာခဲ့လေ၏။ ကျီကျန်းမှာ လင်ကွမ်းစိတ်ကောက်နေသည်ကိုချော့နေရသည့်အတွက် ပေါက်ယုကို လိုက်မပို့နိုင်ဘဲရှိလေရာ အခြား ကချေသည် မိန်းကလေးများက ပေါက်ယုကို ဝင်းဝရောက်အောင် လိုက်ပို့ကြလေ၏။

ပေါက်ယုသည် ငိုင်တိုင်ငိုင်တိုင်ဖြင့် မိမိအဆောင်ရှိရာသို့ပြန်လာ သည်တွင် မာလာနှင့်စကားပြောနေသော ထိုက်ယုကိုတွေ့ရ၏။ ပေါက်ယု သည် မာလာထံသို့လျှောက်လာခဲ့ကာ

"မာလာ မနေ့ညက မောင်ပြောခဲ့မိတာတွေဟာ မှားပါတယ် ကွယ်၊ ဒါကြောင့်မို့ မောင့်ခမည်းတော်ကြီးက မောင့်ကို သန်းကောင် လကွယ်ညလို မိုက်မဲတယ်လို့ ပြောတာနေမှာပဲ၊ ဘာမှ မဆန်းပါဘူး။ မောင်သေယင် မာလာတို့အားလုံးက ငိုင်းငိုကြလိမ့်မယ်လို့ပြောမိတာဟာ မှားဘယ်။ ခုတော့ မာလာတို့ မျက်ရည်တွေအားလုံးဟာ မောင့်ဖို့ချည်း မဟုတ်ဘူးဆိုတာ မောင်သိပါပြီ။ မာလာတို့မှာ ကိုယ့်အကြောင်းနဲ့ကိုယ် မျက်ရည်ကျစရာတွေ အများကြီး ရှိကြတယ်ဆိုတာလဲ မောင်သိပါပြီ"

မာလာသည် မနေ့ညက သူအမှတ်မဲ့ပြောခဲ့သည့် စကားများကို မေ့သလောက်ဖြစ်နေလေရာ ပေါက်ယုက ယခုအရေးတကြီးထား၍ပြန် ပြောသည်ကို ကြားရသည့်အခါတွင် အံ့အားသင့်လျက်ရှိလေ၏။

"ဩော် သခင်လေးဟာ တော်တော်စိတ်ရှုးထတယ်" ဟု မာလာ က နောက်ပြောင်၍ပြော၏။

ပေါက်ယုက မည်သို့မျှပြန်မပြောချေ။ အချစ်ဟူသမျှသည် ရေ ရေစက်အတိုင်းဖြစ်ကြရ၍ လူတိုင်းတွင် ကိုယ့်ဖူးစာနှင့်ကိုယ်ရှိပြီးဖြစ်သည်





ဟု ပေါက်ယုယုံကြည်လေရာ ငါသေသည့်အခါတွင် မည်သူမျက်ရည် ကျလေမည်နည်းဟု ပေါက်ယု ပေါက်ပေါက်ရှာရှာ တွေးနေမိလေ၏။ သို့ရာတွင် ပေါက်ယု၏ စိတ်ထဲတွင် ရှိနေသမျှကိုမူ အကုန်အစင် မသိ နိုင်ပြီ။

ထိုက်ယုသည် ငိုင်တိုင်ငိုင်တိုင်ဖြစ်နေသော ပေါက်ယု၏ အခြေ အနေကိုမြင်သဖြင့် ဘာမျှမမေးတော့ချေ။ တစ်နေရာရာမှ တင်ခုခု ဖြစ် လာပြီဟုသာ စိတ်တွင်အောက်မေ့လိုက်မိလေ၏။

"ခု ဒေါ်လေးဆွေတို့ဆီက ပြန်လာတာ၊ မနက်ဖြန်ကျယင် ဒေါ်လေးဆွေ့ရဲ့ မွေးနေ့တဲ့။ မောင်တို့ သွားမလား မသွားဘူးလား ဆိုတာအမေးခိုင်းလိုက်လို့၊ တစ်ယောက်ယောက်ကို လွှတ်ပြီး အပြောခိုင်း လိုက်နော်"

"မောင်က ဦးကြီးကျီချိုင်ရဲ့ မွေးနေ့ကိုတောင် သွားတာမဟုတ် ဘူး။ တစ်ယောက်ယောက်ကို အထူး တွေ့စရာရှိတယ်ဆိုယင်တော့ မပြော တတ်ဘူးပေါ့လေ။ နို့မို့ယင်တော့ မောင်က ဘယ်မွေးနေ့ညှော်ခံပွဲကိုမှ မသွားဘူး။ ပြီးတော့ ပူအိုက်ရတဲ့အထဲမှာ ပွဲတက် အဝတ်အစားကြီးတွေ ဝတ်ပြီး သွားရမှာ စိတ်ပျက်လွန်းလို့။ မောင်မလာယင်လဲ ဒေါ်လေး ဆွေ့ကတော့ စိတ်ဆိုးမှာမဟုတ်ပါဘူး"

မာလာက

"ဒီလိုလဲ မလုပ်နဲ့လေ၊ ဒေါ်လေးဆွေ့နဲ့ သခင်ကြီးကျီချင်နဲ့ တူ မှမတူတာ။ သခင်ကြီး ကျီချင်က ဒါတွေကိုပယ်ထားတဲ့သူ၊ ဒေါ်လေး ဆွေ့က သခင်ကြီးကျီချင်လောက်မှ မရင့်သေးတာ။ ပြီးတော့ သခင် လေးက သိပ်လဲဝေးတာမဟုတ်ဘူး၊ အနီးအနားတွင်နေတာ။ ဆွေမျိုး အားချင်းကလဲ တော်နေသေးတယ်။ သခင်လေးမသွားဘူးဆိုယင် ဘာ မှန်လို့လဲလို့ စိတ်ထဲမှာ တထင့်ထင့်ဖြစ်နေလိမ့်မယ်၊ တကယ်လို့ ပူလွန်းလို့ ညှော်ခံပွဲကို မသွားချင်တောင်မှ ဒေါ်လေးဆွေ့ကို သွားကန်တော့ဖို့တော့ ကောင်းတာပေါ့။ မဟုတ်ဘူးလား"

ပေါက်ယုက မည်သို့မျှမပြောရသေးမီ ထိုက်ယုက

"ဟုတ်တာပေါ့၊ မောင်မသွားလို့ ဘယ့်ဖြစ်ပါ့မလဲ။ ဒီပြင်လူတွေ အတွက် မသွားသောင်မှ ခြင်ခြောက်ပေးတဲ့သူ့ရဲ့မျက်နှာကိုတော့ ထောက် ဦးမှပေါ့။ သူ့ခမျာ ခေါင်းအိပ်နေတုန်း ထိုင်ပြီး ယပ်တစ်ချောင်းနဲ့ခတ် ပေးလိုက်ရကာ၊ အမေမာပဲ"

"ဘာခြင်ခြောက်ပေးတာလဲ"ဟု ပေါက်ယုက မေးလိုက်၏၊

သူအိပ်ပျော်နေစဉ် အနားတွင် မည်သူမျှမရှိသည့်အတွက် ပေါက် ကြည်က ထိုင်၍ ယပ်ခတ်ပေးနေခဲ့ပုံကို မာလာက ပြောပြလိုက်၏။

"ဟုတ်လား၊ ဒီလိုဆိုယင် ဘယ်ကောင်းမလဲ။ သူသာနေတုန်း မောင်က တခါခါ အိပ်ပျော်နေတာပေါ့ ဟုတ်လား။ အင်း၊ ဒီလိုဆို ယင်တော့သဲ မနက်ဖြန်မှာ သွားမှ ကောင်းတော့မှာပေါ့"

ထိုစဉ် ရှီးမ်းယဉ်သည် အိမ်တွင် ဝတ်နေကျ အဝတ်အစားများ ကို ဝတ်ဆင်၍ ပေါက်လာသည်။ အိမ်မှပြန်လာရန် ခေါ်သဖြင့် သူတို့ ကိုလာရောက် နှုတ်ဆက်ခြင်း ဖြစ်လေ၏။ သူတို့အားလုံး ထိုင်ရာမှထ၍ ရှီစမ်းယဉ်ကိုထိုင်ရန် ပြောလေ၏။ သို့ရာတွင် ရှီစမ်းယဉ်မှာ ထိုင်ချိန်မရ သဖြင့် သူ့ကို ဝင်းဝအထိ လိုက်ပို့လိုက်ကြ၏။ ရှီစမ်းယဉ်၏ မျက်လုံးတွင် မျက်ရည်တော့ ဝဲလျက်ရှိသော်သည်း သူ့အိမ်အစများနှင့်နေသည့်အတွက် ဘာမျှမပြောချေ။ ပေါက်ကြည်ရောက်လာသည့်အခါတွင် ရှီစမ်းယဉ်မှာ မခွဲရက်နိုင်အောင် ဖြစ်လျက်ရှိလေ၏။

ထိုအကြောင်းကို အိမ်အစများက အိမ်သို့ပြန်ပြောလျှင် ရှီစမ်းယဉ် အဆူခံရမည်ကို ပေါက်ကြည် ကောင်းကောင်းသိ၏။ ထို့ကြောင့်ပေါက် ကြည်သည် ရှီစမ်းယဉ်ကို မြန်မြန်အပြန်ခိုင်းလေ၏။ သူတို့တစ်သိုက်သည် ရှီစမ်းယဉ်ကို ဒုတိယဝင်းဝအထိ လိုက်ပို့လိုက်ကြလေ၏။ ပေါက်ယုသည် အဝေးအထိ လိုက်ပို့မည်ပြုသေးသော်လည်း စမ်းယဉ်က နေရစ်ခဲ့ရန်ပြော လေ၏။ သို့ရာတွင် ရှီစမ်းယဉ်သည် ပြန်လှည့်လာ၍ ပေါက်ယုကို လှမ်း ခေါ်လိုက်လေ၏။





"စမ်းယဉ် ဒီကိုပြန်လာမယ်နော် မောင်။ မယ်မယ်များ မေ့နေလို့ ရှိယင် ပြန်ခေါ်ဖို့ မယ်မယ့်ကို ပြောပေးပါ"

ပေါက်ယုက မယ်မယ့်ကိုပြောမည်ဟု ကတိပေးလိုက်၏။

သူတို့တစ်သိုက်သည် ရထားပေါ်သို့တက်သွားသော ရှီစမ်းယဉ်ကို ငေးကြည့်ကျန်ရစ်ခဲ့ကြပြီး ရထားထွက်သွားသည့်အခါတွင်မှ ဥယျာဉ်ထဲ သို့ ပြန်လာခဲ့ကြလေ၏။ နောက် မည်သို့ဖြစ်သည်ကို သိလိုလျှင် ဆက်၍ ဖတ်ပါလေ။

# အခန်း ၃၇

## ဟောမာန်ဆန်းသစ်ဆောင်တွင် ဂမုန်းနွယ်ကဗျာအဖွဲ့ ဖွဲ့စည်းခြင်း။ စွယ်တော်ရိပ်၌ ဂန္ဓမာပန်း ကဗျာများကိုဖွဲ့ဆိုရန် အကြောင်းအရာရွေးကြခြင်း။

ထိုနှစ်၌ကျီချိန်သည် ဒေသဆိုင်ရာ စာစစ်မင်းကြီးချုပ်အဖြစ် ခန့်အပ်ခြင်း ခံရသည့်အတွက် အင္ဂမလ၊ လပြည့်ကျော် ငါးရက်နေ့တွင် ခရီးထွက်ရန် ပြင်ဆင်ရ၏။ ထိုနေ့၌ ကျီချိန်သည် ဘိုးဘွားအစဉ်အဆက် သချိုင်း များနှင့်တကွ မယ်မယ်ကိုကန်တော့ပြီးနောက် ခွဲခွာခြင်းခန်းဆောင်သို့ လာခဲ့သည့်တွင် ပေါက်ယုနှင့် အခြားအိမ်သူအိမ်သားများပါ အစုံအညီ လာရောက်နှုတ်ဆက်ကြ၏။ သို့ရာတွင် ကျီချိန်၏ စာစစ်ချုပ် အဖြစ် ဆောင်ရွက်သည့်လုပ်ငန်းများကိုမူ ကျွန်ုပ်တို့နှင့်ဆက်ဆိုင်ခြင်း မရှိသဖြင့် ဤနေရာတွင် ဖော်ပြခြင်းမပြုတော့ပြီ။

ကျီချိန် မရှိတော့သည့် အခါ၌ ပေါက်ယုမှာ ဥယျာဉ်ထဲတွင် လွတ်လပ်ရေးရကာ ထင်တိုင်းကြဲလျက် ရှိလေ၏။ တစ်နေ့သ၌ ပေါက်ယု သည် ပျင်းပျင်းနှင့်ထိုင်နေစဉ် အစေတော်ဆွမိုသည် စာရေးစက္ကူလှလှ ပေါ်တွင် ရေးထားသည့်စာတစ်စောင်ကိုယူလာလေ၏။





"အေး၊ နင်ရောက်လာလို့ ဝမ်းသာလိုက်တာဟာ၊ ငါတောင် မှုန်နေပြီ၊ ငါလဲ အစ်မတော်တန်ချွန်းဆီကိုလာမလို့ စိတ်ကူးနေတာ။ သူ့ကော တော်တော်နေကောင်းပြီလား"

"ဟုတ်ကဲ့ကောင်းပါပြီ။ ဒီနေ့ဆိုယင် ဆေးတောင်စားဖို့မလိုတော့ ပါဘူး။ နည်းနည်းပါးပါး အအေးမိတာပါ"

ပေါက်ယုသည် စာကိုဖွင့်၍ဖတ်လိုက်၏။

"တန်ချွန်းက အစ်ကို့ကို နှုတ်ဆက်လိုက်ပါတယ်။

"မနေ့ညက မိုးရွာပြီးတော့ လကထိန်နေအောင် သာနေတယ်။ လရောင်ကို မြင်ရခဲလွန်းလို့အိပ်လို့တောင်မရ ဘဲ သန်းခေါင် တိုင်အောင် လရောင်ထဲမှာလမ်းလျှောက် နေမိတယ်။ ဒါကြောင့် မိုးနှင်းတွေစို့ရွှဲပြီး အအေးမိ သွားတယ်။ မနေ့ကမောင်ကိုယ်တိုင်လာပြီး လူမမာမေးရုံ မက၊ အစေတော်တွေကိုလွှတ်ပြီး လိုင်ချီသီးနဲ့ တန်ခေတ် လက်ရေးပန်းချီကားတွေ ပို့လိုက်တဲ့အတွက် မောင့်ရဲ့ကြင် နာမှုကို အထူးသတိရပြီး ကျေးဇူးတင်ရပါတယ်။

"ဒီနေ့ အေးအေးဆေးဆေး အနားယူနေရင်း တွေး မိတာတစ်ခုရှိတယ်။ ရှေးလူကြီးများဟာ ကျော်ကြားမှု ကို လိုက်ရှာရင်း၊ အမြတ်အစွန်းအတွက် အလုပ်လုပ်ရင်း သူတို့စိတ်အပန်းဖြေနိုင်မယ့် ကမူကလေးတွေ၊ စမ်းချောင်း ကလေးတွေကို ဖန်တီးထားကြတယ်။ အဲဒီ စမ်းချောင်း ကလေးတွေရဲ့ဘေးမှာ အပေါင်းအဖော် ဆွေသဟာများ နဲ့ လက်ဖက်ရည်ကြမ်း သောက်ပြီး စာဝိုင်း ကဗျာဝိုင်း ကလေးတွေဖွဲ့ကြတယ်။ ဒီစာဝိုင်းကဗျာဝိုင်း လေးတွေရဲ့ သတင်းဟာ ခုထက်ထိ်ချိန်းတို့ခေတ်ထိအောင် ရှိနေခဲ့ကြ တယ်။

PDF CREATOR - NYEYADHAMMA@GMAIL.COM

"တန်ချွန်းဟာ စာဆိုပါရမီဉာဏ် ရင့်သန်တဲ့ သူ တစ်ယောက်မဟုတ်ပါဘူး။ ဒါပေမယ့် ကျောက်လိုဏ်ဂူတွေ၊ ရေပန်းတွေကြားမှာ စာဆိုဉာဏ်ရင့်သန်တဲ့မလေး ပေါက်ကြည်တို့၊ မလေးထိုက်ယုတို့ရဲ့ ကဗျာစာညွန့်တွေကိုနားထောင်ခွင့်ရတာဟာ ကံထူးလို့ပဲလို့ အောက်မေ့မိပါတယ်။ ရိပ်ငြိမ်တဲ့တလင်းနဲ့လရောင်ရွှန်းတဲ့ လေသာဆောင်မှာ ကျင်းပတဲ့ပွဲကလေးမှာ ကဗျာစာဆိုတွေကို ဖိတ်ပြီး ကဗျာတိုစာတို့မဆိုယင် ဘယ်ကောင်းပါ့မလဲ၊ ဘယ်မှာပြည့်စုံပါ့မလဲ။ မက်မုံစမ်းချောင်းရဲ့ ဘေးကဆီးတော်ပင်ရိပ်သာမှာ သူတို့တစ်တွေနဲ့ လက်ဖက်ရည်ကြမ်းသောက်ရင်း ကဗျာဝိုင်းစာဝိုင်းမဖွဲ့ယင် ဘယ်မှာပြည့်စုံပါ့မလဲ။စင့်မင်းဆက်ခေတ် ကြာပန်းရေစင်အသင်းဝင်တွေ ခံစားခဲ့ကြတဲ့ အရသာမျိုးကို ယောကျ်ားတွေချည်းပဲခံစားရယင် ဘယ်တရားရာရောက်ပါ့မလဲ။ ဒီစာဝိုင်း ကဗျာဝိုင်းတွေကို တန်ချွန်းတို့လို မိန်းကလေးတွေ မလာရဘူးလို့ ပညတ်ယင် ဘယ်မှာ တရားရာ ရောက်ပါ့မလဲ။

"မောင်လာမယ်ဆိုလို့ရှိယင် ပန်းဝတ်မှုန်ကလေးတွေ ကြွေကျနေတဲ့လမ်းကို ကိုယ်တိုင်တံမြက်လှည်းပြီး စောင့်နေပါ့မယ်။ ရှိသေစွာရေးသားလိုက်ခြင်းပါ"

ပေါက်ယုက ဝမ်းသာအားရ လက်ခုပ်တီးလိုက်၏။

"အံ့မယ်လေးဟဲ့ လေ၊ တန်ချွန်းရေးလိုက်တဲ့စာကလဲ တယ်ပြီး စာသံပေသံပါတာကိုး။ အေး၊ ငါခုပဲလိုက်ခဲ့မယ်"

ပေါက်ယုသည် ဆွေမျိုးနှင့်အတူလိုက်ခဲ့ရာ တတိုင်းမွှေးဆောင်အဝသို့ရောက်လျှင် တာဝန်ကျအစေခံ မိန်းမကြီး တစ်ယောက်က စာတစ်စောင်ကို ထုတ်ပေးလေ၏။





"သခင်လေး ကျွယ်နက ပေးလိုက်ပါတယ်"
ပေါက်ယုသည် စာကိုဖွင့်၍ဖတ်လိုက်၏။

"ဖခင်၏ မွေးစားသား အဖြစ် ခံယူရရှိသည့်နေ့မှစ၍ ဖခင်အား လုပ်ကျွေးပြုစုရန်အခွင့်ကောင်းကို စောင့်ခဲ့သော်လည်း မရခဲ့ပါ။ သားမောင်မှာ မကြာမီကပင် ဥယျာဉ်တော်အတွက် ပန်းဝယ်သည့်အလုပ်ကို ရရှိခဲ့ပါသည်။ ဖခင်၏ကျေးဇူးကြောင့် သားမောင်မှာ နာမည်ကျော်ဥယျာဉ်မှူးနှင့်သိကျွမ်းခဲ့ကာ နာမည်ကျော်ဥယျာဉ်ကြီးများသို့ ရောက်ခဲ့ရပါသည်။ သို့ရောက်ခဲ့ရာတွင် ဥယျာဉ်တစ်ခု၌ အလွန်ရှားပါးသည့် ကျောက်ချဉ် ပန်းမျိုးကိုတွေ့ခဲ့ရာတွင် ခက်ခက်ခဲခဲဖြင့် ပန်းအိုးနှစ်အိုးရလာခဲ့ပါသည်။ ကျွန်တော့အား မွေးစားသားတစ်ယောက် အနေဖြင့် ချစ်ခင်ပါက ထိုပန်းအိုးနှစ်အိုးကို အလှထားစေလိုပါသည်။ လက်ခံစေလိုပါသည်။

"ဥယျာဉ်တော်ထဲရှိ အစ်မတော်လေးများ အားအနှောင့်အယှက်ဖြစ်မည်စိုးသည့်အတွက် ဥယျာဉ်တော်ထဲသို့မဝင်တော့ဘဲ ထားပစ်ခဲ့ပါသည်။ ရှိသေစွာဦးညွှတ်လျက်"

စာကိုဖတ်ပြီးနောက် ပေါက်ယုသည်ပြုံးလိုက်လျက်
"သူတစ်ယောက်တည်း လာပို့သွားတာလား"
"ဟုတ်ပါတယ်။ ပန်းအိုးနှစ်အိုးလဲထားသွားပါတယ်"
"ဟုတ်ပြီလေ၊ ကျေးဇူးတင်တယ်လို့ ပြောလိုက်ပါ။ ပြီးတော့ ပန်းအိုးတွေကို မောင့်အဆောင်ထဲကိုပို့ထားလိုက်ပါ"
ထိုသို့ပြောဆိုပြီးနောက် ပေါက်ယုသည် ပေါက်ကြည်၊ ထိုက်ယု၊ ယင်ချွန်းနှင့် ဆိချွန်းတို့ရှိရာ ဟေမာန်ဆန်းသစ်ဆောင်သို့သွားခဲ့၏။ သူဝင်လာသည်ကိုမြင်လျှင် မိန်းမပျိုများက

"ဟော တစ်ယောက်တော့လာပြီ"ဟု အော်ကြ၏။ တန်ချွန်းက ပြုံးလိုက်လျက်

"ရုတ်တရက်စီစဉ်လိုက်ရတာဆိုတော့ အပြစ်တော့မဟင်နဲ့နော်။ ဖိတ်သာဖိတ်ရတယ်၊ လာမှလာပါ့မလားလို့"

"လာမှာပေါ့။ တကယ်ကတော့ ဒီလို စာဝိုင်းကဗျာဝိုင်းကလေး လုပ်ဖို့ကောင်းတာကြာလှပြီ" ဟု ပေါက်ယုက ပြော၏။

"ဒီစာဝိုင်းကဗျာဝိုင်းထဲမှာတော့ ထိုက်ယုတို့ မပါပါရစေနဲ့နော်။ ကိုယ့်ဘာသာကိုယ် လုပ်ကြပါ၊ ထိုက်ယုတို့က အဆင့်မမီပါဘူး" ဟု ထိုက်ယုက ပြောလေ၏။

"မသေးမပါယင် ဘယ်မှာပွဲစည်ပါ့မလဲ"ဟု ယင်ချွန်းက ပြုံး၍ ပြော၏။

"ဒါက အတည်လုပ်တာလေ၊ ကလေးကစားတာ မဟုတ်ဘူး။ ဒီတော့ တစ်ယောက်ကိုတစ်ယောက် အားနာလို့ပါတာမျိုးလဲ မလုပ်ပါနဲ့။ ကဗျာအကြောင်းအရာတစ်ခုခုကို ဦးတည်ပြီး ဆွေးနွေးကြတာပေါ့။ ကဲ မလေးပေါက်ကြည်နဲ့ မလေးထိုက်ယုတို့က ဘာတွေ အကြံပေးချင်သလဲ၊ ပြော"

'ဘာဖြစ်လို့ဒီလောက်အရေးကြီးနေရဘာလဲ၊ လူမှမစုံသေးတာ" သူတို့ပြောနေကြစဉ် လီဝမ်းလည်းရောက်လာလေ၏။

'တယ်လဲဟန်ကျပါလား၊ ကဗျာဝိုင်း စာဝိုင်းကလေးတစ်ခု ထောင်ချင်တယ်ဆိုလို့ရှိယင် လီဝမ်းက သဘာပတိလုပ်မယ်လေ။ လီဝမ်းက မနှစ်နွေဦးပေါက်ကတည်းက ဒီလိုဝိုင်းမျိုးကလေး လုပ်ချင်နေတာ၊ ဒါပေမယ့် ပြန်ဘွေးတော့ ကိုယ်က ကဗျာဆိုလို့ တစ်လုံးမှမရေးတတ်ဘဲ သွားလုပ်ယင် အသကားနေမှာပဲဆိုပြီး နောက်ဆုတ်ထားရဘာ။ ခု တန်ချွန်းက ဒီလောက်စိတ်ပါနေဘယ်ဆိုယင် ကိုယ်တို့အလဲ ဝိုင်းကူမှာပေါ့"

"စာဝိုင်း ကဗျာဝိုင်းကလေးဖွဲ့ချင်ယင် ထိုက်ယုတို့ အားလုံးက ကဗျာစာဆိုတွေဖြစ်ဖို့ကောင်းတယ်။ ပထမ ဒီကဗျာဝိုင်းဟာ ရှေးအစဉ်အလာတွေဘာ ခေတ္တကို စွန့်ပစ်ရမယ်။ ပြီးတော့ အချင်းချင်း မောင်တွေ၊ အစ်မတွေ၊ မလေးတွေ၊ မလတ်တွေခေါ်တာမျိုးတွေလုပ်မနေနဲ့"





"ဟုတ်တယ်၊ ကလောင်နာမည်တွေ မှည့်ရမယ်။ ကိုယ်ကတော့ ကိုယ့်ကလောင်နာမည်ကို 'စပါးချို့တောမှ လယ်လုပ်သား' လို့ အမည်ပေးမယ်"

"တန်ချွန်းကတော့ 'ဟေမာန်ဆန်းသစ်သခင်' လို့ အမည်ပေးမယ်"

"မကောင်းပါဘူး၊ ဒီမှာလာပြီး သခင်တွေ ကဝိတွေတပ်မနေပါနဲ့။ ဒီနားမှာ ငှက်ပျောဘောတွေ၊ မိုးမခဘောတွေ ရှိလျက်သားနဲ့၊ ကလောင်နာမည်ကိုယူယင် လူထုနဲ့နီးစပ်အောင်ယူစမ်းပါ"ဟု ပေါက်ယုက ပြော၏။

"ဟုတ်တယ်၊ တို့ဘဘော့ ဒါမျိုးကိုကြိုက်တယ်။ အပင်ထဲမှာဆိုယင်လဲ ငှက်ပျောပင်ကို အကြိုက်ဆုံး။ ဒါကြောင့် 'ငှက်ပျောပင်အောက်က ဧည့်သည်' ဆိုတဲ့ ကလောင်နာမည်ကိုယူမယ်"

အချို့က ထိုအမည်မှာ လူထုနှင့် နီးစပ်သည်ဟုဆို၍ သဘောကျကြ၏။ ထိုက်ယုကမူ

"ကောင်းသားပဲ။ ဒီလိုဆိုယင် သူ့အသားကိုလှီးခဲ့ကြ။ ကင်ပြီး အရက်ကလေးဘာလေးနဲ့ မြည်းရအောင်" ဟု စလေ၏။ အခြားသူများက ထိုက်ယု၏ပြက်လုံးကို နားမလည်သဖြင့် ကြောင်ကြည့်ကြစဉ် ထိုက်ယုက

"ရှေးကစာဆိုရှိဘယ်လေ။ မကြားဖူးဘူးလား၊ 'ဒရယ်တစ်ထုပ်၊ ငှက်ပျောအုပ်၍' ဆိုတဲ့ကဗျာလေ။ တန်ချွန်းက ငှက်ပျောပင်အောက်က ဧည့်သည်လို့ နာမည်ပေးဘော့ သူက ဒရယ်မကလေးပေါ့။ ကဲ မြန်မြန် ကလေးကင်ကြ၊ စားကြရအောင်"

သူ့စကားကြောင့် အားလုံးပွဲကျသွားလေ၏။ တန်ချွန်းက

"မှတ်ထားပါ၊ ကိုယ့်အလှည့်ရောက်ဦးမှာပါ။ ဒီလိုပဲ၊ သူများကျယင် သူသိပ်လှောင်ချင်တာပဲ။ ဒီကလဲ မလေးထိုက်ယုဖို့ နာမည်တစ်ခုရှာထားပါတယ်။ နာမည်က သိပ်လိုက်တာပဲ"ဟုဆိုကာ အားလုံးဘက်သို့ လှည့်လိုက်ပြီး

"ရှေးတုန်းက သူတော်စင်ဘုရင်ကြီး ရှန်ဘုရင်ရဲ့ မိဖုရားတွေဟာ ငိုရလွန်းတော့ သူတို့မျက်ရည်တွေဟာ ဝါးပင်တွေပေါ်ကိုကျပြီး အစက်

အစက်တွေ ထင်သတဲ့။ ဒါကြောင့် ဝါးပိုးမျက်ဆံကျယ် ပင်စည်မှာ အပြောက်အကျားတွေထင်နေတာတဲ့။ အဲဒါ သူတို့မျက်ရည်တွေစွန်းထားလို့တဲ့။ ဟော၊ ခုမလေးတိုက်ယုက ဝေဠုဝန်မှာ နေတာမဟုတ်လား။ ခု ဝေဠုဝန်မှာနေပြီး လွမ်းလို့ငိုလိုက်ရတာကလဲ နေ့တိုင်းပဲ။ တစ်နေ့ကျ ယင် သူ့ချစ်သူကိုလွမ်းတဲ့ မျက်ရည်တွေက ဝါးပင်တွေကိုလာစင်ပြီး ဝေဠုဝန်မှာရှိတဲ့ ဝါးပင်တွေအားလုံးဟာ ဝါးပိုးမျက်ဆံကျယ်တွေဖြစ်ကုန်တော့မှာ။ ဒီတော့ မလေးထိုက်ယုကလဲ ဝေဠုဝတီမင်းသမီးကလေးပေါ့ မဟုတ်ဘူးလား'

အားလုံးက လက်ခုပ်တီးကြ၏။ ထိုက်ယုကား ဘာမျှမပြောတော့ဘဲ ခေါင်းကိုငုံ့ထားလေ၏။

"မလေးပေါက်ကြည်အတွက် ကလောင်နာမည် တစ်ခုကိုတော့ ကိုယ်ရွေးထားတယ်၊ တိုတိုပဲ"ဟု လီဝမ်းကပြော၏။

"ဘာလဲ"ဟု ယင်ချွန်းနှင့်ဆီချွန်းတို့က မေး၏။

"ဂမုန်းဒေဝီလို့ပေးမယ်လေ။ ဘယ့်နှယ်လဲ"

"သိပ်ကောင်းတာပဲ"ဟု ယင်ချွန်းကပြောလေ၏။

"မောင့်ကိုကော။ မောင့်အတွက်လဲ ကလောင်နာမည်တစ်ခု ရှာပေးပါဦး"

ပေါက်ကြည်က ရယ်လိုက်ရင်း

"မောင်က၊ ဘာရှာစရာလိုတော့သလဲ၊ မောင့်မှာရှိပြီးသားပဲဟာ။ မောင့်ကလောင်နာမည်က ကိုပျော်ယာတဲ့"

"'လိုက်ဂူနီမင်းသား' ဆိုတဲ့ နာမည်ကော။ မောင့် အလျှင်နာမည်လေ" လီဝမ်းကပြော၏။ ပေါက်ယုသည် ရှက်ရှက်ဖြင့် ပြုံးနေလေ၏။

"အို၊ ဒါက ငယ်ငယ်တုန်းကအရှူးထပြီးမှည့်ခဲ့တဲ့နာမည်ပါ။ ကြီးမှတော့ ဒီလို ကြောင်တောင်တောင်နာမည်တွေ မမှည့်ချင်တော့ပါဘူး"

တန်ချွန်းက

"မောင့်မှာ ကလောင်နာမည်တွေ တစ်ပုံကြီး ရှိပြီးသား မဟုတ်လား။ ဘာဖြစ်လို့ အသစ်ထပ်မှည့်ချင်ရသေးတာလဲ။ တန်ချွန်းတို့ကတော့ အဲဒီနာမည်တွေထဲက ကိုယ်ကြိုက်တဲ့ နာမည်ကို ကောက်ခေါ်လိုက်မှာပဲ"





"ပေါက်ကြည်စဉ်းစားထားတာ တစ်ခုတော့ရှိတယ်။ နာမည်က သိပ်တော့မလှဘူး၊ ဒါပေမယ့် မောင်နဲ့တော့ အံကိုက်ကိုလိုက်တာ။ လောကမှာ ရနိုင်ခဲတဲ့ အရာနှစ်ခုရှိတယ်၊ တစ်ခုက စည်းစိမ်ဥစ္စာ၊ နောက်တစ်ခုက မှူးမတ်ရာထူး အာဏာ၊ တကယ်ရနိုင်ခဲတဲ့အရာကတော့ ပျော်ရွှင်မှုပေါ့။ လူတွေမှာ ဒီသုံးခုအနက် တစ်ခု နှစ်ခုလောက်ပဲ ရှိကြတယ်။ အားလုံးစုံဖို့ဆိုတာကတော့ မလွယ်ဘူး။ မောင့်မှာတော့ ဒီသုံးခုစလုံးပြည့်စုံတယ်၊ ဒါကြောင့်မို့ မောင့်ကို 'မျိုးမြတ်ချမ်းသာ သုခ' လို့"

ပေါက်ယုက ပြုံးလိုက်ပြီး

"ဒီနာမည်က မောင့်အတွက် ကောင်းလွန်းနေသေးတယ်၊ ပေါ့ပေါ့၊ ကြိုက်သလိုခေါ်နိုင်ပါတယ်"

"ယင်ချွန်းတို့ တန်ချွန်းတို့ကကော"ဟု လီဝမ်းက မေး၏။

"အို၊ မလေးတို့က ကဗျာတွေစာတွေစပ်တတ်တာမှ မဟုတ်တာ။ ကလောင်နာမည်တွေဘာတွေ ထားဖို့မလိုပါဘူး"ဟု ယင်ချွန်းက ပြောလေ၏။

"ဘာပဲဖြစ်ဖြစ် တစ်ခုတော့မှည့်ထားဖို့ ကောင်းတာပေါ့"

"ယင်ချွန်းက လေးညှင်းကျွန်းပေါ်မှာနေတော့ သူ့နာမည်ကို 'လေးညှင်းကျွန်းသခင်' ပေါ့။ ဆီချွန်းကတော့ ကြာဖူးငုံဆောင်မှာ နေတော့ 'ကြာနတ်မယ်' ပေါ့"

လီဝမ်းက

"ကောင်းတယ်၊ ကောင်းတယ်။ ဒီအထဲမှာ ကိုယ်က အကြီးဆုံးဆိုတော့ ကိုယ့်စကားကိုနားထောင်ရမယ်။ ဒီအထဲမှာ ကိုယ့်အဆောင်က အကြီးဆုံး၊ ဒီတော့ ကိုယ့်အဆောင်မှာပဲစုကြပါ။ ကိုယ်က ကဗျာမစပ်ပေမယ့် ဒီကဗျာစာဆိုကြီးများက ကိုယ့်လိုလူပြိန်းတစ်ယောက်ကိုလက်ခံမယ်ဆိုယင် ကိုယ်ကပဲ အိမ်သည် လုပ်ပြီး ဧည့်ခံပါရစေ။ ဒီနည်းအားဖြင့် ကိုယ်လဲ ယဉ်ကျေးမှုကိုနားလည်အောင် လုပ်ပါရစေ။ ဒါပေမယ့် ကိုယ် တစ်ခုတော့ပြောထားမယ်၊ ကိုယ့်ကိုအကြီးအကဲလုပ်ခိုင်းမယ်ဆိုယင်တော့ ကိုယ်ကသိပ်မလုပ်ချင်ဘူး၊ ဒီတော့ ကိုယ့်လက်အောက်မှာလက်ထောက် နှစ်ယောက်လောက်ထားပါရစေ။ သူတို့နှစ်ယောက်ကတော့ လေးညှင်း

ဆောင်က သုခမိန်နဲ့ကြာပန်းဆောင်က သုခမိန်တို့ ဆိုပါတော့။ တစ်ယောက်ကကဗျာစပ်ဖို့အကြောင်းအရာကို ရွေးရမယ်၊ကာရန်ရွေးရမယ်။ တစ်ယောက်ကတော့ အဲဒီစာတွေ ကဗျာတွေကိုကူးဖို့ ဆိုပါတော့။ ဒါပေမယ့် ကိုယ်တို့ သုံးယောက်ကတော့ မရေးဘူး။ ကာရန် လွယ်ယင်၊ အကြောင်းအရာလွယ်ယင် လက်တန်းပဲစပ်သွားမယ်။ ဒါပေမယ့် ဒီလေ၊ ယောက်ကတော့ ချရေးပြီးစပ်ရမယ်။ ဒါ ကိုယ့်အဆိုတင်တာပဲ၊ကိုယ့်အဆိုကို လက်မခံဘူးဆိုယင်တော့ ဒီပညာရှိအသိုက်အဝန်းမှာမပါတော့ဘူး''

ယင်ချွန်းနှင့်ဆီချွန်းမှာ ကဗျာစပ်တတ်သူများ မဟုတ်ကြသည့်ပြင် စပ်တတ်သည်ဆိုလျှင်လည်း မည်နည်းနှင့်မျှ ပေါက်ကြည်တို့၊ ထိုက်ပုတို့ကိုသာနိုင်မည်မဟုတ်သည့်အတွက် လီဝမ်း၏အကြံကိုသဘောတူကြ၏။ အခြားသူများကလည်း အထူးအထွေပြောမနေတော့ဘဲ သဘောတူလိုက်ကြလေ၏။

''ကဲ၊ ရုတ်တရက်ကြည့်ယင်တော့ချယ်စရာအကောင်းသား။ ဒါပေမယ့် ဘာပဲဖြစ်ဖြစ် ကဗျာဝိုင်းကလေးဘစ်ဝိုင်းတော့ဖြစ်သွားပြီ။ ဒါကလဲ တန်ချွန်းစတ်ကူးကြောင့်ဖြစ်တာ။ ခုတော့ သူတို့သုံးယောက်က ခေါင်းဆောင်ဖြစ်သွားတာပေါ့''

''ကဲ၊ ပြီးပြီမဟုတ်လား။ ဒါဖြင့် စပါးချိုတောကိုသွားကြမယ်''

''ဒီသောက်လဲ မလောပါနဲ့ဦးသေ။ ခုမှ စိမ်ကိန်းချတုန်းပဲ ရှိပါသေးတယ်။ တကယ်က ကိုယ်ကဖိတ်ရမှာ''

''တစ်လကို ဘယ်နှစ်ခါလောက် တွေ့မလဲဆိုတာလောက်တော့ သတ်မှတ်ဖို့ကောင်းတယ်''

''ခဏခဏတွေ့တယ်ဆိုယင် ရိုးပြီး ပျင်းသွားလိမ့်မယ်။ ဒီတော့ တစ်လကို နှစ်ခါသုံးခါလောက်ပဲ တွေ့ကြတာပေါ့'' ဟု တန်ချွန်းက ပြောလေ၏။

ပေါက်ကြည်က ခေါင်းညိတ်၏။

''တစ်လကို နှစ်ကြိမ်သောက်ဆိုယင်တော်ပါပြီ။ နောက်ကျတော့ ရက်ချိန်းဘာပေါ့။ နေ့ပူပူမိုးရွာရွာ တွေ့မယ်နော်။ ဒီကြားထဲမှာ တစ်





ယောက်ယောက်က သူ့နေရာကိုလာလုပ်ပါလို့ ဖိတ်ယင်လဲ လက်ခံဘယ်၊ နေရာအပြောင်းအလဲရတော့ ပိုကောင်းတာပေါ့''

အားလုံးက သဘောတူကြ၏။ တန်ချွန်းက

''တန်ချွန်းပဲထပ်ပြီး အကြံပေးမယ်၊ ပထမဆုံး မလေးလီဝမ်းရဲ့အဆောင်မှာလုပ်ရမယ်''

''ကောင်းပါပြီရှင်၊ ဒီလိုဆို မနက်ဖြန်စမယ်။ ဘယ့်နှယ်လဲ''

''ဒီနေ့ပဲလုပ်ပေါ့၊ ပစ္စုပ္ပန်ထက် ကောင်းတဲ့ အချိန်ရယ်လို့ရှိဦးမသား။ကဲ တစ်ယောက်က အကြောင်းအရာရွေး။ သေးညှင်းကျွန်းသခင်မက ကာရန်ရွေး၊ ဘယ်လိုကာရန်မျိုးနဲ့ စပ်ရမလဲ။ ကြာဖူးငုံဆောင်ကဆာပတိလုပ်''

ယင်ချွန်းက

''ကာရန်နဲ့ အကြောင်းအရာကို တစ်ယောက်တည်းက မရွေးပါစေနဲ့၊ မကောင်းဘူး။ အဲ့ဒီလိုလုပ်မယ့်အစား ကာရန်နဲ့အကြောင်းအရာကို မဲနှိုက်ပါ''

လီဝမ်းက

''ကိုယ် ဒီကိုလာခဲ့တုန်းက လမ်းမှာ ကျောက်ချဉ်ပန်းအိုးနှစ်အိုးပို့သွားတာကို မြင်လိုက်တယ်။ လှလိုက်တဲ့ ပန်းတွေကွယ်၊ ဒီတော့ ကျောက်ချဉ်ပန်းအကြောင်းကို ကဗျာစပ်ယင်ကော''

''ဟင်း၊ မလေးဇာလဲ အဲဒီပန်းကို ယင်ချွန်းတို့မှ မမြင်လိုက်ရဘဲ ဘယ်လိုလုပ်ပြီး စပ်မှာလဲ''

ပေါက်ကြည်က

''ကျောက်ချဉ်ပန်းအဖြူရို ရိုးပါ၊ မမြင်ဖူးစရာမရှိပါဘူး။ ရှေးစာဆိုကြီးတွေကတော့ သူတို့ခံစားချက်တွေကို ကျောက်ချဉ်ပန်းနဲ့ နှိုင်းပြီး ဖွဲ့ဘတ်ကြတယ်။ မြင်ဖူးမှသာ ကဗျာစပ်ရမယ် ဆိုယင် ဒီနေ့မှာ ကဗျာတွေ ဘယ်ဒီလောက်များပါမလဲ''

''ဒီလိုဆိုယင် ဘယ်ကာရန်နဲ့ဖွဲ့မလဲဆိုတာကို ယင်ချွန်း ရွေးပေးမယ်''

ယင်ချွန်းသည် စာအုပ်စင်မှ ကဗျာကျမ်းတွဲတစ်တွဲကို လှမ်း လိုက်ပြီးနောက် တွေ့ရာကိုလှန်လိုက်ရာ အက္ခရာခုနစ်လုံးပါ လူရှိ အမျိုးအစားကို တွေ့ရလေ၏။ ထို့ကြောင့် ယင်ချွန်းက လူရှိကာရံ ဖွဲ့ရန်ပြောလေ၏။ ထို့နောက် ကဗျာစာအုပ်ကို ပြန်ထားလိုက်ပြီ အစေတော်လေးတစ်ယောက်ကို လှမ်းခေါ်လိုက်လျက်

"တဲ့ကောင်မလေး၊ နှင့်ခေါင်းထဲမှာရောက်လာတဲ့ စကာ ဟစ်လုံးကို ပြောလိုက်စမ်း။ ဘာပဲဖြစ်ဖြစ် မြန်မြန်ပြောလိုက်"

တံခါးဝတွင်ရပ်နေသည့်အစေခံတော် သူငယ်မကလေးက (တံခါး)ဟု ပြောလိုက်၏။

"ဟုတ်ပြီ။ သူပြောတဲ့ကာရန်ဟာ အလင်္ကာကျမ်း အခန် သုံးမှာပါတဲ့ ကာရန်ပဲ။ ဒီတော့ ပထမစာကြောင်းမှာ ဒီကာရန် မယ်"ဟု ယင်ချွန်းက ပြောလိုက်၏။

ထိုနောက် ယင်ချွန်းသည် ကာရန်ကတ်ပြားများထည့်ထား သေတ္တာကလေးကို ဆောင်းလိုက်ပြီးလျှင် တွေ့ရာကတ်ကလေးတစ် ကို ဆွဲယူလိုက်ရန် အစေခံတော်သူငယ်မလေးကို ပြောလေ၏။ ဆွဲယူ သည့်အခါတွင် 'ပင်' (အိုး)၊ 'ဖန်' (အကဲ)၊ 'ဟင်' (အစွန်းထ နှင့် 'ဝန်' (မှုန်သော) ဆိုသည့်ကတ်ပြားလေးခုကို ဆွဲယူမိလေ၏။

"အိုးနဲ့ တံခါး ကတော့ ကာရန်ထဲထည့်ဖို့ သိပ်ခက်တယ်" ဟု ပေါက်ယုက ပြောလေ၏။

အစေတော်ထိုက်ရှုသည် စက္ကူလေးပုံနှင့်စုတ်တံများကို ယူ ပြီးပေးသည့်အခါတွင် သူတို့အားလုံးသည် ကဗျာစပ်ရန်စဉ်းစား လေ၏။ ထိုက်ယုတစ်ယောက်သာလျှင် မိုးမခပင်များကိုကြည့်ကာ တော်များနှင့် နောက်ပြောင်လျက် ရှိလေ၏။ ယင်ချွန်း၏ရှေ့တွင် တိုင်တစ်တိုင်ထွန်းညှိထားလေ၏။ အမွှေးတိုင်မှာ သုံးလက်မခန့်သာ ဆီမီးမီးခွက်စာလောက်မျှသာ တုတ်သည်အလက် ချက်ချင်းလောင် လေ၏။ ကဗျာကို ထိုမီးတိုင်မကုန်မီအပြီးစပ်ရန်ဖြစ်ပြီး ထိုမီးတိုင် ပြ သည်အထိမပြီးလျှင် လျော်ရမည်ဖြစ်၏။





ပထမဆုံးပြီးသူမှာ တန်ချွန်းဖြစ်၏။ တန်ချွန်းသည် တစ်လုံး နှစ်လုံးပြင်ပြီးနောက် ကဗျာစာရွက်ကို ယင်ချွန်းအား လှမ်းပေးလိုက် လေ၏။

"ဘယ့်နှယ်လဲ ဂမုန်းသခင်မ၊ ပြီးပြီလား"

"အင်း ပြီးတော့ပြီးပါပြီ။ ဒါပေမယ့် သိပ်တော့အားမရလှဘူး" ဟု ပေါက်ကြည်ကပြော၏။

ပေါက်ယုမှာ လက်နှစ်ဖက်ကိုနောက်ပစ်ကာ စင်္ကြံတွင် ခေါက် တုံ့ခေါက်ပြန် လျှောက်လျက်ရှိလေ၏။

"ကြားရဲ့လား မလေး၊ ဟိုမှာ ပြီးကုန်ကြပြီ" ဟု ထိုက်ယုကို ပြော၏။

"အံမယ်လေး၊ မလေးအတွက် မပူပါနဲ့"

ပေါက်ကြည်သည် သူ့ကဗျာကို အချောကူးနေသည်ကို မြင်ရ လေ၏။

"ဟင် အမွှေးတိုင်က တစ်လက်မလောက်ပဲ ကျန်တော့တယ်။ မောင့်မှာတော့ စာကြောင်းလေးကြောင်းပဲ ပြီးသေးပါသလား" ဟုဆိုကာ ထိုက်ယုဘက်သို့လှည့်၍

"မလေး အမွှေးတိုင်ကုန်တော့မယ်။ မြေကြီးပေါ်မှာ ထိုင်မနေ နဲ့လေ"

ထိုက်ယုက မကြားယောင်ပြုနေလေ၏။

"မလေးကို မောင်မကယ်နိုင်ဘူးနော်။ မောင်တောင် ပြီးအောင် မစပ်ရသေးဘူး။ ကောင်းကောင်း မကောင်းကောင်း ပြီးအောင်တော့ စပ်ရမှာပဲ"ဟုဆိုကာ ပေါက်ယုသည် စားပွဲဆီသို့သွားကာ ကဗျာကို စပ် နေလေ၏။

"ကဗျာတွေကို ကြည့်တော့မယ်နော်။ တခြားလူတွေရဲ့ကဗျာကို ဖတ်ပြီးတဲ့အထိ စပ်လို့မပြီးကြသေးဘူးဆိုယင်တော့ လျော်ရလိမ့်မယ်"

"ဘယ်လိုလဲ၊ စပါးချိုတောက လယ်လုပ်သားကြီးကော၊ ပြီး ပလား။ သူကိုယ်တိုင်သာ ကောင်းကောင်း မစပ်တတ်ပေမယ့် အကဲဖြတ်

လူကြီးတော့ လုပ်တတ်တယ်မဟုတ်လား။ မောင်တို့တော့ သူ့ဆုံးဖြတ်ချက်ပဲ နာခံရတော့မှာထင်ပါရဲ့"

ပထမတွင် တန်ချွန်းဆာဗျာကို ဖတ်ကြလေ၏။

တံခါးရှေ့တွင်၊ နေဝင်ဆည်းဆာ
မြကမ္ဗလာသွင်၊ မြက်ပင်စိမ်းမြ
ချမ်းအေးလှသည့်၊ မိုးရေစိမ့်ကျ
ပန်းအိုးအောက်မှ၊ စိမ်းမြရေညှိ
သူ့ဇာတိလျှင်၊ ကျောက်စိမ့်ထက်ပင်
လန်းလန်းရွှင်၍၊ သခင့်အလှ
နှင်းဖြူလွှသို့၊ မွှေးမြရနံ့
အရိပ်ပြန့်ကာ၊ လရောင်ဝါ၍
အာကာသဝယ်၊ နတ်မိမယ်သို့
အလှကြွယ်ဟန်၊ နတ်တို့ဖန်သည်
ငါ့ထံအလှ စုစေသော်။ ။

ထို့နောက် ပေါက်ကြည်ကဗျာကို ဖတ်ကြပြန်၏။

ရေညှိစိမ်းမြ၊ ပန်းအိုးလှကို
တူးဆွမြေလှန်၊ ရေလောင်းရန်ဟု
လျင်မြန်ပြေးသွား၊ ငါရောက်ငြားလည်း
ခြံတံခါးသည် ပိတ်ထား၏။
နွေနှောင်းလေှကားထစ်၊ ကြောင်လိမ်ရစ်တွင်
ရွက်ရှင်အုပ်မိုး၊ သစ်ရိပ်ထိုး၏။
နှင်းစက်ဖုံးသည့်၊ ကျောက်တုံးဘေးတွင်
ကျောက်ချဉ်ပင်လည်း၊ နှင်းသွင်ဖြူဖွေး
ရေသို့အေး၏။ ။

"ဂမုန်း သခင်မလေးရဲ့ ဆုံးဖြတ်ချက်ကို မယုံမရှိကြနဲ့နော်" ဟု လီဝမ်းကပြုံး၍ ပြောလေ၏။ ထို့နောက် ပေါက်ယု၏ကဗျာကို ဖတ်ကြပြန်သည်။





နွေနှောင်းပန်းပွင့်၊ ကြွေလွင့်မျောကျ
တံခါးဝမှာ၊ ပန်းမွေ့ရာခင်း
တလင်းရိပ်မှာ၊ ငွေလွှာဖြူလွ
လှပရှိန်းရှိန်း၊ မြကျောက်စိမ်းသို့
တိမ်းမူးလေညင်း၊ အတင်းပြေးလှ
ပူဆွေးမှုတွေ၊ ဖြန့်ခွေထားလျက်
မိုးစက်မျက်ရည်၊ ယိုစီးလည်ခဲ့။ ။

အားလုံးဖတ်ပြီးကြသည့်အခါတွင် ပေါက်ယုက တန်ချွန်း၏ကဗျာကို ပထမရွေး၏။ သို့ရာတွင် လီဝမ်းက ပေါက်ကြည်၏ကဗျာက ထူးခြားတယ်ဟု ပြော၏။ ထို့နောက် ထိုက်ယုကဗျာကို မေးကြ၏။

"ဟင် အားလုံးပြီးကုန်ကြပလား"

ထိုက်ယုသည် စုတ်တံကိုကောက်ကိုင်ကာ စာကြောင်းမျှစ်ကြောင်းပါ ကဗျာတိုကလေးတစ်ပုဒ်ကို ရေးပြီး သူတို့လက်ထဲသို့ ပစ်ပေးလိုက်လေ၏။

"ဟယ်၊ သိပ်ကောင်းတာပဲနော်" ဟု ပေါက်ယုကပြောပြီး ဆက်ဖတ်၏။

"တကယ်ကောင်းတာ၊ ဒါမှ ကဗျာအရေးပါတယ်" ဟု တစ်ယောက်က ဝင်ပြောပြန်၏။

မျှင်ဝါးယင်းလိပ်၊ တစ်ဝက်ပိတ်၍
ပန်းမြိတ်တံခါး၊ ဖွင့်ထားတစ်ဝက်
ကျောက်စက်ပန်းအိုးအလှ။ ။

"အဲဒီနေရာကလေးက အကောင်းဆုံးပဲ" ဟု ကျန်လူများက ထောက်ခံကြ၏။

"အင်း အကောင်းဆုံးတော့ အကောင်းဆုံးပါပဲ။ ဒါပေမယ့် ဂမုန်းသခင်မလေးရဲ့ ကဗျာက ပိုလေးနက်ပြီး အနှစ်သာရရှိပါတယ်" ဟု လီဝမ်းက ပြောလေ၏။ တန်ချွန်းက

"ဟုတ်တယ်၊ ဝေဠုဝတီမင်းသမီးကို ဒုတိယပေးရမယ်"

"နိမောင်း ပျော်ဖွယ်မင်းသားက နောက်ဆုံး။ ဘယ့်နှယ်လဲ" ဟု လီဝမ်းက မေး၏။

ပေါက်ယုက ပြုံးလိုက်ကာ

"ဟုတ်ပါတယ်။ မောင့်ကဗျာက ဒီလောက် မကောင်းပါဘူး။ ဆုံးဖြတ်တာ တရားပါတယ်။ ဒါပေမယ့် ဂမုန်းသခင်မနဲ့ ဝေဠုဝတီမင်းသမီးတို့ကိုစွကိုတော့ ပြန်စဉ်းစားပါဦး"

လီဝမ်းက

"မရဘူးလေ။ ကိုယ်က ခုံသမာဓိပဲ။ ဘေးက ဘာမှ ဝင်ပြောခွင့်မရှိဘူး။ နောက်ထပ် စောဒကတက်တဲ့လူကို ပြစ်ဒဏ်ပေးမယ်"

ဤတွင် ပေါက်ယုလည်း နောင်ထပ် မည်သို့မျှမပြောတော့ချေ။

"ကောင်းပြီ။ နောက်မှာ လဆန်းနှစ်ရက်နဲ့လပြည့်ကျော်တစ်ရက် နေ့တိုင်း ကိုယ်တို့ကဗျာစိုင်းထိုင်ကြမယ်။ ကိုယ်ရွေးပေးတဲ့ အကြောင်းအရာနဲ့ ကိုယ်ရွေးပေးတဲ့ကာရန်စနစ်ကို လက်ခံရမယ်။ တကယ်လို့ ဒီကြားထဲမှာ တွေ့ချင်ကြတယ်ဆိုယင် ကိုယ့်ဘာသာကိုယ်တွေ့ကြပေါ့။ နေ့တိုင်းတွေ့ချင်တယ်ဆိုယင်လဲ သဘောပဲ။ ဒါပေမယ့် လဆန်းနှစ်ရက်နဲ့ လပြည့်ကျော်တစ်ရက်နေ့မှာတော့ ကိုယ့်ဆီမှာပဲ တွေ့ရမယ်"

"ဒီဝိုင်းကလေးအတွက် နာမည်ကလေးဘာလေး မရွေးတော့ဘူးလား"ဟု ပေါက်ယုက ပြော၏။

"သိပ်လဲမဆန်းရဘူး။ သိပ်လဲမခက်ရဘူး။ ဒီတော့ ဒီကဗျာကို ဂမုန်းနဲ့စတဲ့အတွက် ဂမုန်းနွယ်ကဗျာဝိုင်းလို့ခေါ်ယင်မကောင်းဘူးလား။ နည်းနည်းတော့ ရိုးတာပေါ့လေ။ ဒါပေမယ့် ဒါက တကယ့်ဖြစ်ရပ်နဲ့လဲ ကိုက်နေတော့ ဒီနာမည်ပဲ ကောင်းတယ်လို့ ထင်တာပဲ"

သို့ဖြင့် အနည်းငယ်စကား စမြည်ပြောကာ စားသောက်ကြပြီးနောက် လူစုခွဲလိုက်ကြလေ၏။ အချို့က သခင်မဝမ်ထံ သွားကြပြီး၊





အချို့က မယ်မယ့်ထံသွားကြလေ၏။ သို့ရာတွင် ဤအကြောင်းကို ဤမျှဖြင့် တော်လောက်ပြီ။

တွင် မိုလာပေးသည့်စာကလေးကိုဖတ်ပြီးနောက် ပေါက်ယု တစ်ယောက် ကဗျာကယာ ထလိုက်သွားသည်ကို မြင်ရသည့်အခါတွင် မာလာသည် မည်သည့် အကြောင်းကိစ္စ ပေါ်လေသနည်းဟု တွေးလျက်ရှိလေ၏။ အတန်ကြာ၍ အစေတော်နှစ်ယောက်က ကျောက်ချဉ်ပန်းအိုး နှစ်လုံးကို နောက်ဖေးပေါက်မှ သယ်လာကြသည့်အခါ၌ ထို ပန်းပင် များအား မည်သည့်နေရာက ယူလာကြောင်းကို မေးသည်တွင် အကျိုးအကြောင်းကို သိရလေ၏။ မာလာသည် သူတို့ကို ပန်းအိုးများ ချရန်နေရာပြပြီးနောက် နောက်ဖေး အစေတော် တန်းလျားတွင်ထိုင် အစောင့်ခိုင်းကာ အိမ်ထဲသို့ဝင်ခဲ့ပြီးလျှင် ငွေသားတို့ကိုချိန်၍ ထိုမိန်းမနှစ်ယောက်ကိုပေးလိုက်လေ၏။

"ဟောဒီငွေစင်က ပန်းအိုးဝယ်လာတဲ့ သူငယ်ကလေးကို ပေးဖို့၊ ဟောဒီပိုက်ဆံကတော့ ရှင်တို့သုံးဖို့"

မိန်းမကြီးနှစ်ယောက်သည် ဝမ်းသာသောအားမှုအရာဖြင့် မတ်တတ်ရပ်ကာ ငွေကိုမယူသိုဟုငြင်းယောင်ပြုသေးသော်သည်း နောင်တွင်မာလာက အတင်းတိုက်တွန်းသဖြင့် လက်ခံသွားကြလေ၏။

"နောက်ဖေး မလှယ်ပေါက်မှာ တာဝန်ကျတဲ့ သူငယ်တော်လေးတွေကော ရှိသေးသလား"

"ဟုတ်ကဲ့၊ နေ့စဉ်တာဝန်ကျတဲ့ သူငယ်တော်လေး လေးယောက်ရှိပါတယ်။ ဘာလိုချင်လို့လဲ အစ်မ၊ ကျုပ်တို့ပြောလိုက်မယ်လေ"

မာလာက ပြုံးကာ

"ကျွန်မအနေနဲ့ ဘာမှမလိုချင်ပါဘူး။ ဒါပေမယ့် သခင်လေး ပေါက်ယုက ဒေါ်လေးဆွေ့တို့အိမ်ကို တစ်ခုခုအပို့လွှတ်ချင်တယ်လို့ပြောနေတယ်။ ခု အကြီးတို့လာတာ အတော်ပဲ။ ဝင်းပေါက် ရောက်ယင် မောင်လေးတွေကို ပြောလိုက်စမ်းပါ။ အပြင်က ရထားတစ်စင်း ငှားခဲ့

မင်းလို့။ နေ့ထားရက်လောက်ကျမှ ကျွန်မဆီကိုလာပြီး ပိုက်ဆံထုတ်လှူ
အိမ်ရှေ့ဘက်ကမဝင်နဲ့နော်၊ နောက်ဖေးဘက်ကလာလို့ပြော"

မိန်းမကြီး နှစ်ယောက်ထွက်သွားလျှင် မာလာသည် အိမ်ထဲသို့ ဝင်လာသော ပန်းကန်ပြားတစ်ချပ်ကိုရှာပြီး ရှိစမ်းယည်အကျက်လက် ပေးရန် ပြင်ဆင်လျက် ရှိလေ၏။ သို့ရာတွင် ပန်းပုပန်းခက်ဖြင့် ဆင်ထားသည့် ဗီရိုကြီးထဲတွင် သုံးလိုချင်သည့်ပန်းကန်ပြားကို ရှာ၍မတွေ့ လှည့်ကြည့်လိုက်သည့်အခါတွင် ပန်းထိုးနေကြသည့် ချင်ဝမ်း၊ ချူဝမ် ရှေ့ယွေ့တို့ကို တွေ့ရလေ၏။

"ဟဲ့ ပန်းနွယ်လေးတွေ ရေးထားတဲ့ မဟူရာ အဖြူ ပန်းကန်ပြား မတွေ့မိဖူးလား"

အစေခံတော် သုံးယောက်သည် တစ်ယောက်မျက်နှာကိုတစ်ယောက် ကြည့်နေကြ၏။ သို့ရာတွင် မည်သူမျှ မပြောနိုင်ကြ။ အတန်ကြာမှ ချူဝမ်းက

"သခင်မလေးတန်ချန်း ဆီကို လိုင်ချိုးသီး ပို့တုန်းက အဲဒီပန်း ပြားနဲ့ သွားပို့တာမဟုတ်လား။ ထိုပြန်မပို့သေးဘူးထင်တယ်"

"ညည်းတို့နှယ်အေ၊ နေ့တိုင်းသုံးနေတဲ့ ပန်းကန်ပြားတွေ တစ် တစ်ပင်ကြီးရှိလျက်သားနဲ့၊ ဘာဖြစ်လို့ ဒီပန်းကန်ပြားနဲ့မှ သွားပို့ရ မသိဘူး"

"ကျွန်မလဲ ပြောတာပဲ။ ဒါပေမယ့် သခင်လေးက လိုင်ချိ လတ်လတ်ဆတ်ဆတ်တွေဟာ အဲဒီ မဟူရာဖြူပန်းကန်နဲ့မှ လိုက်တယ်တဲ့ အဲဒီပန်းကန်နဲ့သွားပို့တဲ့၊ ဒါနဲ့ ကျွန်မကသွားပို့တော့ သခင်မတန်ချန်း လဲ သဘောကျတာနဲ့ သစ်သီးတွေကို ဒီအတိုင်းပဲထားခဲ့ဆိုတာနဲ့ ထား ရတာယ်။ ဟောတော့၊ ဟောဟိုစင်ပေါ်က ပန်းအိုးနှစ်လုံးလဲ ပြန်မရော သေးဘူး။ အခုမှကြည့်မိတယ်"

ချူဝမ်းက

"ဒီပန်းအိုး နှစ်လုံး အကြောင်း ပြောတော့ သတိရသေးတယ် ကျွန်မတို့သခင်လေးပေါက်ယုက လူကြီးမိဘကို ရိုသေပြီဆိုယင် တကယ် ရိုသေတာ။ လူများလို လူကြားကောင်းအောင် လုပ်တာမျိုးမဟုတ်ဘူး





ဥယျာဉ်ထဲမှာ ခွာညိုတွေပွင့်တော့ သူ့ဖို့ ခွာညိုနှစ်ခက် ခူးလာသတဲ့။ ခူးလာရင်း ဒြွဲ ဒီခွာညိုပန်းဟာ ငါတို့ဥယျာဉ်ထဲကပွင့်တဲ့ ခွာညိုတွေပဲ၊ ကိုယ့်ဥယျာဉ်ထဲကပန်းပွင့်ကို ကိုယ်ဦးဦးဖျားဖျားသုံးဖို့ မကောင်းပါဘူး ဆိုပြီး ခွာညိုတွေကိုရေဆေး၊ သူကိုယ်တိုင်ပန်းအိုးနှစ်အိုးထဲစိုက်ပြီးတော့ တစ်အိုးကို မယ်မယ့်ကိုသွားကန်တော့တယ်။ နောက်တစ်အိုးကို သခင်မကြီးဝမ်ကို သွားကန်တော့တယ်။

"လူကြီးမိဘကို ရိုသေကိုင်းရှိုင်းတတ်တော့ အစေခံတော်တွေပါ အကျိုးခံစားရတယ်။ အဲဒီနေ့က ကျွန်မလဲ မယ်မယ့်အဆောင်ကို ရောက်သွားတော့ အဘွားကြီး အကြီးအကျယ်သဘောကျနေလိုက်တာလေ၊ ပြောလို့ပဲမဆုံးတော့ဘူး။

"လာသမျှလူတိုင်းကို 'ကြည့်စမ်းအေ့၊ ငါ့မြေးကြီး ဘယ်လောက် အလိုက်သိတတ်သလဲတဲ့။ ငါ့ကို ပေါ်ဦးပေါ်စ ခွာညိုတွေ ပို့လိုက်တယ်အေ့'တဲ့။ သူတို့ကသာ ခလေးကို ငါအလိုလိုက်တယ်လို့ အပြစ်ပြောကြတာ။ ဒီကလေးလို အလိုက်သိတဲ့ ကလေးကော တွေ့ဖူးရဲ့လားလို့ ကျွန်မကိုမေးတယ်။

"အဘွားကြီးက ကျွန်မဆိုယင် အလွန်မုန်း။ စကားပြော မဘည့်ဘူးတဲ့။ ဒါပေမယ့် အဲဒီနေ့ကတော့ အဘွားကြီးက ကျွန်မကို ငွေထုပ်တစ်ထုပ်ပေးလိုက်တဲ့ပြင် ငါ့မြေးမလေးကို သနားပါတယ်ဟယ်၊ ဘာညာနဲ့၊ အံ့ဩလေးချော့နေတာပဲ။ အဲဒါသာကြည့်တော့။ ငွေထုပ်ရတာက အကြောင်းမဟုတ်ပါဘူး၊ အဘွားကြီးက ကျွန်မကို ဒီလိုတယုတယ ခေါ်တာ ကျွန်မဖြင့် ဒီတစ်ခါပဲ ကြားဖူးသေးတယ်၊

"ဒါနဲ့ အဲဒီကနေပြီး သခင်မကြီးဝမ်ရဲ့ အဆောင်ဘက်ကို ကျွန်တို့ပန်းအိုးကိုသွားပို့တယ်။ သခင်မလေး ငှက်ယ ? သေတ္တာတွေကို ထုတ်ဖွင့်ပြီးကြည့်နေတာယ်။ ဘာတွေကိုကြည့်နေမှန်းတော့မသိဘူး။ သူတို့ငယ်ငယ်တုန်းကဝတ်ခဲ့တဲ့ တောက်တောက်ပပ အဝတ်အစားတွေကို သူများကိုပေးဖို့ ရှာနေတာထင်ပါရဲ့၊ ကျွန်မရောက်လို့ ပန်းတွေကိုလဲ မြင်လိုက်ရော အဝတ်တွေကိုတောင် မရှာနိုင်တော့ဘဲ ပန်းတွေကိုငေးကြည့်

ကြတာပဲ။ မလေးငှက်မယ်ကလဲ သခင်လေးပေါက်ယုဟာ မိဘကို ဘယ်လောက် ရိုသေတတ်တဲ့ အကြောင်း၊ ဘယ်လောက် အလိုက်သိတတ်တဲ့ အကြောင်းပြောတော့ သခင်မကြီးက သဘောကျလွန်းလို့ သခင်လေးပေါက်ယု ဘယ်လောက်တော်ကြောင်း၊ ဘာကြောင်း ညာကြောင်းနဲ့ မလေးငှက်မယ်ကို ပြောပြနေလိုက်တာ။ ချိန်လို့ တွယ်လို့များရယင်လှည်း နှစ်စီးတိုက်စာလောက် ရှိမယ်ထင်တာပဲ။ သခင်မကြီးကလဲ သူ့သားကို လူရှေ့ ဒီလိုအချီးမွမ်းခံရတော့ သိပ်သဘောကျသွားတာပေါ့။ သူ့သားကို မကောင်းပြောနေတဲ့သူတွေ မှတ်ကရောဟဲ့ဆိုပြီး သိပ်ကျေနပ်နေတယ်လေ။ ဒီတွင် ဘာပြောကောင်းမလဲ၊ သခင်မကြီးတို့ ဝမ်းသာလွန်းတော့ ကျွန်မကို ချက်ချင်း ဝတ်စုံနှစ်စုံထုတ်ပေးလိုက်တယ်။ ဝတ်စုံကလဲ အရေးမကြီးပါဘူးလေ၊ တနှစ်တော့ တစ်စုံအသစ်ရနေတာပဲ။ ဒါကအကြောင်းမဟုတ်ပါဘူး။ ဒါပေမယ့် ခုလိုဆုချီးမြှင့်တယ်ဆိုတော့ ကျေနပ်တယ်ဆိုတဲ့ သဘောကိုပြတာပေါ့"

ချင်ငဲမ်းက

"ညည်းက အစုတ်ပလုတ်ရတာကို အဟုတ်ထင်နေတာကိုအေ့။ ဒီပြင်လူတွေရတာက ညည်းထက်ကောင်းတာတွေချည်းပဲ။ အသစ်စက်စက်တွေ"

"စုတ်စုတ်အေ၊ အရေးကြီးတာက သခင်မကြီးရဲ့ စေတနာက အရေးကြီးတာပေါ့"

"ညည်းမို့လို့ယူတာ၊ ငါ့လိုဆို မယူဘူးချေ မယူထဲကပဲ။ ဘယ်သူ ဝတ်ပြီးသားကိုရရ၊ ဒါကအကြောင်းမဟုတ်ပါဘူး။ ကိုယ့်လိုသူလို လူချင်းကိုး။ ဒါပေမယ့် အစေတော်ချင်းအတူတူ ဒီကောင်မက တို့ထက်ဘာများသာလို့လဲ။ သူ့ဖို့ကျတော့ အသစ်တွေရပြီး တို့ကျတော့ ဝတ်ပြီးသားတွေပေးတယ်။ ငါလိုဆိုယင် မယူဘူး။ သူတို့မကျေနပ်ချင်လဲ နေပေါ့။ မယူဘဲ ထားပစ်ခဲ့မှာပဲ"

"ဒါဖြင့် ဘယ်သူအသစ်ရသလဲ၊ ငါ့ကိုပြောစမ်း။ ခုတလောမှာ ငါက ကောင်းကောင်းနေမကောင်းတော့ ဒါတွေကိုမသိဘူး။ ပြောစမ်း ကောင်မရယ်"





"ငါပြောလိုက်ယင် အဲဒီဝတ်စုံဟောင်းတွေကို သခင်မကြီးဆီကို ပြန်ပေးမှာလား"

"မဆိုင်တာအေ၊ ဘာလို့ပြန်ပေးရမှာလဲ။ ငါက သိရုံသက်သက်ပါ။ တတ်နိုင်လို့ သခင်မကြီးက ငါ့ကို ချွေးစားထားတဲ့ စားကြွင်းစားကျန်ကို ကျွေးဦး။ တို့ကို စေတနာရှိလို့ ကျွေးတယ်လို့ပဲ ငါယူဆမှာပဲ။ မှုတိုက်စ္စကို ငါလိုက်ပြီး တွေးမပူဘတ်ပါဘူး။ ပေးတာက သူတို့ကိစ္စပဲ။ ယာပေးပေး"

ကျွန်မိန်းကလေးများက ရယ်လိုက်ကြ၏။

"ဟုတ်ပါ့တော်။ အကောင်းလေးတွေကျယင် နိုင်ငံခြားမျိုး ခွေးပြောက်မလေးကို ကျွေးတာပါ"

(စိယင်ဟူသောအမည်မှာမလာဟုအဓိပ္ပာယ်ရသည်။ယောကျ်ားများကို ထိုးနှက်ခြင်း၊ အပြောက် အပြောက်ပါခြင်း ဟူ၍လည်း အနက်ထွက်သည်။)

မာလာက ပြုံးလိုက်ကာ

"ကောင်မတွေ၊ ပါးစပ်ပုပ်ကြီးတွေနဲ့ လျှောက်ပြောမနေနဲ့။ တစ်ဆိတ်ရှိ ငါ့ကို လှောင်ဖော်ပဲရတယ်။ သူတော်ကောင်းကို လှောင်တဲ့ ကောင်မတွေ တစ်နေ့ကျယင် ဒုက္ခရောက်မယ်။ မှတ်ထားကြ"

"အစ်မကိုရည်ရွယ်ပြောတာမဟုတ်ပါဘူးအစ်မရယ်။တကယ်ပါ" ဟု ချူဝမ်းကပြော၏။

"ဩော် အစ်မသား။ ဒီလိုဆိုယင် တောင်းပန်ပါတယ်အစ်မရယ်၊ တကယ်ပါ"

"တော်ပါအေ၊ ဒါတွေထားစမ်းပါ။ အရေးကြီးတာက ပန်းကန်ပြားရဖို့အရေးကြီးတယ်"

ရှော့ယွေ့က

"ပန်းကန်ပြားတင် ဘယ်ကမလဲအစ်မရဲ့။ ပန်းအိုးတွေလဲ ပြန်ယူရမယ်။ သခင်မကြီးရဲ့အခန်းဆိုတော့ ကိစ္စမရှိဘူးပေါ့။ ဒါပေမယ့် သူ့အခန်းဆောင်က လူပေါင်းစုံ လာတာ မဟုတ်သား။ ဒီပြင်လူကတော့ အကြောင်းမဟုတ်ပါဘူး။ဟိုအမြှောင်မ ချောနဲ့ချူတို့က စိတ်ထား သိပ်

ကောင်းကြတာမဟုတ်ဘူး။ တော်တော်ကြာ အမြင်ကတ်ကတ်နဲ့ မတော်လို့ဆိုပြီး ပန်းအိုးတွေကို ခွဲသွားယင် ဘယ်နှယ်လုပ်မလဲ။ သခင်ကြီးကလဲ ဒီပန်းအိုးလောက်ကို ဂရုစိုက်ကြည့်နေနိုင်တာမဟုတ်ဘူး။ စောစောစီးစီး ပြန်ယူထားမှ"

ချင်ဝမ်းက တက်တင်းတိုးနေရာမှ ရပ်လိုက်ကာ

"ဒီလိုဆိုယင်လဲ ငါသွားယူချည်မယ်အေ"

"ငါသွားပါ့မယ်အေ၊ ညည်းက ပန်းကန်ပြား သွားယူချည်" ဟု ချုဝမ်းကပြော၏။

ချင်ဝမ်းက ရယ်လျက်

"ကောင်မ မညစ်နဲ့အေ၊ ဒါ ငါ့အလှည့်။ ရစရာရှိတဲ့နေရာကျတော့ ညည်းပဲ သွားချင်တာပဲ။ ငါ့ကိုဖို့များ အလှည့်နေလေးဘာလေး ပေးပါဦး"

ရှေ့ဆွေ့က

"ချုဝမ်းက အဝတ်အစားကလေး တစ်ခါရဖူးတာပါအေ။ ဒီနေ့ကျတော့လဲ အဝတ်အစားပဲရမယ်လို့ ဘယ်နှယ်လုပ် ပြောနိုင်ပါ့မလဲ။ ကံကောင်းလို့ တိုက်တိုက်ဆိုင်ဆိုင် ရခဲ့ဖူးတာပါ"

ချင်ဝမ်းက ကျေနပ်ဟန်မတူချေ။

"အဝတ်အစားမရလဲ နေပေါ့အေ။ တကယ်လို့ သခင်မကြီးက ငါ့ကိုမျက်စိကျသွားယင် နည်းသလား။ မျက်စိကျသွားယင် ငါ့ကို သူ့လစာထဲက နေပြီး တစ်လကို ငွေစင်နှစ်ကျပ်သားတို့ဘာတို့ပေးနေယင် ဟန်မကျပေဘူးလား။ ဘယ်ပြောနိုင်မလဲ။ ကောင်မတွေ၊ ငါ့ကိုအူကြောင်ကြောင်တော့ မလုပ်နဲ့နော်၊ ဒီက ကောင်မက ဒါတွေအားလုံး သိတယ်"

ထိုသို့ပြောပြီးနောက် ချင်ဝမ်းသည် ပြေးထွက်သွားလေ၏။ ချုဝမ်းမှာလည်း ပန်းကန်ပြားပြန်တောင်းရန် ထွက်သွားလေ၏။

ပန်းကန်ပြား ပြန်ရောက်လာသည့်အခါတွင် မာလာသည် လက်ဆောင်များကိုသည့်ပေးကာ ဝင်း တာဝန်ကျသည့် အထိန်းတော်ကြီး ဆွန်ကိုခေါ်လိုက်လေ၏။





"ကဲ အကြီး။ အဝတ်အစားကလေးဘာလေး သပ်သပ်ရပ်ရပ်လဲ၊ ဟောဒီမှာ မလေးရှိစမ်ယဉ်ဆီကို လက်ဆောင်အပေးခိုင်းချင်လို့"

"ဘာပြောခဲ့ရဦးမလဲ။ အကြီး ခုချက်ချင်းပဲသွားလိုက်မယ်လေ"

မာလာသည် နီးနေ့ဖြင့် ယက်ထားသည့် ခြင်းတောင်းကလေးနှစ်လုံးကို ကောက်ကိုင်လိုက်၏။ ပထမခြင်းတောင်းအဖုံးကိုဖွင့်လိုက်သည့်အခါတွင် သစ်သီးများကို တွေ့ရလေ၏။ ဒုတိယခြင်းတောင်းမှာ နံ့သာဖူးနံ့ထည့်ထားသည့်သစ်ချသီးမုန့်ဖြစ်လေ၏။

"ဟော ဒါတွေအားလုံး ဥယျာဉ် ထွက်ပစ္စည်းတွေ ချည်းပဲလို့ ပြော။ သခင်လေးပေါက်ယုက လက်ဆောင်အပို့ခိုင်းလိုက်လို့လို့ပြော။ ပြီးတော့ ဒီမဟုတ်ရာပန်းကန်ကိုလဲ မလေး ကြိုက်တယ်ဆိုယင် တစ်ခါတည်း လက်ဆောင်အဖြစ် ပေးလိုက်ပါတယ်လို့ပြောခဲ့။ ဟောဒီမှာ ပတ်ထားတဲ့ ပိုးပဝါတွေ သူ ထိုးနိုင်းထားလို့ မာလာ ထိုးပေးလိုက်တာလို့ပြော။ ဒီလောက်ဆိုယင် သူ ကြိုက်မှာပါ။ ပြီးတော့ မာလာတို့ကလဲ နှုတ်ဆက်လိုက်တယ်၊ သခင်လေးပေါက်ယုကလဲ နှုတ်ဆက်လိုက်တယ်လို့ ပြောပြလိုက်ပါ"

"သခင်လေးက ဘာများမှာဦးမလဲမသိဘူး။ ညည်းမေ့ချင်မေ့နေမှာဆိုတော့ သွားမေးပါဦးလား"

"သခင်မလေးတန်ချွန်းရဲ့အဆောင်မှာတွေ့ခဲ့တယ် မဟုတ်လား" ဟု မာလာက ချုဝမ်းကို မေး၏။

"ဟုတ်တယ်။ ကဗျာဝိုင်းဆိုလားဘာလားလုပ်ပြီး ကဗျာတွေ စပ်နေကြလေရဲ့။ ဘာမှမှာစရာရှိမှာမဟုတ်ပါဘူး။ ပစ္စည်းပေးပြီးပြန်လာခဲ့ရုံပါပဲ"

အထိန်းတော်ကြီးဆွန်သည် ပစ္စည်းများကိုယူ၍ ထွက်မည်ပြုစဉ် မာလာက နောက်ဖေးပေါက်တွင် ရထားစောင့်လျက်ရှိကြောင်း ပြောသဖြင့် အထိန်းတော်ကြီးလည်း နောက်ဖေးပေါက်မှ ထွက်လာခဲ့လေ၏။

ပေါက်ယုပြန်လာသည့်အခါတွင် ပေါက်ယုသည် ဂမုန်းပင်များကို လျှောက်ကြည့်ပြီးနောက် သူတို့ ကဗျာဝိုင်းကလေး အကြောင်းကို မာလာအားပြောပြ၏။ မာလာကလည်း ရှိစမ်းယဉ်ထံသို့ အထိန်းတော်

ကြီးကိုလွှတ်ပြီး လက်ဆောင်များပို့ခိုင်းလိုက်ကြောင်းကို ပြောပြလေ၏။ ပေါက်ယုမှာ ဝမ်းသာသဖြင့် လက်ခုပ်လက်ဝါးတီးကာ

"ကြည့်စမ်း၊ မောင်တို့ဖြင့် သူ့ကိုတောင်မေ့နေကြတယ်။ တစ်ယောက်ယောက်လိုနေတယ်လို့တော့ အထင်သား။ ဒါပေမယ့် ဘယ်သူလိုနေတယ်လို့ မစဉ်းစားမိဘူး။ မာလာပြောလိုက်မှပဲ သူ့ကို အမှတ်ရတော့တယ်။တကယ်ကတော့ သူ့ကိုပါဖိတ်မလို့ပါ။ သူပါယင် မောင်တို့ကဗျာဝိုင်း ပိုပြီးပျော်စရာကောင်းမှာ"

မာလာက

"သခင်လေးတို့ကဗျာဝိုင်းက ဒီလောက် အရေးမကြီးပါဘူး။ အပျင်းပြေသဘောပဲမဟုတ်လား။ သခင်မလေး ရှိစမ်းယဉ်က သခင်လေးတို့လို အားနေတာမဟုတ်ဘူးသခင်လေးရဲ့။ ပြီးတော့ သူ့အိမ်မှာလဲ အရှင်သခင်လိုနေနိုင်တာမဟုတ်ဘူး။ သခင်လေးက ဖိတ်လိုက်တယ်ဆိုယင်တော့ သူ့ခမြာလာချင်ရှာမှာပေါ့။ ဒါပေမယ့် စိတ်သာရှိတာ၊ လူကလာနိုင်မှာမဟုတ်ဘူး။ မလာနိုင်ဘဲနဲ့ သွားဖိတ်ယင် သူ့ကို စိတ်ဆင်းရဲအောင်လုပ်သလိုဖြစ်မှာပေါ့"

"ဒါလဲ ဟုတ်တာပဲလေ။ သူ့ကို ဒီမှာခေါ်ထားဖို့ မယ်မယ်ကို ပြောရဦးမယ်"

ထိုစဉ် လက်ဆောင်ပစ္စည်းသွားပို့သည့် အထိန်းတော်ကြီး ပြန်ရောက်လာ၏။ ပစ္စည်းပို့လိုက်သည့်အတွက် ရှိစမ်းယဉ်က ကျေးဇူးတင်ကြောင်း ပြောလိုက်သည်ဟု ပြောပြပြီးနောက် အထိန်းတော်ကြီးက

"မလေးစမ်းယဉ်က သခင်လေး ဘာလုပ်နေသလဲလို့ မေးလိုက်တယ်။ ကျုပ်က ဓာလေးမတွေနဲ့ ကဗျာရေးပြီး ကဗျာဝိုင်းဆိုလား ဘာလားလုပ်နေတယ်လို့ပြောတော့ သူလာချင်လိုက်တာတဲ့။ သိယင် လာမှာပေါ့လို့ ပြောလိုက်တယ်တော့"

ထိုစကားကြောင့် ပေါက်ယုသည် မယ်မယ်ဆီသို့ ချက်ချင်းသွားကာ ရှိစမ်းယဉ်ကိုခေါ်ရန် ပူဆာလေ၏။ မယ်မယ်က ယခုခေါ်မည်ဆိုလျှင် မိုးချုပ်ပြီဖြစ်ကြောင်း၊ နောက်တစ်နေ့မှ အခေါ်လွှတ်သင့်ကြောင်းဖြင့်





ပြောသည့်အခါတွင် ပေါက်ယုသည်း စိတ်ပျက်လက်ပျက်ဖြင့် သူ့အဆောင်သို့ပြန်လာခဲ့လေ၏။

နောက်တစ်နေ့မနက်တွင်လည်း ပေါက်ယုသည် မယ်မယ်ထံသွားကာ ရှိစမ်းယဉ်ကိုအခေါ်ခိုင်းလေရာ ညနေပိုင်း ရှိစမ်းယဉ် ရောက်လာတော့မှပင် စိတ်အေးသွားလေ၏။ ပေါက်ယုသည် ရှိစမ်းယဉ်ကို နှုတ်ဆက်ပြီးနောက် သူတို့ကဗျာဝိုင်းအကြောင်းကိုပြောပြလေ၏။ ပေါက်ယုက သူတို့ကဗျာများကိုပြမည်ပြုစဉ် လီဝမ်းနှင့် အခြားသူများက မပြရန်တားလေ၏။ လီဝမ်းက

"မပြနဲ့လေ မောင်လေးကလဲ။ ပထမ သူ့ကို ကာရန်ပေးလိုက်၊ အဲဒီကာရန်အလိုက် တစ်ပုဒ်ပေပြီးမှ ကိုယ်တို့ကဗျာဝိုင်းကို ဝင်ခွင့်ပေးမယ်။ နောက်ကျရောက်လာတဲ့အတွက် ဒဏ်ဆောင်ရတဲ့ သဘောပေါ့။ အဲဒီကဗျာကောင်းမှ ကိုယ်တို့ဝိုင်းမှာ လက်ခံမယ်။ မကောင်းလို့ရှိယင် ကိုယ်တို့ကို တစ်ခုခုကျွေးရဦးမယ်။ အဲဒီတော့မှ ထပ်စဉ်းစားမယ်"

ရှိစမ်းယဉ်က ရယ်လျက်

"အံမယ်လေးဒဏ်ဆောင်ရမှာက စမ်းယဉ်မဟုတ်ဘူးရှင့်။မလေးတို့က ဒဏ်ဆောင်ရမှာ။ စမ်းယဉ်ကို အကြောင်းကြားဖို့ မေ့တဲ့အတွက် ဒဏ်ဆောင်သင့်တာပေါ့။ ကဲ လုပ်ပါလေ၊ ဘယ်ကာရန်နဲ့ စပ်ရမလဲသာ ပြောပါ။ စမ်းယဉ်က ကဗျာတော့ ကောင်းကောင်းမစပ်တတ်ပါဘူး။ ဒါပေမယ့် တတ်သမျှမှတ်သမျှနဲ့ပဲစပ်ရတော့မှာပေါ့။ကိုယ်က ကဗျာဝိုင်းထဲကို ဝင်ချင်တာကိုး။ ဘယ့်နှယ်လုပ်မလဲ။ တံမြက်စည်းလှည်းဆိုယင်လဲ လှည်းရမှာပေါ့။ အမွှေးတိုင်ထွန်းဆိုယင်လဲထွန်းရမှာပေါ့"

ရှိစမ်းယဉ်ရောက်လာသည့်အတွက် ဝိုင်းမှာ မြိုင်ဆိုင်သွားသဖြင့်

"မနေ့က မလေးစမ်းယဉ်ကို မခေါ်မိတာ သိပ်နာတာပဲ" ဟု ပြောကြလေ၏။

သူတို့က ကာရန်ကိုပြောပြကြလေ၏။ ရှိစမ်းယဉ်က ဝမ်းသာလွန်းသဖြင့် ကဗျာကိုပင် ဖြောင့်အောင်မရေးနိုင်တော့ချေ။ ရှိစမ်းယဉ်သည်အခြားသူများနှင့် စကားပြောဆိုနေရင်း ကဗျာပိုဒ်အချို့ကို အမှတ်တမဲ့ရေးချလိုက်လေ၏။

"မလေးတို့ပြောတဲ့ကာရန်အတိုင်း နှစ်ပိုဒ်တော့ ရေးပြီးသွားပြီ။ သိပ်တော့မကောင်းလှဘူး။ ဖြစ်ရုံလောက်ပဲရှိမှာပဲ"

ရှိစမ်းယဉ်က ကဗျာများကို သူတို့ကိုလှမ်းပေးလိုက်၏။

"မလေးတို့ လေးယောက်စပ်ထားလို့ ဒီအကြောင်းကို စပ်စရာမှ ကျန်ပါတော့မလားလို့အောက်မေ့နေတာ။ ခုတော့ ဘယ်ဆိုးလို့လဲ။ နှစ်ပုဒ် တောင်ပြီးသွားပြီ။ နောက်ထပ်ကော စပ်နိုင်ပါဦးမလား။ မလေးတို့စပ် ပြီးသားအကြောင်းတွေ မပါရဘူးနော်"

သူတို့သည် ရှိစမ်းယဉ်၏ ကဗျာကို ဖတ်ကြည့်ကြလေ၏။

မနေ့ညက၊ အလှသူဇာ
နတ်ကညာလျှင်၊ ကျလာဆင်းသက်
ကျောက်စိမ်းမြရွက်၊ နတ်ပန်းခက်ကို
မြေထက်မှာလျှင် စိုက်ခဲ့၏။
နှင်းပွင့်သခင်၊ နတ်မယ်သျှင်သို့
မရှင်ညှိုးလျှ၊ နွေနှောင်းညတွင်
နှင်းဖြူစင့်တို့ ဘယ်ကလာသနည်း။
ညမိုးစက်တို့၊ ဆင်းသက်ကြွေကျ
မြေသို့ခကြောင့် သူ့အလှသည်ညှိုးခဲ့ပြီ။
သို့တိုင်အောင်ပင်၊ စာဆိုရှင်တို့
အစဉ်သူ့ကို၊ စာဖွဲ့ဆိုသည်
ပန်းပျိုလေညင်း၊ ဖော်မကင်း။ ။

အားလုံးက ချီးကျူးပြောဆိုပြီးနောက် ဒုတိယဘစ်ပိုဒ်ကို ဖတ်ကြ ပြန်လေ၏။

ဂမုန်းနွယ်အောက်၊ လျှောက်၍လာပြီး
ငွေလွှာစစ်စစ်၊ ဆင်စွယ်နှစ်သို့
ပွင့်သစ်ဖြူလွှ၊ တံခါးဝ။ ။



နံရံထောင့်မှာ၊ သူ့နေရာတွင်
ငါလျှင်စိုက်ပျိုး၊ ထိုပန်းအိုး။ ။
သန့်စင်မှုကို၊ နှစ်လိုဆန္ဒ
သူတောင့်တလည်း၊ အလှရ၏။ ။
ဖယောင်းတိုင်မှ၊ မျက်ရည်စကို
လေကဖွဖွ၊ သုတ်ပေးသည်။ ။
လရောင်ရိပ်သည်၊ ယိုဖိတ်ကျလာ
ကန့်လန့်ကာကြား၊ ပြုံကွဲသွား။ ။
လနတ်သမီးထံ၊ ပန်ကြားချက်ဖြင့်
လျှို့ဝှက်ချက်ကို၊ မေးမြန်းလိုလည်း
လဝန်းကွယ်ဖျောက်၊ လရောင်ပျောက်။ ။

သူတို့သည် စာကြောင်းတိုင်းကို သဘောကျနေကြလေ၏။

"ကြည့်စမ်း၊ ဂမုန်းအကြောင်းကို စပ်ထားတာ ဘယ်လောက် လှသလဲ။ ကိုယ်တို့ကဗျာဝိုင်းလေးကို ဂမုန်းနွယ် ကဗျာဝိုင်းလို့ခေါ်တာ သိပ်မှန်တာပဲနော်"

"မနက်ဖြန်ကျယင် ဒဏ်ဆောင်တဲ့အနေနဲ့ စမ်းယဉ်က ကျွေးပါ့ မယ်ရှင်။ ကျေနပ်ပြီမဟုတ်လား"

"ကောင်းတယ်၊ ကောင်းတယ်"ဟု အားလုံးကအော်ကြလေ၏။

ထိုနောက် မနေ့ကသူတို့စပ်ထားသည့် ကဗျာများနှင့်ပတ်သက်၍ သူ့ထင်မြင်ချက်ကို မေးကြလေ၏။

ထိုနေ့ညနေ၌ ပေါက်ကြည်သည် ရှိစမ်းယဉ်ကို သူ့အဆောင်သို့ လိုက်ရန်ခေါ်လေ၏။ ရှိစမ်းယဉ်က သူစိတ်ကူးထားသည့် အကျွေးအမွေး များနှင့် ကဗျာစပ်ရန် ရွေးချယ်ထားသည့် အကြောင်းအရာများကို ပြော၏။ ပေါက်ကြည်ကမူ ထိုအကြံကို သိပ်သဘောမကျလှချေ။

"မနက်ဖြန်တွေ့ဆုံပွဲက စမ်းယဉ်အခေါ်တဲ့ တွေ့ဆုံပွဲလေ။ ဒီတော့ အပျင်းပြေလုပ်ကြတာဖြစ်ပေမယ့် ကောင်းကောင်းမွန်မွန်တော့ ကျွေးမှ ဖြစ်မှာ။ သိပ်အကုန်အကျများတာတွေကိုလဲ မလုပ်နဲ့။ ဒီလိုလုပ်လို့ ညှံ့လှ

ချည်ရဲ့လို့ အပြောအဆိုခံရအောင် မလုပ်နဲ့။ အားလုံး ကျေနပ်အောင်လဲ ကြည့်ပြီးစီစဉ်ရမှာ”

“အမှန်ကတော့ စမ်းယဉ်က အိမ်မှာ အကြီးအကဲ မဟုတ်ဘူး။ တစ်လ တစ်လမှာရတဲ့ငွေထုပ်ကလေးကလဲ စမ်းယဉ်အတွက်တောင်ကောင်းကောင်း မလောက်ချင်ဘူး မဟုတ်လား။ ဘာဖြစ်လို့ မလိုဘဲနဲ့ကျွေးတာ မွေးတာတွေ လုပ်နေရတာလဲ။ တကယ်လို့ ဒါကို ဒေါ်လေးသိသွားယင် စမ်းယဉ်ကိုဆူမှာပဲ။ ကိုယ့်မှာ ကျွေးမွေးညော့်ခံဖို့ မတတ်မှမတတ်နိုင်တာ။ ဘာ ကျွေးဖို့လိုသလဲ။ ဒီတော့ စမ်းယဉ်ဘယ့်နှယ်လုပ်မလဲ။ အိမ်ကို ပိုက်ဆံ ထပ်တောင်းမလား။ သူတို့ဆီက ပြန်ကောက်မလား”

ရှိစမ်းယဉ်မှာ ထိုကိစ္စကြောင့် စိတ်ညစ်လျက်ရှိလေ၏။

“ပေါက်ကြည်မှာ စိတ်ကူးတစ်ခုတော့ရှိတယ်။ ပေါက်ကြည်တို့ အပေါင်ဆိုင်မှာ အလုပ်လုပ်တဲ့ လူတစ်ယောက်မှာ ကဏန်းမွေးထားတဲ့ ကန်တစ်ကန်ရှိတယ်။ တစ်နေ့တုန်းကတောင် ပေါက်ကြည်တို့ဆီကို နှစ်ပိဿာ သုံးပိဿာပို့လိုက်သေးတယ်။ ဒီတော့၊ မယ်မယ်ကအစ ဥယျာဉ်ထဲမှာရှိတဲ့ မောင်လေးပေါက်ယုတို့ မလေးတို့ တစ်တွေက ကဏန်းဆိုယင် သိပ်ကြိုက်တယ်။ တစ်နေ့ကတင် ဒေါ်လေးက မယ်မယ့်ကို ဥယျာဉ်ထဲ ဖိတ်ပြီး ခွာညိုပန်းတွေကိုလဲ ပြရင်း ကဏန်းပေါင်းကျွေးဖို့ စီစဉ်ထားတယ်။ ဒါပေမယ့် အလုပ်များတာနဲ့ဖိတ်ကိုမဖိတ်နိုင်သေးဘူး။ ဒီတော့ မယ်မယ်ကိုလဲဖိတ်၊ ဒါပေမယ့် ကဗျာဝိုင်းအကြောင်းကို ဘာမှမပြောနဲ့။ လူကြီးတွေပြန်တော့မှ ကိုယ်တို့ကြိုက်သလို ကဗျာစပ်ကြရုံပဲ။

“မလေးက အစ်ကို့ကို ဂဏန်းတွေ အယူခိုင်းလိုက်မယ်။ ဆိုင်မှာရှိတဲ့ အရက်ချိုကောင်းကောင်းလဲ အယူခိုင်းလိုက်မယ်။ ပြီးတော့ ဒီပြင် ဟင်းပွဲလဲ လေးငါးပွဲလောက် စီစဉ်ထားတာပေါ့။ ဒီလောက်ဆိုယင် ကြည့်လို့လှသွားပါပြီ”

ရှိစမ်းယဉ်မှာ ပေါက်ကြည်ကို များစွာ ကျေးဇူးတင်လျက်ရှိလေ၏။

“မလေးက သေသေချာချာကို စိတ်ကူးထားတာပဲနော်”





ပေါက်ကြည်က

“မလေးက စမ်းယဉ်အတွက် စဉ်းစားတာပါကွယ်။ ဒီလိုလုပ်ပေးတဲ့အတွက် စမ်းယဉ်ကို အထင်သေးတယ်လို့ မအောက်မေ့လိုက်ပါနဲ့။ မလေးနဲ့စမ်းယဉ်ဆိုတာ သူငယ်ချင်းတွေပဲ မဟုတ်လား။ ဒီတော့ စမ်းယဉ်အနေနဲ့ ကန့်ကွက်စရာအကြောင်းမရှိဘူးဆိုယင် ပေါက်ကြည်အစီအစဉ်ပိုင်းလိုက်မယ်။ ဘယ့်နှယ်လဲ”

“ဘယ်လိုမှ မအောက်မေ့ပါဘူး၊ စမ်းယဉ်ကို ဒီလိုမပြောပါနဲ့။ စမ်းယဉ်ဟာ အကင်းပါးတဲ့သူတစ်ယောက် မဟုတ်ပေမယ့် ကိုယ့်အပေါ်မှာ စေတနာထားတဲ့လူကိုတော့သိတတ်ပါတယ်။ အနည်းဆုံး ဘာညာသိနဲ့ သိတယ်ပဲဆိုပါစို့၊ မလေး ပေါက်ကြည်ကိုလဲ ညီအစ်မရင်းလိုခင်လို့ အလျင်တစ်ခေါက်တုန်းက စမ်းယဉ်ရဲ့ အိမ်အခြေအနေတွေ၊ အိမ်တွင်းရေးတွေကို ဖွင့်ပြောတာပေါ့”

ပေါက်ကြည်သည် အစေခံတစ်ယောက်ကိုခေါ်ကာ

“အစ်ကို့ဆီကိုသွားစမ်း။ ကျွန်မတို့အိမ်ကို တစ်နေ့က ယူလာတဲ့ ကဏန်းကြီးတွေ ရှိတယ်မဟုတ်လား။ အဲဒါမျိုး သုံးလေးတောင်းလောက် ပို့လိုက်ပါလို့ပြော။ မနက်ဖြန်ကျယင် မယ်မယ်နဲ့ဒေါ်လေးဝမ်ကို ဥယျာဉ်ထဲကိုဖိတ်ပြီး ခွာညိုတွေပြမလို့၊ ဖိတ်ပြီးပြီလို့။ ပို့ဖြစ်အောင် ပို့ပါလို့ပြော”

အစေခံအဘွားကြီးသည် အမိန့်အတိုင်း ဆောင်ရွက်ရန်အတွက် ထွက်သွားလေ၏။

ပေါက်ကြည်က ရှိစမ်းယဉ်အား

“ကဗျာစပ်ရမယ့်အကြောင်းအရာတွေက သိပ်ပြီး ဆန်းပြားလို့ မကောင်းဘူး။ ရှေးတုန်းကစာဆိုကြီးတွေဟာ ဘယ်တော့မှ ဆန်းပြား ခက်ခဲတဲ့အကြောင်းအရာတွေကို မစပ်ကြဘူး။ ဆန်းဆန်းပြားပြားတွေ၊ ခက်ခက်ခဲခဲအကြောင်းအရာတွေကို ကဗျာစပ်ပြီဆိုယင် အဲဒီကဗျာဟာ ဘယ်တော့မှ ကဗျာကောင်းမဖြစ်ဘူး၊ အဆင့်အတန်းနိမ့်တဲ့ ကဗျာပဲဖြစ်မှာပဲ။ ဟုတ်ပါတယ်၊ ကဗျာဆိုတာ ဆီသည်းမ လက်သုတ်ဖတ်လို အကြောင်းအရာတစ်ခုခုကိုချည်းပဲ ထပ်ဘာလဲလဲစပ်မနေရဘူး။ ဆန်းသစ်ရမယ်၊ ပြီး

တော့ ကိုယ်ပိုင်စိတ်ကူးရှိရမယ်ဆိုတာ မှန်ပါတယ်။ ဒါပေမယ့် ကိုယ်ပိုင် ဆန်းသစ်မှုကို သိပ်အသားပေးလွန်းသွားပြန်ယင်လဲ မကောင်းပြန်ဘူး။ အတွေးအခေါ်ဆန်းသစ်တယ်၊ လန်းဆတ်တယ်ဆိုယင် စကားလုံးဟာလဲ ဆန်းသစ်ရမယ်၊ ဟောင်းနေလို့မဖြစ်ဘူး။ ဘယ်လိုပဲဖြစ်ဖြစ် ကိုယ်တို့အဖို့ ပြောရယင် ကဗျာရေးဖို့ကအဓိကမဟုတ်ပါဘူး။ ပေါက်ကြည်တို့တကယ် လုပ်ရမယ့်အလုပ်က ဗိုင်းငင်တာ၊ အပ်ချုပ်တာ၊ ဇာပန်းထိုးတာပဲမဟုတ် လား။အချိန်ရယင်တော့ စာအုပ်ကောင်းလေးတွေကို ဖတ်ဖို့လိုတာပေါ့''

ရှိစမ်းယဉ်က

''မနေ့က စမ်းယဉ်တို့ ဂမုန်းအကြောင်းကိုဖွဲ့ခဲ့ကြတယ်။မနက်ဖြန် ကျယင်တော့ ဂန္ဓမာပန်းတွေအကြောင်းကို ဖွဲ့ရယင်မကောင်းဘူးလား''

''ကောင်းတယ်၊ ဆောင်းဦးနဲ့ ဂန္ဓမာပန်းနဲ့လိုက်တယ်။ တစ်ခုပဲ ပြောစရာရှိတယ်၊ ဂန္ဓမာအကြောင်းကို ရှေးတုန်းက ပေါ်ခဲ့တာကတော့ များလှပြီ''

''ဟုတ်တော့ဟုတ်တာပေါ့။ ဒါပေမယ့် မဘတ်နိုင်ဘူးသေး၊ ရှေး ကစာနဲ့ ဘယ်မှာလွတ်နိုင်ပါ့မလဲ''

ပေါက်ကြည်က စဉ်းစားနေလေ၏။

''ဒီလိုလုပ်လေ။ ဂန္ဓမာအကြောင်းကို အဓိကထားပြီး မစပ်ဘဲ ဂန္ဓမာပန်းရဲ့အလှကိုကြည့်နေသူတွေရဲ့အကြောင်းနဲ့ ပန်းကိုကြည့်ပြီး သူတို့ ရင်ထဲမှာပေါ်လာတဲ့ အတွေးတွေအကြောင်းကို အဓိကထားပြီး စပ်ကြ တာပေါ့။ ဒီနည်းအားဖြင့် မလေးတို့ဟာ ဂန္ဓမာပန်းတွေကိုလဲ ဂုဏ်ပြုရာ ရောက်ပါတယ်၊ ခံစားချက်တွေကိုလဲဖော်ပြရာရောက်တယ်။ ဒီလိုဟာမျိုး ကတော့ ရှေးကမစပ်ဖူးခဲ့ကြသေးဘူး။ ဒါကြောင့် ရိုးနေပြီလို့လဲပြောလို့ မရတော့ဘူး။ ခုလို ရှုခင်းကိုရော၊ အတွေးကိုရောဖော်ပြလိုက်တော့ ပိုပြီး လဲ ထူးခြားတယ်၊ ဆန်းလဲဆန်းသစ်တယ်''

''သိပ်ကောင်းတာပဲ မလေးရယ်။ ဒါပေမယ့် ကိုယ့်ခံစားချက်တို့ အတွေးတို့ကို ဘယ်လိုလုပ်ပြီးဖော်မလဲ မလေးရဲ့။ စမ်းယဉ်ကို နမူနာ တစ်ခုလောက်ပြစမ်းပါဦး''





ပေါက်ကြည်သည် အတန်ကြာစဉ်းစားနေပြီးနောက်

''ဥပမာ 'ဂန္ဓမာပန်းများ၏အိပ်မက်' လို့ ဆိုတာမျိုးပေါ့ကွယ်''

''ဟုတ်ပြီ၊ ဟုတ်ပြီ။ စမ်းယဉ်လဲသတိရပြီ။ ဥပမာ 'ဂန္ဓမာပန်း၏ အရိပ်'ဆိုတာမျိုး''

''ရပါတယ်။ ဒါပေမယ့် သုံးတော့သုံးခဲ့ဖူးပြီ။ သူ့ကိုလဲ ထည့် သင့်ပါတယ်။ နောက်တစ်ခုရှိသေးတယ်''

''ပြောပါဦး''

'''ဂန္ဓမာပန်းကို မေးခွန်းတုတ်ခြင်း'ဆိုယင်ကော''

''သိပ်ကောင်းတာပဲ၊ 'ဂန္ဓမာပန်းကို ရှာဖွေခြင်း' ဆိုယင်ကော''

''ကောင်းတယ်။ မလေးတို့ အကြောင်းအရာဆယ်ခုလောက်ကို စဉ်းစားပြီး ရေးချထားမယ်''

မင်သွေးခံဘွင် မင်သွေးပြီးနောက် စုတ်တံကို မင်ထဲသို့ နှစ်လိုက် လေ၏။ ပေါက်ကြည်က အကြောင်းအရာများကို ပါးစပ်မှ ရွတ်ပြပြီး ရှိစမ်းယဉ်က လိုက်ရေးသေရာ ခဏကြာလျှင် ဆယ်ခု ပြည့်သွားလေ၏။ ရှိစမ်းယဉ်သည် ခေါင်းစဉ်များကို ပြန်ဖတ်လိုက်ပြီးလျှင်

''ဆယ်ခုဆိုတော့ တစ်စုံမပြည့်ဘူး။ဒီတော့ ဆယ့်နှစ်ခုပြည့်အောင် လုပ်လိုက်ရအောင်''

သို့ဖြင့် ပေါက်ကြည်က နောက်ထပ်နှစ်ခု စဉ်းစားပေးသည်တွင် ဆယ့်နှစ်ခုပြည့်သွားလေ၏။

''ကဲ အစီအစဉ်တွေကို ရွေးလိုက်ရအောင်''

''သိပ်ကောင်းတာပေါ့၊ ဂန္ဓမာပန်းပေါင်းချုပ်စာအုပ်ဖြစ်သွား မှာပေါ့''

''ကဲ ပထမဆုံးက စမယ်၊ 'ဂန္ဓမာပန်းကို အောက်မေ့ သတိရ ခြင်း'တဲ့။ သတိရတော့ အဲဒီပန်းပွင့်ကို လိုက်ရှာမယ်။ ပြီးတော့ နံပါတ် နှစ်က 'ဂန္ဓမာပန်းထံ အလည်သွားခြင်း'၊ အလည်သွားလို့တွေ့တော့ သူ့ ကိုစိုက်ရမယ်။ ဒါ့ကြောင့် 'ဂန္ဓာပန်းကို စိုက်ပျိုးခြင်း'လို့ရေး။ ပြီးတော့ ပန်းတွေကိုမျက်နှာမူပြီးကြည့်ကယ်။ ဒါကြောင့် နံပါတ်လေးက 'ဂန္ဓမာ ပန်းကို မျက်နှာမူခြင်း'လို့တပ်မယ်။ပန်းရဲ့အရသာကို ပိုပြီးခံစားချင်တော့

ပန်းတွေကိုမှုံးပြီး ပန်းအိုးထဲမှာအလှထိုးမယ်။ ဒါကြောင့် 'ဂန္ဓမာပန်းကို အလှပြင်ခြင်း' လို့ပေးမယ်။ ဒါပေမယ့် အလှပြင်ထားရုံနဲ့ မပြီးသေးဘူး။ အသေးအရောင်တောက်သွားအောင် သူ့အကြောင်းကို ကဗျာတွေ စာတွေ စပ်ရမယ်။ ဒါကြောင့် နံပါတ်ခြောက် 'ဂန္ဓမာပန်းအကြောင်းကို ကဗျာဖွဲ့ခြင်း' လို့ပေးမယ်။ ကဗျာဘာစ်ပုဒ်တော့ဖြစ်ပြီး ဒါပေမယ့် ကဗျာတစ်ပုဒ်ဟာ ပန်းချီနဲ့ တွဲထားရမယ်။ ဒီတော့ နံပတ်ခုနစ်က 'ဂန္ဓပန်းကို ပန်းချီခြယ်ခြင်း' လို့တပ်မယ်။ မလေးတို့ဟာ ဂန္ဓမာပန်းတွေကို တယုတယ စိုက်ပျိုးပြုစုခဲ့ကြပေမယ့် သူ့အရည်အချင်းတွေ ကောင်းကောင်း မသိကြသေးဘူး။ သူ့အရည်အချင်းတွေကိုမေးရဦးမယ်။ ဒါ့ကြောင့် နောက်တစ်ပုဒ်ကို 'ဂန္ဓမာပန်းအား မေးမြန်းခြင်း' လို့ ခေါင်းစဉ်တပ်မယ်။ မလေးတို့မေးတဲ့ မေးခွန်းတွေကို ပန်းတွေက နားလည်ပုံရတယ်ဆိုယင် မလေးတို့ပျော်တယ်။ သူတို့ကို ပန်ဆင်တယ်။ ဒါ့ကြောင့် နောက် တစ်ပုဒ်ကိုတော့ 'ဂန္ဓမာပန်းကို ပန်ဆင်ခြင်း' လို့ အမည်ပေးမယ်။

"ဒါတွေကတော့ လူတွေလုပ်နိုင်တဲ့အလုပ်တွေ။ ဒါပေမယ့် ပန်း ကို သူ့နဂိုအတိုင်း ဖော်ပြဖို့လိုနေသေးတယ်။ ဒါ့ကြောင့် တစ်ဆယ်နဲ့ တစ်ဆယ့်တစ်ကိုတော့ 'ဂန္ဓမာပန်း၏အရိပ်' နဲ့ 'ဂန္ဓမာပန်း၏အိပ်မက်' လို့ အမည်ပေးမယ်။ ပြီးတော့ အဲဒီခံစားချက်တွေ၊ အတွေးတွေကိုနိဂုံးချုပ် တဲ့အနေနဲ့ နောက်ဆုံးမှာ 'နွမ်းကြွေသွားသော ဂန္ဓပန်းပွင့်' လို့ အမည် ပေးမယ်။ ဒီလိုဆိုယင် ဆောင်းဦးရဲ့အလှတွေလဲပါမယ်၊ အတွေးတွေလဲ ပါလာမယ်။ မကောင်းဘူးလား"

ရှိစမ်းယဉ်သည် ထိုအစီအစဉ်ကို သေချာစွာ ပြန်ကူးပြီးနောက် ဖတ်ပြလေ၏။

"ဒါဖြင့် ဘယ်ကာရန်မျိုးနဲ့စပ်မလဲ"

ပေါက်ကြည်က

"ခါတိုင်းဆိုယင်တော့ မလေးက ကာရန် အ သေ ထား တာ ကို မကြိုက်ဘူး။ သိပ်လှတဲ့စာလုံးတွေကို ဘာဖြစ်လို့ ကာရန်နဲ့ ကန့်သတ် ချုပ်ချယ်ထားမလဲ။ ကာရန်စနစ်တွေ၊ လင်္ကာစနစ်တွေဆိုတဲ့အသေးအဖွဲ့ တွေ နောက်ကို သိပ်လိုက်မနေပါနဲ့။ အကြောင်းအရာကိုပဲဦးစားပေးစပ်





ပါ။ မလေးတို့ဖြစ်စေချင်တာက ကဗျာလှလှအလေးတွေကို လူတိုင်း ရေးနိုင်စေချင်တယ်။ သူတို့အတွက် ခက်ခဲတဲ့အရာကြီးမဖြစ်စေချင်ဘူး"

"ဟုတ်တယ်နော် မလေး။ ဒီလိုဆိုယင် ကဗျာကောင်းတွေအများကြီး ထွက်လာမှာပဲ။ ခု မလေးတို့ ကဗျာရေးမှာက ငါးယောက်နော်။ တစ်ယောက်ကို ဆယ့်နှစ်ပုဒ်စီပုံး ရေးရမှာလား"

"ဒီလောက်တော့ များလွန်းပါတယ်ကွယ်။ ဒီအကြောင်းအရာ တွေကို ပြောထားမယ်။ လူရှိ ကာရန်နဲ့စပ်ရမယ်လို့ ရေးထားမယ်။ ပြီး တော့ အဲဒီကြေညာချက်ကို သင်ပုန်းပေါ်မှာ ကပ်ထားလိုက်တာပေါ့။ ဒီထဲက သူတို့ကြိုက်တဲ့အကြောင်းကိုစပ်ကြပေါ့။ တကယ်လို့ ဆယ့်နှစ်ခု စလုံးကို စပ်ချင်တယ်ဆိုယင်လဲ စပ်ပေါ့။ ကောင်းတာပေါ့။ တစ်ပုဒ်မှ မစပ်ချင်ယင်လဲ နေပေါ့။ ရပါတယ်။ အကောင်းဆုံး၊ အမြန်ဆုံး ရေးနိုင် တဲ့လူက ပထမပေါ့။ အကယ်၍ တချို့က ဆယ့်နှစ်ပုဒ်စလုံးပြီးလျက်သား နဲ့မှ တစ်ပုဒ်မှမပြီးသေးတဲ့လူရှိယင် သူ့ကို ဒဏ်ပေးရမယ်"

ရှိစမ်းယဉ်က ထိုအချက်ကို သဘောတူကာ သူတို့နှစ်ယောက်သည် မီးကိုငြိမ်းပြီးနောက် အိပ်ရာသို့ဝင်ခဲ့ကြလေ၏။

နောက် မည်သို့ ဖြစ်သည်ကို သိလိုလျှင် နောက် တစ် ခန်း ကို ဖတ် ပါလေ။

## အခန်း ၃၈

ဝေဠုဝတီမင်းသမီးသည် ဂန္ဓမာပန်းကဗျာများကိုစပ်ရာတွင် ပထမရခြင်း။

သဇင်မြိုင်သခင်သည် ကဏန်းကောင်များအကြောင်း သရော်စာဖွဲ့ခြင်း။

အစီအစဉ်များကိုရေးဆွဲ၍ အိပ်ရာသို့ဝင်ခဲ့ကြပြီးနောက် နောက်တစ်နေ့မနက်တွင် ရှိစမ်းယဉ်သည် ခွာညိုပန်းများကိုကြည့်ရန် မယ်မယ်နှင့်သခင်မဝမ်တို့ကို ဖိတ်ကြားလိုက်လေ၏။

"ဟယ် အတော်ပဲဟေ့၊ သူက တကူးတကန့်ဖိတ်တာ၊ သွားမှပဲ။ ငါကလဲသွားချင်နေတာ"

နေ့လယ်ချိန်တွင် မယ်မယ်သည် သခင်မဝမ်၊ နတ်ငှက်မယ်တို့ကို ခေါ်ကာ ဒေါ်လေးဆွေ့ကိုလည်း ဝင်၍ခေါ်လေ၏။

"ဘယ်နေရာက ကောင်းမယ်ထင်သလဲ"

"မယ်မယ်ကြိုက်တဲ့နေရာကိုသာ သွားပါ"

"သူတို့က ကြာဖူးငုံဆိပ်ကမ်းမှာ စီစဉ်ထားတယ်ထင်တယ်။ အဲဒီနားက သစ်ပင်ကြီးတွေပေါ်မှာ ခွာညိုတွေပွင့်လို့။ စမ်းထဲက ရေကလဲ ကြည်စိမ်းနေတာပဲ။ စမ်းချောင်းလယ်က ‌ရေသာဆောင်ကလေးပေါ်





ကနေပြီးကြည့်ယင်လဲ ရှုခင်းကသိပ်လှတယ်။ ကြည့်လိုက်ရယင် ရင်ထဲမှာ အေးသွားတာပဲ"ဟု နတ်ငှက်မယ်က ပြောလေ၏။

ကြာဖူးငုံဆိပ်ကမ်းတွင် နားရန် မယ်မယ်ကလည်း သဘောတူလိုက်၏။

ကန်လယ်တွင်ဆောက်ထားသည့် လေသာဆောင်ကလေးပတ်ပတ်လည်တွင် ပြတင်းပေါက်များဖောက်ထားပြီး လက်ဝဲဘက်နှင့်လက်ျာဘက်တို့တွင် ကြေးအကွေ့အကောက်ကလေးများဖြင့် ကမ်းကို ဆက်ကူးထား၏။ နောက်ဘက်တွင်လည်း ကွေ့ကောက်သော ဝါးတံတားကလေးဖြင့် ကမ်းကိုကူး၍ထား၏။ ဝါးတံတားကလေးပေါ်သို့တက်လိုက်သည့်အခါတွင် နတ်ငှက်မယ်သည် မယ်မယ့်အနားသို့ ရောက်လာကာ မယ်မယ့်လက်မောင်းကိုတွဲ၍ ခေါ်သွားလေ၏။

"ရဲရဲသာတက်နင်းလိုက် မယ်မယ်၊ ဝါးတံတားဆိုတော့ ညွတ်တော့ညွတ်တယ်။ ဒါပေမယ့် ဘာမှမဖြစ်ပါဘူး"

လေသာဆောင်ကလေးသို့ရောက်လျှင် ဝရန်တာတွင် ဝါးစားပွဲနှစ်လုံးခင်းထားသည်ကို တွေ့ရ၏။ တစ်လုံးပေါ်တွင် လက်ဖက်ရည်ကရားနှင့် ပန်းကန်များချထားပြီး နောက်တစ်လုံးပေါ်တွင်မူ ပန်းကန်များ၊ တူများကို ချထားလေ၏။ စားပွဲနှစ်လုံးအနီးတွင် အစေတော်နှစ်ယောက်သည် မီးဖိုနှစ်လုံးကို ယပ်ခတ်ပေးနေကြ၏၊ တစ်ခုမှာ လက်ဖက်ရည်ကြိုရန်ဖြစ်ပြီး နောက်တစ်ခုမှာ အရက်ချိုကျိုရန် ဖြစ်လေ၏။

"လက်ဖက်ရည်လားဟေ့။ ကောင်းတယ်၊ ကောင်းတယ်။ ဒီနေရာကလေးက လက်ဖက်ရည်ဝိုင်းဖွဲ့လို့ သိပ်ကောင်းတဲ့ နေရာကလေး။ သန့်ရှင်းနေတာပဲ"

စမ်းယဉ်က ပြုံးလျက်

"မလေးပေါက်ကြည်ရဲ့ စိတ်ကူးတွေလေ"

"ဒါကြောင့် ငါပြောတာပေါ့။ ပေါက်ကြည်က အင်မတန်ဉာဏ်ရှိတဲ့ မိန်းကလေးလို့"

မယ်မယ်သည် ယွန်းနောက်ပေါ်တွင် ကရားမာမြှုပ်၍ စာတန်းထိုးထားသည့် စာတန်းနှစ်မျိုးကိုတွေ့သဖြင့် အဖတ်ခိုင်းလေ၏။

မယ်မယ်သည် ခေါင်းပေါ်မှစာဘမ်းကိုမော့ကြည့်ကာဒေါ်လေး ဆွေ့ဘက်သို့လှည့်၍

"တို့ငယ်ငယ်တုန်းကလဲ အိမ်မှာ ဗီလိုလေသာဆောင်လေး တစ်ဆောင်ဆောက်ထားတယ်အေ့။ နာမည်ကတော့ 'သက်တန့်ရောင် လေသာဆောင်' ဆိုလား ဘာလား။ကောင်းကောင်းတောင် မမှတ်မိတော့ပါဘူး။ အဲဒီတုန်းကငါက သူတို့တစ်တွေလောက်ပဲရှိဦးမှာပေါ့၊ တို့ညီအစ်မတစ်တွေ ကစားယင် အဲဒီလေသာဆောင်ကိုသွားပြီး ကစားကြတာပဲ။ တစ်ခါတော့ ကစားရင်း လေသာဆောင်ပေါ်က အုန်ထဲကိုချော်ကျပြီ၊ ရေနစ်ပါရောဟေ့။ညီအစ်မတစ်တွေဝိုင်းပြီးဆွဲတင်ကြပေလို့ပေါ့။ခေါင်းလဲ သစ်သားငုတ်နဲ့ဆောင့်မိလို့ ဟက်ဘက်ကွဲသွားတာပဲ။ ဟောဒီနားထင်နားက လက်သန်းလုံးလောက်ရှိတဲ့ အမာရွတ်ဟာ အဲဒီတုန်းက ဒဏ်ရာပေါ့။ တစ်ကိုယ်လုံးလဲအေးစက်ပြီး သတိမေ့နေလို့။ အားလုံးက ကိစ္စချောပြီလို့အောက်မေ့တာ။ ကံကောင်းလို့သတိပြန်ရလာတာပေါ့အေ"

မည်သူကမျှ မပြောရသေးမီ နတ်ငှက်မယ်က

"ဒါကြောင့်ဒီနေ့ မယ်မယ့်မှာ စည်းစိမ်နဲ့နေရတာပေါ့။မယ်မယ်မှ စည်းစိမ်နဲ့မနေရယင် ဘယ်သူနေရဦးမှာလဲ။ မယ်မယ်တို့များ မွေးကတည်းက အသက်ရှည်ရှည်၊ စည်းစိမ်ရှိရှိနေရဖို့ ဇာတာပါလာတာ။ ဒါကြောင့်မို့ နတ်သကြားမျှားက လူမမှားရအောင် ဆိုပြီး မယ်မယ့်ခေါင်းမှာ အမာရွတ်နဲ့မှတ်ပေးလိုက်တာပေါ့။ အာယုဒေဝဆိုတဲ့ သက်စောင့်နတ်မင်းမှာလဲ ခေါင်းမှာ အမာရွတ်ပါတယ်ဆို။စာစောအတော့ သူ့ခေါင်းမှာ အခွက်ကြီးတဲ့။ နောက်ကျတော့ စည်းစိမ်ချမ်းသာတွေများလွန်းလို့ခေါင်းထဲရောက်လာပြီးခေါင်းမှာ အဖုကြီးဖြစ်လာတာတဲ့"

နတ်ငှက်မယ်၏ စကားမဆုံးခင် အားလုံးမှာ သီးမထတ်၍ရယ်ကြလေ၏။

"ဟောဒီမျောက်မဟာ ဘယ်သူ့ကိုမှချမ်းသာမပေးဘူး။ ငါ့ကိုတောင် လှောင်ဖြစ်အောင်လှောင်လိုက်သေးတယ်။ ညည်းလျှာကိုဆွဲဖြတ်ထားလို့ရယင်လဲအကောင်းသား" ဟု မယ်မယ်ကပြောလေ၏။





"ခဏနေယင် မယ်မယ်တို့ကို ကဏန်းပေါင်းကျွေးမယ်။ ဒီတော့ မယ်မယ်ဗိုက်ချောင်အောင် စောစောစီးစီးရယ်ထားမှ။ နို့မို့ယင် အစာမကြေဖြစ်နေမှာစိုးလို့၊ ငှက်မယ်က ရယ်စရာပြောရတာ။ စိတ်ရွှင်နေတယ်ဆိုယင် တော်တော်ဘနီသနီစားလို့ ဘာမှမဖြစ်နိုင်ဘူးမဟုတ်သား မယ်မယ်ရဲ့"

"ဒီလိုဆိုယင်လဲ ငါ အမြဲရယ်နေရအောင် ညည်းကို ငါ့အနားခေါ်ထားမှပဲ။ အိမ်ကို ပြန်လွှတ်လို့မဖြစ်တော့ဘူး"

သခင်မကဝမ့်က

"ငှက်မယ်က မယ်မယ်အလိုလိုက်လွန်းလို့ပျက်စီးနေတာ။မယ်မယ့်အနားခေါ်ထားယင် ဒီထက်ဆိုးတော့မှာပေါ့"

မယ်မယ်အား ရယ်လိုက်လျက်

"ငါက ငှက်မယ်ကို သိပ် သဘောကျတာအေ့။ ဘယ်လိုပဲ အပြောင်အပြက်ပြောပြော၊ သူ့စည်းနဲ့သူ။ ဘယ်တော့မှ စည်းမဖောက်ဘူး။ အိမ်မှာ ညီ့သည်တို့ ဘာတို့မသာယင် ငှက်မယ်နဲ့ စကားပြောပြီး ဒီလိုပဲ နောက်ပြောင်နေရတာပေါ့၊ နောက်တာ ပြောင်တာက အရေးမကြီးပါဘူးအေ။ လူကြီးကိုလူကြီးမှန်းသိတတ်ပြီး သူ့နေရာနဲ့သူ ရှိသေယဲ့ ပြီးတာပါပဲ။ တကတဲ မိန်းကလေးဆိုတာ သီသရင် ကလေးတွေလို ဘယ်မှာတည်တည်ကြီး နေနိုင်ပါ့မလဲ"

အားလုံးလူစုံသည့်အခါတွင် လက်ဖက်ရည်ဘည်ခင်းလေ၏။ နတ်ငှက်မယ်က လက်ဖက်ရည်ကို ငှဲ့ပေးလေ၏။ ထိပ်မှစားပွဲတွင် မယ်မယ်၊ ဒေါ်လေးဆွေ့၊ ပေါက်ကြည်၊ထိုက်ယုနှင့်ပေါက်ယုတို့ထိုင်ကြပြီး အရှေ့ဘက်စားပွဲတွင် ရှိစမ်းယဉ်၊ ဒေါ်လေးဝမ်၊ ယင်ချွန်း၊ တန့်ချွန်းနှင့် ဆီချွန်းတို့ထိုင်ကြလေ၏။ တံခါးမကြီးအနီး အနောက်ဘက်မှ စားပွဲကလေးတွင်မူ လီဝမ်းနှင့် နတ်ငှက်မယ်တို့ထိုင်ကြလေ၏။ သို့ရာတွင် သူတို့နှစ်ယောက်မှာ မယ်မယ်နှင့်သခင်မဝမ်တို့ကို လက်ဖက်ရည်များ လိုက်၍ငှဲ့ပေးနေသဖြင့် ထိုင်ခုံလွတ်လျက်ရှိလေ၏။

နတ်ငှက်မယ်က အစေတော်များသို့လှည့်၍

"ဟဲ့ ကောင်မတွေ၊ ကကန်းတွေကို သိပ်ထည့်မလာနဲ့နော်။ ဝ လောလောဆယ် ဆယ်ကောင်ပဲဘည်ခဲ့။ ကျန်တာတွေကိုတော့ လိုယင် လိုက်ရအောင် ပေါင်းအိုးထဲမှာ အဆင်သင့်ထည့်ထား"

နတ်ငှက်မယ်သည် လက်ဆေး၍ ဒေါ်လေးဆွေ့ အနီးတွင်ရပ်ကာ ကကန်းတစ်ကောင်ကို အခွံသင်ပြီးနောက် အသားကို ဒေါ်လေးဆွေ့ အားပေးသည်တွင် ဒေါ်လေးဆွေ့က ငြင်းလေ၏။

"နေပါစေ၊ ဒေါ်လေးဆွေ့ဘာသာ လုပ်ပါ့မယ်"

ဤတွင်နတ်ငှက်မယ်သည် ပေါက်ယုအနီးတွင်ထိုင်နေမည့်မယ်မယ် ကို လှမ်းပေး၏။ ထိုနောက် ကျိုထားသည့်အရက်ချိုကို အယူခိုင်းလေ၏။ တစ်ဖန် လက်ဆေးရန်အတွက် ကျိုထားသည့်အရက်ချိုနှင့် ခွာညိုနှင့်ဂန္ဓမာ ရွက်တို့ဖြင့် အနံ့သတ်ထားသည့် ပဲ်မ်းမှုန့်ကို အယူခိုင်းလိုက်လေ၏။

ရှိစမ်းယဉ်သည် ဧည့်သည်များနှင့် အတူထိုင်ကာ ကကန်း တစ်ကောင်ကို စားခဲ့ပြီးနောက် အခြားသူများကို ကူညီလုပ်ကိုင်ပေးရန်ထလာ ခဲ့ပြီးလျှင် အမြောင်ဖြစ်သည့် ချောနှင့်ချူတို့ထံသို့လည်း ကကန်းနှစ်ပန်း ကန် အပို့ခိုင်းလိုက်လေ၏။

နတ်ငှက်မယ်က အနား သို့ရောက်လာကာ

"သွားစမ်းပါ စမ်းယဉ်ရယ်။ စမ်းယဉ်က ဧည့်ခံနေကျမဟုတ်ပါ ဘူး။ ကိုယ်ကဧည့်ခံနေကျပါ၊ ကိုယ်လုပ်ပါ့မယ်။ ဧည့်သည်တွေနဲ့အတူတူ သွားထိုင်ပြီး စားနေပါ။ စမ်းယဉ်အစား ကိုယ်ဧည့်ခံမယ်။ သူတို့ပြန်မှ ကိုယ်စားပါ့မယ်"

သို့ရာတွင် စမ်းယဉ်က မသွားဘဲ စားပွဲနှစ်ချပ်ကို အခင်းခိုင်းကာ ယုန်ယွမ်း၊ ဟုပို၊ ဆိုင်ရှို၊ ဆိုင်ယွန်းနှင့် ပင်အဲတို့ကို အထိုင်ခိုင်းလေ၏။

"မလေးငှက်မယ် ဒီမှာကြည့်စီမံနေတုန်း ကျွန်မတို့သွားပြီး စား လိုက်ဦးမယ်" ဟု ယုန်ယွမ်းက နတ်ငှက်မယ်ကိုပြောလေ၏။

"အေး၊ သွားစားချည်ကြ။ ငါနေရစ်ခဲ့မယ်"

သို့ဖြင့် စမ်းယဉ်သည် သူ စားပွဲတွင် ပြန်ထိုင်နေလေ၏။ နတ် ငှက်မယ်နှင့် လီဝမ်းတို့ဆည် ဟန်ပြလောက်သာစားလေ၏။ နတ်ငှက်မယ် သည် ဝတ်ကျေတမ်းကျေမျှ စားသောက်ပြီးနောက် ကူညီလုပ်ကိုင်ပေး





ရန် နေရာမှထလာခဲ့ပြန်၏။ နတ်ငှက်မယ်သည် အစေခံမျာ ကကန်း ပေါင်းစားရာ လသာဆောင်ဘက်သို့ ထွက်လာခဲ့လေ၏။ သူလာသည်ကို မြင်လျှင် အစေခံများက ထပေးကြလေ၏။ ယုန်ယွမ်းက

"မလေးငှက်မယ်ဘာလဲ ဘာဖြစ်လို့ ဒီကိုလာရပြန်တာလဲ။ သူများ တကာတွေ ကကန်းစားတာ ဖြောင့်ဖြောင့်မစားရဘူး"

နတ်ငှက်မယ်က ရယ်လိုက်ကာ

"ဟောဒီကောင်မဟာ တော်တော်ကို ကျေးဇူးကန်းတယ်။ ငါက ဖြင့် သူတို့အစားလဲ ဝင်လုပ်ပေးရသေးရဲ့။ ကျေးဇူးမသိတဲ့အပြင် အပြစ် တောင် တင်နေသေးတယ်။ ကောင်မနော်၊ သတိထား။ ကဲပါ၊ မြန်မြန် စားပြီး ငါ့ကို အရက်ချိုကလေး ဘာလေး ငှဲ့ခဲ့စမ်းပါ"

ယုန်ယွမ်းက ထသွားကာ အရက်ချိုတစ်ခွက်ကို အပြည့်ထည့်လာ ပြီးလျှင် နတ်ငှက်မယ်၏ ပါးစပ်သို့ တေ့ပေးလေရာ နတ်ငှက်မယ်သည် အရက်ချို တစ်ခွက်လုံးကို အကုန်မော့သောက်ပစ်လိုက်လေ၏။ ဟုပိုနှင့် ဆိုင်ရှိုတို့ကလည်း ထုစ်ခွက်စီ ငှဲ့လာပြီး ပါးစပ်သို့ တေ့ပေးပြန်သည်တွင် နတ်ငှက်မယ်သည် ထိုနှစ်ခွက်ကိုလည်း ကုန်အောင် သောက်ပစ်လိုက်ပြန် လေ၏။ ပင်အဲက အခွံသင်ပြီးသား ကကန်းပေါင်း တစ်ပန်းကန်ကို ယူ လာလေ၏။

"ချင်းရည်နဲ့ရှာလ်ချဉ်ရည် နည်းနည်းထည့်စမ်းပါဦး" ဟုဆိုကာ စားသောက်ပြီးနောက်

"ကဲ ညည်းတို့ဘာသာ ဆက်စားကြဦး၊ ငါသွားမယ်"

"ဟောတော့ ကြည့်ပါဦး၊ ရှက်သဲမရှက်ဘူး။ ကျွန်မတို့ပွဲကဟာ တွေကို စားသွားပြီ" ဟု ယုန်ယွမ်းက နောက်မလေ၏။

နတ်ငှက်မယ်က

"ကောင်မ ဖြိမ်ဖြိမ်နေစမ်း။ ညည်းကို ညည်းသခင်ကျိလျှ က တော်ကျနေတယ်ဆိုတာ သိဘယ်မဟုတ်လား။ အမြောင်ထား မလို့ မယ်မယ့်ဆီကိုပြောတော့မလို့ သိရဲ့လား"

''သခင်မလေး၊ မဟုတ်ကဟုတ်က ဘာတွေ လျှောက်ပြောနေတာလဲ။ ကျွန်မကို အဲလိုပြောယင် သခင်မလေးရဲ့ မျက်နှာကို ဟောဒီကကဏန်းစားထားတဲ့လက်ကြီးနဲ့လာသုတ်မှာနော်''

''မလုပ်ပါနဲ့အေ၊ ဒီတစ်ခါတော့ သည်းခံပါ''

ဟုပိုက

''ယုန်ယွမ်းသာ အမြှောင်ဖြစ်ယင်တော့ ပင်အဲတစ်ယောက် ဆွဲ၊ ရော့ပေါ့။ ရင်ထဲကို ဗလောင်ဆူနေမှာပဲ။ ခုပဲကြည့်ပါဦး၊ စားဘော့ ကဏန်းလေးနှစ်ကောင်ရယ်၊ချင်းရည်က တစ်ပန်းကန်လောက်ကုန်နေပြီ။ ဒီလောက်ဆို ရင်ထဲမှာ တော်တော်ပူနေရော့ပေါ့''

ပင်အဲသည် ကဏန်းအသားတစ်ဖတ်ကို ကော်ထုတ်လိုက်ပြီး ဟုပို့ မျက်နှာကို လာသုတ်လေ၏။

''ကောင်မ မကောင်းဘူး။ သူများကို အလကားလျှောက်ပြောနေတယ်''

ဟုပိုက ရယ်၍ ရှောင်လိုက်သည်တွင် ပင်အဲသည် အရှိန်ဖြင့် လွှဲသွားကာ နတ်ငှက်မယ်၏ပါးကို ကဏန်းဖတ်ဘေ့နှင့် သုတ်မိလျက်သား ဖြစ်နေလေ၏။ ယုန်ယွမ်းနှင့်စကားပြောနေသော နတ်ငှက်မယ်က သန့်၍ အော်လိုက်သဖြင့် အားလုံးလှည့်ကြည့်ကြကာ တဝါးဝါးဖြစ်နေကြလေ၏။ နတ်ငှက်မယ်မှာလည်း ရောယောင်၍ ရယ်လိုက်ရာက

'ဟောဒီကောင်မကို ကဲတယ်။ ကဏန်းတွေ ငါ့ပါး လာသုတ်ရအောင် မျက်စိကန်းနေသလား''

ပင်အဲသည် နတ်ငှက်မယ်၏မျက်နှာကို သုတ်ပေးကာ ရေတစ်ပုံကို မြန်မြန်သွားခပ်လေ၏။

''ကာလဝိပါက် နောက်ပိုးတက်ဆိုတာ အဲဒါပေါ့'' ဟု ယုန်ယွမ်းက ပြောလေ၏။

သူတို့အသံများကို ကြားသည့်အခါတွင် မယ်မယ်က

''ဟဲ့ ဟိုဘက်ကကောင်မတွေ တသောသောနဲ့ ဘာသဘောကျနေကြတာလဲ့။တို့များကိုလဲ ပြောစမ်းပါဦး။ရယ်စရာရှိယင် ရယ်ရအောင်''





အူမြူးလျက်ရှိကြသည့် ယုန်ယွမ်းနှင့် အစေတော်တစ်ဆိုက်က

''ဟောဒီမှာ မယ်မယ်ဖျား၊ ငှက်မယ် သခင်မလေးရယ်၊ ကျွန်မတို့ ကဏန်းပေါင်းတွေကို ခိုးစားနေလို့။ ပင်အဲက ဒေါသထွက်ပြီး သခင်မလေးရဲ့ပါးကို ကဏန်းပေါင်းတွေနဲ့ ထသုတ်ပစ်တာ။ သခင်မနဲ့ အစေတော် အစာလုနေကြတယ်''

မယ်မယ်က ရယ်လျက်

''ဟဲ့ ငါ့မြေးငှက်မယ် သနားပါတယ်ဟယ်။ ခြေထောက်လေး၊ လက်မကလေးပေးလိုက်ပါ။ စားပါစေ''

''ရှိတယ် မယ်မယ်ဖျား။ စားပွဲပေါ်မှာ လက်မတွေချည်းပဲ့။ မယ်မယ်စားချင်ယင်တောင် ရသေးတယ်''

နတ်ငှက်မယ်သည် မျက်နှာသစ်ပြီးနောက် မယ်မယ့်အနီးသို့သွားကာ ဟင်းများကို ထည့်ပေးလျက် ရှိလေ၏။

ထိုက်ယုမှာ နဂိုကမှ အစားနည်းသည့်အလျောက် လက်မတွင်ရှိသည့် အသားအနည်းငယ်ကို ထွင်စားလေ၏။ မယ်မယ်စားသောက်ပြီးသည့်အခါတွင် အားလုံး ထိုင်ရာမှထကာ လက်ဆေးရန် လာခဲ့ကြလေ၏။ ထို့နောက် ပန်းများကြည့်သူကြည့်၊ ရေငါးများကိုကြည့်သူကြည့်၊ လမ်းလျှောက်သူလျှောက်ဖြင့် ကိုယ့်အစုနှင့်ကိုယ် နေကြလေ၏။

သခင်မဝမ်က ယောက္ခမဖြစ်သူမယ်မယ်အား

''မယ်မယ် အပြင်ကလေတိုက်တယ်ထင်တယ်။ ကဏန်းတွေစားပြီး လေတိုက်ခံလို့မကောင်းဘူးထင်တယ်။ မယ်မယ်ပြန်ပြီး အနားယူပါတော့လား။ မနက်ဖြန်မှ တစ်ခေါက်လာကြည့်သေးတာပေါ့''

''အင်း လူစုံတုန်းသွားရတာ သိပ်တော့ မသွားချင်လှသေးဘူးအေ့။ ဒါပေမယ့် ညည်းပြောတာလဲဟုတ်တာပဲ။ သွားကြတာပေါ့'' ဟုဆိုကာ ရှိစမ်းယဉ်ဘက်သို့ လှည့်၍

''ပေါက်ယုနဲ့ ထိုက်ယုတို့ကို ကဏန်းတွေသိပ်မကျွေးနဲ့နော်'' ဟုဆိုကာ ပေါက်ကြည်နှင့် ရှိစမ်းယဉ်တို့ကိုလည်း

"ညည်းတို့ နှစ်ယောက်လဲ သိပ်မစားကြနဲ့။ ကဏန်းက စားလို့တော့အရသာ ရှိပါရဲ့ ဒါပေမယ့် မသန့်ဘူး။ သိပ်အစားများယင် ဗိုက်နာတတ်တယ်"

သူတို့သည်မယ်မယ်ကို ဥယျာဉ်ဝအထိလိုက်ပို့ပြီ နောက်စားပွဲများကို ရှင်းလင်းခိုင်းလိုက်ကြလေ၏။

"ဒီအတိုင်းထားပါ၊ ရပါတယ်။ ကဲ ကဗျာစပ်ကြမယ်။ အလယ်ကောင်က စားပွဲကြီးပေါ်ကို အရက်ချိုနဲ့ စားစရာပန်းကန်တွေ တင်ထားလိုက်ကြ။ နေရာလဲ ကိုယ်ကြိုက်တဲ့နေရာကို ကိုယ်ထိုင်ကြပေါ့။ အဲဒါက ပိုပြီးလွတ်လပ်ပါတယ်"ဟု ပေါက်ယုက ပြောလေ၏။

"ဟုတ်တယ်၊ အဲဒါပဲကောင်းတယ်"ဟု ပေါက်ကြည်ကပြော၏။

"ဒီပြင်လူတွေကိုလဲ မေးကြည့်ပါဦးလေ"ဟု ရှီစမ်းယဉ်ကပြောသည်။

ရှီစမ်းယဉ်သည် စားပွဲတစ်လုံးကိုအခင်းခိုင်းလိုက်ပြီးလျှင် မာလာ၊ ဇူချွန်း၊ စုချိ၊ တိုက်ရှု၊ ယုဟွာ၊ ယင်အဲနှင့် ဆွဲမိုတို့အတွက် ကဏန်းပေါင်းများကို အယူခိုင်းလိုက်လေ၏။ သူတို့အတွက် ကမူစောင်းကသစ်ရိပ်တွင် ကော်ဇောကြီး နှစ်ချပ်ခင်းပေးထားကာ စားစရာ၊ သောက်စရာ အပြည့်အစုံချပေးထားလေ၏။

ရှီစမ်းယဉ်က နံရံတော်ခုပေါ်တွင် ကဗျာစပ်ရမည့်အကြောင်းအရာများကို စာဖြင့်ရေး၍ ကပ်ထားလေ၏။ အားလုံး လာကြည့်ကြကာ သဘောကျနေကြလေ၏။

"ဒါမှ ကိုယ်ပိုင်တွေးထားတဲ့ အကြောင်းအရာပဲ။ ဒါပေမယ့် စပ်ရတာ နည်းနည်းတော့ခက်လိမ့်မည်ထင်တယ်"

ရှီစမ်းယဉ်အား ကာရန် သတ်မှတ်ချက် မထားကြောင်းကိုလည်း ရှင်းပြလေ၏။

ပေါက်ယုက

"ကောင်းတယ်၊ မောင်လဲ ကာရန်တွေပုံသေကားကျ ထားတာကို မကြိုက်ဘူး"





ထိုက်ယုသည် ကဏန်းပေါင်းများများမစားဘဲ အနည်းငယ်သာစားပြီးနောက် မိမိ၏အစေခံတော်တစ်ယောက်အား ပိုးပန်းချည်ထိုး မှိုအုံးတစ်လုံးကို အယူခိုင်းပြီးလျှင် ဝရံတာတွင်ထိုင်ကာ ငါးများနေလေ၏။ ပေါက်ကြည်မှာ ခွာညိုခက်ကလေးများနှင့်ကစားနေပြီး မြတင်းပေါက်မှ ကိုယ်တစ်ပိုင်းထွက်၍ ခွာညိုပွင့်ဖတ်လွှာကလေးများကို ငါးလေးများလာကိုက်ရန် ခြွေချလျက်ရှိလေ၏။ ရှီစမ်းယဉ်မှာ တွေးချင်ရာ တွေးရာမှ သတိရလာကာ ကမူစောင်းတွင်ရှိသည့် မာလာတို့တစ်သိုက်အား အစားအသောက်ကုန်လျှင် လာယူရန်ပြောလိုက်၏။ တန်ချွန်း လီဝမ်းနှင့်ဆီချွန်းတို့သည် မိုးမခပင်ရိပ်တွင်ရပ်ရင်း ရေငှက်များကိုကြည့်နေကြ၏။ ယင်ချွန်းမှာ အပွင့်တွေဝေနေသည့် ပန်းပင်ရိပ်တစ်ရိပ်တွင် ထိုင်နေရင်း စံပယ်ပွင့်ကလေးများကို ကုံးလျက် ရှိလေ၏။

အစတွင် ပေါက်ယုသည် ထိုက်ယု ငါးများနေသည်ကိုကြည့်နေသေးသော်လည်း နောက်တွင် ပေါက်ကြည်နှင့် သွားစကားပြော၏။ ထို့နောက် မာလာတို့တစ်သိုက်အနီးသို့ရောက်သွားကာ သူတို့နှင့်အတူ စားသောက်နေပြန်လေ၏။ မာလာသည် ပေါက်ယုအတွက် ကဏန်း တစ်ကောင်ကို အခွံသင်ပေးကာ အသားများကိုထုတ်ပေးနေ၏။

ထိုစဉ် ထိုက်ယုသည် ငါးများတံကိုချကာ စားပွဲဆီသို့ လျှောက်လာခဲ့ပြီး ဆီးတော်ပွင့်သဏ္ဌာန် ပန်းရုပ်ဖော်ထားသည့် ပြောင်လက်နေသော ငွေကရားတစ်လုံးနှင့် စွံပလွန်ရွက်ပုံ အနီရောင်ကျောက်အရက်ခွက်ကလေးကို ကောက်ကိုင်လိုက်သည်တွင် အစေတော် တစ်ယောက်သည် အရက်ငှဲ့ပေးရန် သူ့ဆီသို့ပြေးလာခဲ့၏။

"စားပါအေ။ ကိုယ့်ဘာသာကိုယ်ငှဲ့သောက်ပါ့မယ်။ တစ်ယောက်တည်း ဒီလိုသောက်ရမှ အရသာရှိတာ"

ထိုက်ယုသည် အရက်ချိုကိုငှဲ့လိုက်ရာ တစ်ဝက်လောက်အရောက်တွင် အရက်ချိုဝ ဖြစ်နေသည်ကိုတွေ့ရလေ၏။

"ကဏန်းနည်းနည်းပဲစားလိုက်တာ၊ ဒါတောင်မှ သိပ်ပြီးအစာမကြေချင်ဘူး။ တော်တော်အရက်ပြင်းပြင်းကို သောက်လိုက်ရမှ ကောင်းမှာ"ဟု ထိုက်ယုကပြော၏။

"သောက်ချင်ယင် ရှိတယ်လေ"

ပေါက်ယုကပြောကာ နန်းလုံးကြိုင်ပွင့်များစိမ်ထားသည့် အရက်အိုးစလေးတစ်အိုးကို အယူခိုင်းလိုက်လေ၏။

ထိုက်ယုသည် တစ်ကျိုက်သောက်ပြီးနောက် ခွက်ကို ပြန်ချထားလိုက်၏။ ပေါက်ကြည်သည်လည်း အနားသို့ ရောက်လာကာ တစ်ခွက် သောက်ပြီးနောက် စုတ်တံကိုမင်တို့ကာ 'ဂန္ဓမာပန်းကို အောက်မေ့သတိရခြင်း' ဆိုသည့်စာတန်းကို သင်ပုန်းပေါ်တွင် ရေးနေလေ၏။ ဘေးမှ 'ဂမုန်းသခင်'ဟုလည်း ကလောင်အမည်တပ်ထား၏။

"မလေး ပေါက်ကြည်။ မောင့်မှာ လေးကြောင်း စဉ်းစားထားပြီးပြီ။ အဲဒါကို မလေးမစပ်နဲ့တော့။ မောင်ပဲစပ်လိုက်တော့မယ်"

ပေါက်ကြည်က ပြောင်သလိုနောက်သလိုဖြင့်

"ဟင် သူများမှာ တစ်ကြောင်းပဲပြီးသေးတယ်။ မောင်ကမြန်လှချည်လား"

ထိုက်ယုက သူ့ထံမှစုတ်တံကို လှမ်းယူလိုက်ပြီးနောက် ဆွဲမျိုကို ကောက်ခြစ်လိုက်ပြီး နှစ်ဆယ်ပုဒ်မြောက်အပိုဒ်ဖြစ်သည့် 'ဂန္ဓမာပန်းကိုမေးခြင်း'နှင့် ဆယ့်တစ်ပုဒ်မြောက် အပိုက်ဖြစ်သည့် 'ဂန္ဓမာပန်းတို့၏အိပ်မက်' ဆိုသည့်အပိုဒ်တို့ကို ကောက်စပ်လိုက်၏။ ဘေးတွင်'ဝေဠုဝေ' ဟု ကလောင်အမည်တပ်လိုက်၏။ ပေါက်ယုက စုတ်တံကို ကောက်ကိုင်လိုက်ပြီးလျှင် 'ဂန္ဓမာပန်းထံ အလည်သွားခြင်း'ဆိုသည့် အပိုဒ်ကို စပ်ပြီးဘေးတွင် 'နီ'ဟု အမည်တပ်လိုက်၏။

တန်ချွန်းအာ လျှောက်ကြည့်ကာ

"အံ့မယ်၊ 'ဂန္ဓာပန်းကိုပန်ဆင်ခြင်း' ဆိုတဲ့အပုဒ်ကို ဘယ်သူမှ မစပ်သေးပါလား။ ဒီလိုဆိုယင် ကိုယ်တို့စပ်မယ်"

တန်ချွန်းသည် ပေါက်ယုကို လက်ညှိုးထောင်ပြလိုက်ကာ

"ကဗျာထဲမှာ အတွင်းဆောင်တွေအကြောင်းတို့ ထည့်မစပ်ရဘူးနော်။ အဲဒါ သတိထားကြ"





ရှီစမ်းယဉ်က နံပါတ်လေးနှင့်နံပါတ်ငါးကိုခြစ်လိုက်ပြီး "ဂန္ဓမာပန်းကို မျက်နှာမူခြင်း" နှင့် "ဂန္ဓမာပန်းကို အလှပြင်ခြင်း" စသည်တို့ကို ခြစ်လိုက်ပြီးနောက် ဘေးတွင် သူ့အမည်ကို ရေးလိုက်၏။

"ဟေ့၊ ကလောင်နာမည်ကိုရေးလေ"

"စမ်းယဉ်တို့အိမ်မှာ လေသာဆောင်တွေနဲ့ အဆောင်ကလေးတွေရှိပေမယ့် စမ်းယဉ်မှမသိသေးတာ။ ဒီတော့ ဘယ်မှာ ကလောင်နာမည်တပ်လို့ရဦးမှာလဲ။ သူများရဲ့ အဆောင်နာမည်ကိုလဲ မထည့်ချင်ပါဘူး"

ပေါက်ကြည်က

"ဟေ စောစောကပဲ မယ်မယ်ကပြောသွားသေးတယ်။ စမ်းယဉ်တို့အိမ်မှာ သက်တန့်ရောင် လေသာဆောင်ဆိုတာရှိတယ်ဆို။ ဒါ စမ်းယဉ်တို့အဆောင်ပေါ့ မဟုတ်ဘူးလား။ ခု သူများလက်ထဲ ရောက်နေပေမယ့် အလျင်တုန်းက စမ်းယဉ်တို့ ပိုင်ခဲ့ဘာပဲဟာ"

"ဟုတ်သားပဲ"ဟု ကျန်လူများကလည်း ထောက်ခံကြလေ၏။

ရှီစမ်းယဉ်က မည်သို့မျှမပြောရသေးမီ ပေါက်ယုက သူ့ကဗျာဘေးတွင် "သက်တန့်ရောင်" ဟု ရေးပေးလိုက်လေ၏။

ထမင်းဝိုင်းတစ်ဝိုင်း မသိမ်းမီ အချိန်လောက်အတွင်း၌ ကဗျာဆယ့်နှစ်ပုဒ်စလုံး စပ်၍ပြီးသွားလေပြီ။ ယင်ချွန်းက ထိုကဗျာများကို ဆွဲတောက်စာရေး ကြက်ဥလှလှကလေးပေါ်တွင်ကူးပေးလေ၏။ လီဝမ်းနှင့် အခြားသူများက ကဗျာများကို ဝိုင်းဖတ်ကြလေ၏။

### ဂန္ဓမာပန်းများကို အောက်မေ့ခြင်း

အနောက်လေတွင်၊ ငါလျှင်ပူဆွေး
သောကတေးဖြင့်၊ ဘေးပတ်လည်ကိုကြည့်မိ၏။
သစ်ဧရာဖြူလွှ၊ သော်ကနှင်းပန်း
အနန်းခတ္တာ၊ ပန်းတစ်ရာလည်း
ငါကဲ့သို့ပင် ပူဆွေးလျက်။

စည်းရိုးခြံဝ၊ တံခါးမဒွ
ဆောင်းနတ်မယ်လျ၊ ပဝါစကို
ရေးရေးမျှပင် မမြင်ရ။
သို့တစေလည်း (လဲ)၊ ငါ့စိတ်ထဲတွင်
ပင်လုံးဝေမျှ၊ ပန်းပွင့်လှကို မြင်မိသည်။
တောင်ဆီပျံသန်း၊ ဖော်မဲ့ငန်းသို့
မျက်ဝန်းဝေ့လည် သီတော့သည်။
နေညိုဆည်းဆာ ဖေါ်မပါဘဲ
တစ်ယောက်တည်း(ထဲ)လျှင်၊ ထိုင်နေစဉ်၌
ကျောက်ပျဉ်ကျောက်ချပ်၊ အဝတ်ဖွပ်ဆံ
ငါကြားပြန်၏။ ရွှေလျံပန်းဖွင့်
မျှော်လင့်နေသူ၊ စာဖွဲ့သူကို
မည်သူသနားပါမည်နည်း။ ။

ဂမုန်းသစင်

## ဂန္ဓမာပန်းများထံသို့ အလည်သွားခြင်း

နှင်းမှုန်ဝဲစ၊ ချမ်းမြမြတွင်
သောက်လျှင်ချိုရှ၊ ယမကာရည်
လက်ဖက်ရည်ဖြင့်၊ မျောလွင့်မနေ
ခြေဦးတည့်ရာ၊ လျှောက်သွားရာတွင်
ငှေဇာဖိတ်လက်၊ လရောင်ပြက်၌
ပွင့်လျက်ပန်းဝါ၊ မြင်ရပါသည်
ဘဇာဘယ်သူစိုက်သနည်း။
လှေကားလက်ရန်း၊ ခြံစောင်ရန်း၌
ပွင့်လန်းငုံဖူး၊ နွေဦးအလှ
ဤပန်းမြကို ဘယ်ခါ ဘယ်ကစိုက်သနည်း။

[illegible]



အဝေးဆီက၊ ဖယောင်းသုတ်ထား
ဖိနပ်များ၏၊ ပြေးလွှားဆော့ဟန်
အသံများကိုကြားမိသည်။
စာဆို့နှလုံး၊ ရှင်ကြည်ပြုံး၍
မဆုံးကဗျာသီမိသည်။
ပွင့်ဝါပန်းလျှင်၊ စာဆိုရှင်အား
သင်သနားမူ၊ ရွှေလမ်းခင်း၍ကြိုသင့်သည်။ ။

နီမောင်းပျော်ဖွယ်မင်းသား

## ဂန္ဓမာပန်းများကို စိုက်ပျိုးခြင်း

နွေနှောင်းရောက်လျှင်၊ လက်ဘွင်တူချွင်း
တစ်ဘက်ခြင်းနှင့်၊ အိမ်ဝင်းခြံဖျား
စည်းရိုးနားတွင်၊ ထိုပန်းပင်ကို
ငါလျှင်ရွှေ့ယူစိုက်ခဲ့သည်။

မနွေညက၊ မိုးတစ်မ,ကြောင့်
စိမ်းမြပန်းပင်၊ လန်းလန်းရွှင်၍
မနက်ခင်းတွင်၊ ပွင့်ချင်းဆိုင်၍
အပြိုင်ပွင့်ကြ၊ ပန်းဝါမြ။

နွေနှောင်းအလှ၊ ပန်းငုံလှတွက်
ချိုမြကဗျာ၊ ပုဒ်များစွာကို
ငါသီဆို၏။ ချိုအေးမွှေးပျံ့
သူ့ရနံ့ကို၊ စိမ်းဖန့်မြခွက်
ဝိုင်အရက်ဖြင့်၊ ငါမြည်းလျက်။ ။

နီမောင်းပျော်ဖွယ်မင်းသား

[illegible]

**သစ္စာပန်းများကိုမျက်နှာမူခြင်း**

တခြားမြေမှ၊ ရွှေဆက်ဖိုးထိုက်
ငါယူစိုက်သည့်၊ ယွန်းငိုက်ပန်းလှ
ဖြူလွှတစ်ခိုင်၊ ရင့်တစ်ခိုင်နှင့်
ယိုင်ကျလဲပြို၊ စည်းရိုးအိုတွင်
မွေးချိုသင်းပျံ့၊ သင့်ရနံ့သည်
ကမ္ဘာအနှံ့တိုင်သတည်း။
သင့်လောက်ဂုဏ်ပေါင်း၊ မရှိကြောင်းကို
ကောင်းစွာငါလျှင် သိပေ၏။
နွေယွန်းပေမာန်၊ ဆီးကျကျတွင်
ငါလျှင် သင့်ထံ မျက်နှာမူမိသည်။ ။

ဇာမြိတ်ခေါင်းအုံး၏ မိတ်ဆွေဟောင်းတစ်ဦး

**သစ္စာပန်းများကိုအလှခင်းကျင်းပြခြင်း**

ငွေပန်းအိုး၌၊ ထိုးစိုက်တင့်ဆန်း
သစ္စာပန်းသည်၊ နီမြန်းအရက်ချို
တေးနုပျိုနှင့် ပန်တင့်။
ဥယျာဉ်လမ်းမှ၊ ပက်ဖျန်းသည့်နှယ်
ရနံ့ကြွယ်သည်၊ နှင်းငွေရည်ဆမ်း
မွှေးကြိုင်လန်း။
စာအုပ်ကိုချ၊ အသာထ၍
ရှု့ဝတူရှု၊ မျက်နှာမူသည်
ငွေရည်တစ်ပြက်၊ နှင်းယွန်းရက်။
နှင်းမှုန်ပက်ဖျန်း၊ အိပ်မက်ပန်းလဲ
ဆန်းဆန်းထွေထွေ၊ ပွင့်ကြလေသည်
ငွေဇာမျှင်ပါး ခန်းဆီးကြား။

အားမာန်သစ်စာပေ



ဥယျာဉ်ဝမှ၊ ဆည်းဆာလှတွင်
ယာခင်လာဖူး၊ အချစ်ဦး။
သင်လည်းအတူ၊ ငါနှင့်ည်းတူပင်
အမြင်ချင်းထပ်၊ ဥာဏ်ချင်းအပ်၍
မြိုင်ရပ်သို့လာ၊ နွေချိန်ခါ၏
ပွင့်အာငုံလင့်၊ မက်မုံပွင့်နှင့်
ဆီးပွင့်ဝါဝါ၊ ပန်းမာလာကို
ငါလည်းမမက်၊ သင်မမက်။ ။

ဇာမြိတ်ခေါင်းအုံး၏ မိတ်ဆွေဟောင်းတစ်ဦး

**ဂန္ဓမာပန်းများကိုစာဖွဲ့ခြင်း**

နေ့ညမဟူ၊ လူ့ဝိညာဉ်မှာ
ကဗျာတစ္ဆေ ခြောက်လှန့်၏။
ခြံစည်းရိုးနား၊ ကျောက်ဆောင်ဖျားမှာ
အသာရပ်ရင်း၊ တေးချင်းညည်းဆို
စုတ်တံအိုဖြင့်၊ ကာရံချိန်ဆွဲ
တေးဖွဲ့ကြ၏။
လကိုမျှော်ကြည့်၊ အလွမ်းပိ၍
မချိနှလုံး၊ မပြုံးမရွှင်
တေးပဥ္စင်ကို သံလွင်ချိုမြ
တေးသီကြ၏။
ဝမ်းပါးစိတ်ငယ်၊ အလွမ်းသယ်လျက်
စက္ကူထက်တွင်၊ အက္ခရာတင်ကြ
သို့စင်လျက်လည်း၊ နွေဥင်သာမေ
အလှတောကို၊ လှမ်းမော့အောင်ပင်
စာဆိုရှင်တို့၊ ဖွဲ့ဖို့ပိုင်ပိုင်
မတတ်နိုင်ခဲ့။

အားမာန်သစ်စာပေ

တန်ခေတ်ကဗျာရှင်၊ တန်ယုံမင်က
ဖွဲ့သီဆိုပြ၊ ထိုနောက်မှလျှင်
လန်းရွှင်ဆန်းတင့်၊ ထိုပန်းပွင့်၏
သခင့်အလှ၊ ထိုအလှက
အားလုံးဖွဲ့ကြ၊ နတ်ပန်းမြ။ ။

ဝေဠုဝတီမင်းသမီး

## ဂန္ဓမာပန်းများကိုပန်ချီရေးခြင်း

ကဗျာဖွဲ့ပြီး၊ ရှုမငြီးဖွယ်
ပန်းချီခြယ်ရန်၊ စုတ်တံကိုကောက်
ကောက်ကြောင်းဆွဲကာ၊ အပြာအနီ
ဟိုသည်ရေးခြစ်နေမိ၏။
မငဲစက်ရာထောင်၊ မှောင်ပိန်းတစ်ဝက်
သစ်ရွက်စိမ်းများ ဖြစ်လာကြ။
ပန်းပွင့်ငိုက်ယွန်း၊ နှင်းစက်စွန်းလျက်
လေညင်းပွေ့ဖက်၊ နှုတ်ဆက်သွားသော်
တစ်ဝက်အလင်း၊ ဝင်းခနဲပြက်
တစ်ဝက်အမှောင်၊ ပြိုကျယောင်သို့
ကလောင်တံအို၊ စုတ်တံအိုကြောင့်
နွေပျို့မွေးပျံ့လာသယောင်။
ထိုပန်းများအား၊ စည်းရိုးနားမှ
အပြေးအလွှား၊ ကောက်ယူလာခြင်း
အလျှင်းမဟုတ်။
ပွဲတော်နေ့တွင်၊ ဆင်ယင်ဖို့သာ
ပိတ်ကားပေါ်မှာ၊ ငါရေးပါ၏။ ။

သဇင်မြိုင်သခင်မ





## ဂန္ဓမာပန်းများကို မေးခွန်းထုတ်ခြင်း

နွေနှောင်းအကြောင်း၊ သောင်းပြောင်းပေါင်းချုပ်
ပုစ္ဆာထုတ်လည်း၊ ဆုပ်ဆုပ်ကိုင်ကိုင်
မဖြေနိုင်ကြ၊ နှမ်းလျှတွေးတော
စိတ်မောမောဖြင့်၊ ဝါးတောအဖျား
စည်းရိုးနားသို့၊ လျှောက်သွားခဲ့မိ။

အရည်ကင်း၊ ခူတင်ဆောက်တည်
တောပျော်မှီသည့်၊ မောမောဝိနှယ်
သင်စံပယ်သည်၊ အိုဘယ့်တင့်ဆန်း
သစ္စာပန်း။

ပန်းဟူသမျှ၊ ပွင့်ကြရ၏
ဘဇာ့ကြောင့်လျှင်၊ သင်သည်နောက်ကျ
ပွင့်ရသနည်း။
နှင်းဆွတ်ဥယျာဉ်၊ ရင်ပြင်အလှ
နှင်းခဲမြဉ္ဇ၊ ဖြူလွရောင်ဝါ
သင့်ခြုံလွှာနှင့်၊ ဖူးကာပွင့်သည်
သင့်မှာသာလျှင်၊ တစ်ပွင့်တည်း။

ပုရစ်ဆူညံ၊ ငွေငန်းပျံလျှင်
အသင် နှလုံးပူဆွေးသေသလော။

ဤလောကဥ်၊ စကားပြောဖက်
အရှာခက်ဟု၊ မပြောရက်ပါလေနှင့်။

သင့်စကားကို ငါနားကြား၍
ငါ့စကားကို၊ သင်ကြားလိုမူ
အတူနှစ်ယောက် ပြောကြအံ့။

ဝေဠုဝတီ မင်းသမီး

## ဂန္ဓမာပန်းများကို ဆင်မြန်းခြင်း

ခြံစည်းရိုးတွင်၊ နေ့စဉ်စိုက်ပျိုး
ပန်းအိုးထိုးလျက်၊ သူ့ခေါင်းထက်တွင်
မပန်ဆင်ရက်၊ နှမြောလျက်ဖြင့်
ဆယ်ကျော်သက်လျှင်၊ ကျန်အန်းသခင်သည်
ပန်းပွင့်များတွင် ချစ်နေ၏။
ရင်မင်းဆက်ခေတ်တွင်၊ စာဆိုရှင်လျှင်
ချိုချဉ်ခါးသက် ဝိုင်အရက်ကို
ခုံမင်ရှိုက်မက်၊ သူနှစ်သက်သို့။
သူ့ဆံစတွင်၊ နှင်းမြစိုရွှဲ
ပိုးဖဲဦးထုပ်၊ နှင်းရည်သုတ်လျက်။
အထီးကျန်စာဆို၊ သူရူးလိုဟု
ဆိုဖွဲ့စကား၊ ကဲ့ရဲ့သွား၍
လက်ခုပ်လက်ဝါး၊ တီးကြငြားလည်း
ငါကားမမှု၊ ပြုလိုကြရာ
ပြုကြပါစေ၊ တိတ်ဆိတ်နေအံ့။

ငှက်ပျောပင်အောက်ကညော့်သည်

## ဂန္ဓမာပန်း၏အရိပ်

လှပတင့်တယ်၊ ငွေနှတ်မယ်၏
မှုန်ပြယ်အရိပ်၊ တောင်ထိပ်လမ်းမှာ
လူးလာလျှောက်လည် နေချိန်၌။
ပြတင်းစမှ၊ လျှံကျမီးရောင်
ညအခမှာင်တွင်၊ အရိပ်အမှောင်
ဖြာနေဆဲ။

အားမာန်သစ်စာပေ



ဇာမျင်ရက်သို့၊ ကြိမ်ကွက်ကြားမှ
စိမ်းပြက်လရောင် ထိုးကျလာနေ၏။
ဤလရောင်တွင်၊ မွှေးပျံ့ဝိညာဉ်
အရိပ်ထင်၏။
ခြေကိုဖော့ကာ၊ အသာနင်းပြီး
ပန်းခင်းမှေးမှိတ်၊ ထိုအရိပ်ကို
ပွေ့သိပ် ဂရုစိုက်ပါလေ။

ဇာမြိတ်ခေါင်းအုံး၏ မိတ်ဆွေတစ်ဦး

## ဂန္ဓမာပန်းများ၏ အိပ်မက်

နွေဦးလှ၍၊ တိမ်နုဇာပြောက်
လရောင်ဖောက်စဉ်၊ နှင်းသောက်စည်းရိုး
အမိုးသစ်ရိပ်၊ ငါမှေးမှိတ်၏။
ရှေးစာဆိုရှင်၊ ချောင်ဇူယင်၏
ပျော်ရွှင်စရာ၊ လိပ်ပြာအိပ်မက်
ငါမမက်ချင်။
အိပ်မက်ဆဲ၌၊ ဖက်လှဲတကင်း
သူငယ်ချင်းများ၊ တွေ့ဆုံကြ။
ငန်းပျံ့သည့်နှယ်၊၊ အိပ်မက်ပြယ်သော်
ကျီကျာအော်ဟစ်၊ ထိုပရစ်ကို
ရန်ငြိုးသိုမိ။
အိပ်နိုးထတွင်၊ လွမ်းတ ပူဆွေး
အချစ်ရေးကို၊ မည့်သူ့ကိုလျှင်
ဖွင့်ပြောရပါမည်နည်း။ ။

ဝေဠုဝတီ မင်းသမီး

အားမာန်သစ်စာပေ

ညှိုးရော်သွားသောဂန္ဓမာပန်း

ဆောင်းဦးစတွင်၊ နှင်းသောက်ရှင်လည်း
ကြာလျှင်နှင်းပွင့်၊ မိုးစက်ပွင့်ကြောင့်
သခင့်ပန်းသည် ရော်ခဲ့ပြီ။
ပန်းပွင့်ချပ်လွှာ၊ ညှိုးရော်ပါလည်း
ကြည်သာသင်းပျံ့၊ ထိုရနံ့သည်
နှင်းနံ့မပြယ် ရှိချေသေး။
သစ်ရွက်စိမ်းမြ၊ ညှာတံမှလျှင်
ညှိုးလျှသွေ့ ရော်နေလေပြီ။
ရိုးတံသွေ့ခြောက်၊ သစ်ကိုင်းအောက်မှာ
ကျီကျာတေးသီ၊ ပုရစ်မြည်လျက်။
ဖြူဆွတ်နှင်းခဲ၊ တိမ်တိုက်ထဲတွင်
နေရိုင်းဝဲပျံ့၊ လူးလာဆန့်လျက်။
ယခုခွဲခွာ၊ နေကြပါလည်း
နောင်ခါရွှေ့နှစ်၊ တစ်ဆောင်းသစ်လျှင်
ငါနှင့်သင်တို့၊ တွေ့ဦးစို့။ ။

ငှက်ပျောပင်အောက်ကညှော့သည်

သူတို့သည် တစ်ယောက်ကဗျာကိုတစ်ယောက်ဖတ်ပြီးတစ်ယောက်ကို တစ်ယောက် ချီးမွမ်းလျက်ရှိလေ၏။

လီဝမ်းက ပြုံးလျက်

"ကဲ၊ ဘယ်သူ့ကိုမှ မျက်နှာမလိုက်ဘဲ အမှတ်ပေးရမယ်။ ကဗျာတိုင်းမှာ ထူးခြားတဲ့အပိုဒ်တွေတော့ပါတာချည်းပါပဲ။ ဒါပေမယ့် ဘက်မလိုက်ဘဲပြောရမယ်ဆိုယင်တော့ 'ဂန္ဓမာပန်းကို ကဗျာဖွဲ့ခြင်း'ကို ပထမပေးမယ်။ 'ဂန္ဓမာပန်းကို မေးမြန်းခြင်း'ကို ဒုတိယ၊ 'ဂန္ဓမာပန်းကို အိပ်မက်မက်ခြင်း'ကို တတိယ။ သူတို့သုံးပုဒ်စလုံးဟာ အာဘွားအခေါ်မှာရော၊ ဟန်မှာရော၊ အကြောင်း အရာမှာရော ကိုယ်ပိုင် ရှိတယ်။ ဒါ့ကြောင့်





ဝေဠုဝတီမင်းသမီးကို ပထမဆုပေးရမယ်။ နောက်အစဉ်အလိုက်အမှတ်ရတဲ့ကဗျာတွေကတော့ 'ဂန္ဓမာပန်းကိုပန်ဆင်ခြင်း'ရယ်၊ 'ဂန္ဓမာပန်းကိုမျက်နှာမူခြင်း'ရယ်၊ 'ဂန္ဓမာပန်းကိုအလှပြင်ခြင်း'ရယ်၊ 'ဂန္ဓမာပန်းများကိုပန်းချီရေးခြင်း'ရယ်နဲ့ နောက်ဆုံးကတော့ 'ဂန္ဓမာပန်းကိုတွေးတောခြင်း' တို့ဖြစ်တယ်"

ပေါက်ယုက လက်ခုပ်တီးကာ

"ဟုတ်တယ်၊ မှန်တယ်၊ တရားတယ်"

"မလေးရဲ့ကဗျာက ဗီလောက် မကောင်းလှပါဘူး၊ အတင်းဖျစ်ညှစ်စပ်ရတာမျိုးဖြစ်နေတယ်"ဟု ထိုက်ယုက ပြောလေ၏။

"ဒါပေမယ့် ပြေတယ်၊ မထောင့်ဘူး၊ စကားအပိုတွေ မပါဘူး"

'ထိုက်ယုအထင်တော့ အကောင်းဆုံး စာကြောင်းက 'ဥယျာဉ်အေးမြ၊ ဆည်းဆာလှ၌၊ ရှေးက တစ်လည်၊ ရောက်ဖူးသည်ကို၊ မပီဝိုးဝါး၊ အမှတ်မှားခဲ့'ဆိုတဲ့ စာပုဒ်လို့ ထင်တာပဲ။ ပြီးတော့ 'ထိုခဏတွင်၊ စာအုပ်ကိုချ၊ မတ်တတ်ထ၍၊ မိုးဝတစ်ဝိုက်၊ မျှော်စင်ကြိုက်တွင်၊ တစ်ပြိုက်နှစ်ပြိုက်၊ ဖျန်းပက်လိုက်သည့်၊ ဆောင်း၌ပေါ်စ၊ နတ်ပန်းမြကို' ဆိုတဲ့စကားအပိုဒ်ကတော့ ဆောင်းရိပ်ကလေးလဲ့လဲ့ပြေးလာတာနဲ့ ဂန္ဓမာတွေ ပွင့်စပြုလာတာကလေးကို ရေးပြထားတာပဲ"

'ကောင်းပါတယ်၊ မလေးရဲ့ကဗျာက အသံကချိုနေတာပဲ"

တန်ချွန်းက

"အံမယ်လေး၊ သူများ ကဗျာကိုချည်း ဝိုင်းပြီး ချီးကျူးခန်းဖွင့်မနေကြပါနဲ့ဦး။ ဒီက ကဗျာကိုလဲ နားထောင် ကြည့် စမ်း ပါ ဦး။ 'ဆောင်းရိပ်မထင်၊ နေ့အဝင်၌' ဆိုတဲ့အပိုဒ်ရယ်၊ ပြီးတော့ 'အိပ်မက်ယောင်ယမ်း၊ အလွမ်းနာကျ၊ ထိုပန်းလှကြောင့်' ဆိုတဲ့ စကားအပိုဒ်ကိုရော"

ပေါက်ကြည်က ပြုံးလိုက်ကာ

"ကောင်းပါတယ်။ ကိုယ်ကတော့ 'ကေသာထက်တွင်၊ နှင်းစက်ရှင်၍'ဆိုတဲ့အပိုဒ်က 'မွှေးနံ့သစ်သစ်၊ ထိုဦးရစ်ဝှင်' ဆိုတဲ့စကားနဲ့လိုက်ပါတယ်"

ရှိစမ်းယဉ်ကာ ခပ်မြူးမြူးဖြင့်

"'ဘယ်တွက်ဖူးငုံ၊ နှောင်းသနည်း' ဆိုတဲ့ အမေးပိုဒ်တွေ၊ 'ဘယ်တွင်ကျောင်းရိပ်ခိုသနည်း' ဆိုတဲ့ အမေးအပိုဒ်တွေက ပန်းကို ထုံထိုင်းသွားစေတတ်တယ်"

လီဝမ်းက

"ဟုတ်ပါသတဲ့ရှင်၊ ရှင့်ကဗျာထဲကလို နှင်းဘောကြီးထဲမှာ ဒူးပိုက်ထိုင်ရင်း ပန်းတွေက ကဗျာတွေကို ရွတ်နေလို့ကတော့ ပန်းတွေမှာ အာရုံကြောတွေရယ်လို့ရှိခဲ့ယင် ရူးတောင်ကုန်လိမ့်ဦးမယ်" ဟု ပြောသဖြင့် ဝါးခနဲပွဲကျသွားလေ၏။

"ကဲ ဒီတော့ ဒီတစ်ခါလဲ မောင်နောက်ဆုံးဖြစ်ပြန်ပြီ"

"မောင့်ကဗျာတွေလဲ သိပ်တော့ မဆိုးပါလှဘူး။ တခြားကဗျာတွေသောက် ထူးထူးခြားခြားမရှိဘာဘာစ်ခုပါပဲ" ဟု လီဝမ်းက ပြော၏။

ကဗျာအကြောင်းကို ပြောဆိုကြပြီးနောက် ကဏန်းပေါင်းများကို အယူခိုင်းကာ နောက်တစ်ကြိမ်စားကြပြန်သည်။ ပေါက်ယုက

"ခုဟာ မောင်တို့ဟာ ခွာညိုနံ့တွေကိုရှူပြီး ကဏန်းတွေကို စားနေကြတော့ သူတို့အကြောင်းကိုလဲ ကဗျာပပ်လို့ မကောင်းပေဘူးလား၊ ဟောဒီမှာ ကျွန်တော်တစ်ပုဒ်ပပ်ထားတယ်" ဟုဆိုကာ ရွတ်ပြလေ၏။

ကဏန်းစားခြင်း

ခွာညိုရိပ်တွင်၊ ကဏန်းသင်၍
ဖဲ့ထွင်စားရ၊ ပျော်ပါလှ။
လက်မခြေချောင်း၊ ငရုတ်ကောင်းနှင့်
ချင်းထေစင်းချဉ်ငန်၊ တို့ကြဟန်ရှင့်။
စားမြိန်ကြိုက်သူ၊ အရက်ကူလေ့။
ကားရားကားရား၊ ဘေးတိုက်သွားသည်
ကဏန်းကောင်များ၊ နှလုံးသားမရှိ။





လောဘတန်းလန်း၊ အာသာဖမ်း၍
အငမ်းမရ၊ စားသောက်ကြလည်း
လေထအစာမကြေ၊ ဖြစ်တတ်ပေရှင့်။
ပါးစပ်လက်များ၊ ဆေးပြီးသွားလည်း
အညှီနံ့များ၊ ပျောက်မသွား။

"ဒါ ကဗျာတဲ့လား။ ဒါမျိုးကတော့ အပိုဒ် တစ်ရာလောက်တစ်ထိုင်တည်းနဲ့ ရေးနိုင်တာပေါ့" ဟု ထိုက်ယုက စနေသ၏။

"မလေးရဲ့ ကဗျာဉာဏ်တွေ မကုန်သေးဘူး မဟုတ်လား။ ဒီလိုဆိုယင် တစ်ပုဒ်စပ်ကြည့်လေ"

ထိုက်ယုသည် မည်သို့မျှမပြောတော့ဘဲ စုတ်တံကို ကောက်ကိုင်ကာ ကဗျာတစ်ပုဒ်ကို ချောက်စပ်လိုက်၏။

သေသည့်တိုင်အောင်၊ ကဏန်းကောင်သည်
တောက်ပြောင်အင်္ကျီ၊ ဝတ်ရုံနီနှင့်
သံကြပ်အင်္ကျီ၊ လှံတံရှည်ကို
တည်တည်ကြည်ကြည်စွဲကိုင်ထား။
ပန်းကန်ပြားတွင်၊ ကားကားစွင့်စွင့်
ဣန္ဒြေနှင့်။
လက်မကြားတွင်၊ ကျောက်စိမ်းဆင်သို့
မျှင်မျှင်အသား၊ သူညှပ်ထား။
ခြေထောက်ရှစ်ချောင်း၊ စွယ်ငေါင်းငေါင်းကို
ပေါင်း၍ပြုတ်၍၊ တို့ကာစား။
သို့တိုင်အောင်ပင်၊ ငါ့ရင်ထဲက
ဆွေးသမျှတို့၊ ပျောက်ရလေအောင်
တစ်ထောင်သောခွက်၊ ထိုအရက်ကို
သောက်လျက်ပင်လေ၊ ရှိပါစေဟု
မည်သူတွေ့လျှင် ပြောမည်နည်း။

ပေါက်ယုကဖတ်ကြည့်ပြီး ချီးမွမ်းနေစဉ် ထိုက်ယုက ဆုတ်ပစ်လိုက်ပြီး အမေတော်တစ်ယောက်ကို မီးရှို့ခိုင်းလိုက်လေ၏။

ထိုနောက် ပြုံးလျက်

"မလေးကဗျာက မောင့်ကဗျာလောက် မကောင်းပါဘူး၊ ဒါကြောင့် မီးရှို့ ခိုင်းလိုက်တာပါ။ ခုကဗျာက မောင့်ရဲ့ဂန္ဓမာပန်းကဗျာထက်ဘောင်ကောင်းသေးတယ်။ အဲဒီကဗျာလေးကိုသိမ်းထားပါ၊တခြားလူတွေကို ပြရတာပေါ့"

"ပေါက်ကြည်လဲစပ်ထားတယ်။ သိပ်တော့ မကောင်းဘူးနော်၊ မရယ်ကြနဲ့"ဟုဆိုကာ ပေါက်ကြည်က

ခွာညိုရိပ်အောက်၊ ခွက်ကိုမြှောက်၍
သောက်မည်ဟုပင်၊ ထိုင်စဉ်တွင်၌
ကဏန်းကောင်လျှင်၊ ဦးထောင်ပဲ့မြုပ်
လူ့ဇာတ်ရှုပ်သို့၊ ကုပ်ကပ်တက်လာ
ကြည့်လိုက်ပါသော်၊ အဝါဖြူကျား
ကားရရားဖြင့်၊ ရေးထားသည့်နှယ်
ပန်းရုပ်ငယ်။

သူတို့အားလုံးက ပေါက်ကြည်၏ကဗျာကိုဝိုင်းဖတ်ကြပြီး ချီးမွမ်းကြ၏။

"ကောင်းတယ်၊ ဒါပေမယ့် မောင့်ကဗျာကိုတော့ ဖတ်ပြီးမီးရှို့ပစ်ရမယ်နော်"ဟုဆိုကာ ပေါက်ယုက သူ့ကဗျာကိုဖတ်ပြပြန်၏။

ကဏန်းညှပ်ကို၊ ယစ်ရှေ့ရည်လည်း
မဆေးနိုင်။
မွှေးကြိုင်သင်းပျံ့၊ ဂန္ဓမာနံ့သာ
ဆေးနိုင်ရာ၏။
ဝမ်းမပျက်လို့၊ ချင်းချိုကိုထောင်း
ငရုတ်ကောင်းနှင့်၊ အပေါင်းသဟာ
စားကြရာ၏။





"ကဏန်းပေါင်းစားတဲ့ ကိစ္စမျိုးကလေးကို ဒီလိုကဗျာဖွဲ့နိုင်တယ်ဆိုတာ နည်းတဲ့အရည်အချင်းလား။ ဒါပေမယ့် သရော်စာအဖြစ်နဲ့ကြည့်ယင်တော့ လောကကြီးကို လှောင်ပြောင်လွန်းရာ မရောက်ပေဘူးလား"

ထိုစဉ် သူတို့ထံသို့ ပင်အဲ ပြန်ရောက်လာသည့်အတွက် စကားပြတ်သွားကြလေ၏။ အဘယ့်ကြောင့် ပင်အဲပြန်လာကြောင်းကိုသိလိုလျှင် နောက်တစ်ခန်းကို ဖတ်ပါလေ။

## အခန်း ၃၉

ကျေးတောသူအဘွားအိုကြီးက ယုံတမ်းပုံပြင်များကို ပြောဆိုခြင်း။
စိတ်ကူးယဉ်သောလုလင်ပျိုသည် ထိုပုံပြင်များကို အဟုတ်ထင်ခြင်း။

"ဟဲ့၊ နင်တို့ သခင်မလေးငှက်မယ် ဘာလုပ်နေသလဲ၊ သူဘာ့ဖြစ်လို့ ပြန်မလာတာလဲ"

ပင်အဲပြန်ရောက်လာသည့်အခါတွင် အားလုံးက မေးကြသည်။

ပင်အဲက ပြုံးလိုက်လျက်

"သခင်မလေး ငှက်မယ်က သိပ်အလုပ်များနေတယ်၊ ဒီမှာတုန်းကလဲ ကောင်းကောင်းစားချိန်မရဘူး၊ အလုပ်လဲများနေလို့နောက်ထပ်လဲမလာနိုင်တော့ဘူးတဲ့။ ဒါကြောင့် ကဏန်းပေါင်းကျန်သေးယင် ပေးလိုက်စမ်းပါတဲ့၊ အယူခိုင်းလိုက်လို့"

"အံမယ်လေး၊ ရပါတယ်။ အများကြီးပါ"ဟု ရှိစမ်းယဉ်က ပြော၏။ ရှိစမ်းယဉ်သည် ကဏန်းပေါင်းဆယ့်ကောင်ကို အယူခိုင်းလိုက်လေ၏။





"အမတွေကို ရွေးပေးလိုက်နော်"

ပင်အဲကို အထိုင်ခိုင်းသော်လည်း ပင်အဲက မထိုင်ချေ။

"သွားပါဟဲ့၊ ထိုင်ပါ"ဟု လီဝမ်းကပြောကာ သူ့ဘေးကနေရာလွတ်တွင် အထိုင်ခိုင်းပြီးနောက် အရက်ချိုကို ငှဲ့ပေးလေ၏။ ပင်အဲသည် မပ်သုတ်သုတ်သောက်ပြီးနောက် ထိုင်ခုမှထလိုက်လျက် ပြန်ရန် ပြင်၏။

"နေပါဦး၊ မသွားပါနဲ့ဦး။ ညညးကလဲ ညည်းသခင်မ ငှက်မယ်လောက်ပဲ လူစာရင်းထဲသွင်းတယ်ထင်ပါရဲ့။ တို့ပြောတာဆိုယင် ဂရုကို မစိုက်ဘူး"

လီဝမ်းသည် ကဏန်းပေါင်းများကို ခြင်းထဲထည့်၍ အစေတော်အဘွားကြီးတစ်ယောက်အား အပို့ခိုင်းလိုက်ပြီးလျှင် ပင်အဲအား ခေါ်ထားလိုက်ကြောင်း နယ်ငှက်မယ်အား ပြောရန်မှာလိုက်လေ၏။

ခဏကြာလျှင် သွားပို့သည့်အစေတော်လည်း ခြင်းလွတ်တစ်လုံးကိုကိုင်၍ ပြန်ရောက်လာ၏။

"သခင်မလေး ငှက်မယ်က ပြောလိုက်တယ်ရှင့်၊ သူ့ဆလာဘကြီးတယ်ဆိုပြီး အဘင်းပြောမနေနဲ့တဲ့။ သခင်မကြီးဝမ်ကလဲ သစ်ကြားသီးမုန့်နဲ့ကြက်ဆီမုန့်တွေပေးလိုက်တယ်တဲ့၊ ပြီးတော့ ပင်အဲကိုလဲ မှာလိုက်တယ်၊ ဒီရောက်ယင် ပင်အဲတော်တော်နဲ့ပြန်လာမှာမဟုတ်ဘူးဆိုတာ သူသိတယ်တဲ့။ ဒါပေမယ့် အရက်ချိုတွေကို သိပ်မူးအောင် သောက်မလာနဲ့လို့မှာလိုက်တယ်"

ပင်အဲက နောက်ထပ်အရက်ချိုတစ်ခွက်ကို မော့လိုက်ပြီး ကဏန်းပေါင်းတစ်ဖွဲ့ကို ယူစားလိုက်ရင်း

"အံမယ်လေး၊ မူးတော့တာဖြစ်တာလိုက်လို့"

လီဝမ်းက ပင်အဲ၏လက်မောင်းကိုကိုင်လိုက်လျက်

"ပင်အဲဘမှ ချစ်စရာကောင်းတာ။ တကယ်တော့ ညည်းက အစေတော်ဖြစ်ဖို့မကောင်းဘူး။ ညည်းကြည့်လိုက်ယင် မသိတဲ့လူတွေကတော့ သခင်မလို့ပဲအောက်မေ့မှာ"

ပင်အဲက ပေါက်ကြည်၊ စမ်းယဉ် စသူတို့နှင့်စားသောက်နေရင်းမှ နောက်သို့ပြန်လှည့်ကြည့်လိုက်ရင်း

"မလေး ကျွန်မကို ဒီလောက်လဲမြှောက်မနေနဲ့။ ကြည့်ပါလား၊ ခါးကိုလဲ ကလိထိုးနေပြန်ပြီ"

"ဟဲ့ ညည်းခါးထဲက မာမာကြီးတွေက ဘာတွေလဲ"

"သော့တွေပါ"

"ညည်းသော့ကြီးတွေကို သွားလေရာဘကိုင်ကိုင်နဲ့။အိမ်မှာ ဘာတွေများခိုးရာရှိလို့လဲ။ ငါ့ခဏခဏပြောဖူးသလိုပဲ၊ တန်မင်းဆက်ခေတ်က ရှင်ဘြိပိဋ္ဋက ပိဋ္ဋကသုံးပုံကိုသွားရှာတော့ နတ်မြင်းဖြူကြီး ရသတဲ့။ ဟန်မင်းဆက်ခေတ်က စစ်သူကြီးလူချိယွမ် စစ်တိုက်သွားတော့ ဖရဲခင်းစောင့်နတ်က သံချပ်အင်္ကျီကြီးကိုထုတ်ပေးလိုက်သတဲ့။ ခုငှက်မယ်မှာလဲ ညည်းကိုလက်ကိုင်ရထားတာတစ်အားပါပဲ။ ညည်းကသူ့အတွက် အစစအရာရာ သော့ကြီးတစ်ချောင်းလို ဖြစ်နေပြီပဲ။ဒီသော့တွေ ဘာလိုသေးသလဲ"

ပင်အဲက ရယ်လိုက်ရင်း

"မလေးက ကျွန်မကို အရက်ချိုလေးတစ်ခွက် တိုက်ပြီး လှော်တယ်ပေါ့"

ပေါက်ကြည်က ကြားဖြတ်၍

"ဟုတ်တယ်၊ တကယ်ပြောတာ။မလေးတို့တစ်တွေအတင်းအဖျင်း ပြောတာက တစ်ပိုင်းပေါ့လေ။ ဒါပေမယ့် ဒီစံအိမ်က အစေတော်တွေဟာ တစ်ရာမှာတစ်ယောက်ဆိုသလို ရှာမှရှားတယ်ဆိုတာကတော့ အားလုံးသဘောတူတယ်။ ပိုပြီးအံ့သြစရာကောင်းတာက ပင်အဲတို့လို အစေတော်တွေမှာ တစ်ယောက်ကို တစ်ခုကောင်းဆော့ရှိကြတာချည်းပဲ"

လီဝမ်းက

"ဘယ်အရာမှာပဲ ဖြစ်ဖြစ် ဘုရားက အဆင်ပြေအောင် တော့ ဖန်ဆင်းပေးတော်မူခဲ့တာပဲ။ဥပမာ မယ်မယ်ကိုကြည့်ပါလား၊မယ်မယ့်မှာ အစေခံယုန်ယွမ်းမရှိယင် ဘယ့်နှယ်လုပ်မလဲ၊ မယ်မယ်ကို ဘယ်သူမှ လွန်ဆန်ရဲကြတာ မဟုတ်ဘူး။ ဒေါ်လေးဝမ်တောင် ပြန်ပြောရဲတာ မဟုတ်ဘူး။ ဒါပေမယ့် ယုန်ယွမ်း ပြောကြည့်ပါလား၊ အဘွားကြီးက ဘာမှပြန်မပြောဘူး။ သူ့စကားကိုနားထောင်တယ်။ မယ်မယ့်မှာ လက်





ဝတ်ရတနာတွေ၊ အဝတ်အစားတွေ ဘယ်လောက်ရှိမှန်း ဘယ်သူမှ မသိဘူး။ ဒါပေမယ့်ယုန်ယွမ် အကုန်သိတယ်။ တကယ်လို့သာ ယုန်ယွမ်းက မထိန်းသိမ်းယင် မယ်မယ်ဘယ်လောက်အလိမ်ခံနေရမလဲမသိဘူး။ဒါပေမယ့် ယုန်ယွမ်းဟာ မယ်မယ့်အပေါ်မှာ ဩဇာရှိတဲ့ အတွက် အခွင့်အ/ရေးယူသလားဆိုတော့၊ မယူဘူး။စိတ်ကောင်းသဘောကောင်းရှိတယ်။ ဲခြားလူတွေကိုလဲ ကူညီတတ်တယ်"

"ဟုတ်မှာပေါ့၊ မနေ့ကတင် မယ်မယ်က ပြောလိုက်သေးတယ်။ ယုန်ယွမ်းဟာ မလေးတို့တစ်တွေထက်တောင်သာသေးတယ်တဲ့" ဟုဆီချွန်းက ပြုံး၍ပြော၏။

ပင်အဲက

"ဟုတ်ပါတယ်၊ ယုန်ယွမ်းက တကယ်တော်ရှာပါတယ်။ ကျွန်မတို့တစ်တွေနဲ့တောင် မနိုင်းသင့်ပါဘူး"

"မေဖျားရဲ့ အဆောင်က အစေတော် ဆိုင်ရှလဲ ရိုးပါတယ်" ဟုပေါက်ယုကပြောလေ၏။

တန်ချွန်းက

"ရိုးပုံတော့ ကျပါတယ်၊ ရိုးပေမယ့် မအဘူး၊ မေဖျားကတော့ တာကိုမှ သိတာမဟုတ်ဘူး၊ အဲဒါ ဆိုင်ရှကပဲ အကုန်လုံးလုပ်ပေးရတာ။ မေဖျားရဲ့ အိမ်တွင်းအိမ်ပြင်ကိစ္စတွေကိုလဲ သူပဲလိုက်ပြီး ကြီးကြပ်ပေးရတာ။မေဖျားက မေ့နေယင်လဲ သူပဲ သတိပေးပြီး ဆော်သြနေရတာ"

လီဝမ်းက ပေါက်ယုကို လက်ညှိုးထိုးပြလျက်

"ဟုတ်တယ်၊ ဟောဒီ မောင်လေးပေါက်ယုရဲ့အဆောင်ကိုကြည့်ပါလား။ မာလာမရှိယင်ဘယ့်နှယ်နေမယ်ထင်သလဲ။ ပြီးတော့ ဟောဒီက ပင်အဲကိုကြည့်လိုက်ဦး။ သူတို့သခင်မ ငှက်မယ်က ဘယ်လောက်ပဲ အလုပ်လုပ်နိုင်တယ်ပြောပြော၊ ရှေးတုန်းက ချုဘုရင်လို အချိန်တစ်ထောင်ရှိတဲ့ ကြေးဒေါင်းလန်းကြီးကို မြှောက်နိုင်တယ်ပဲဆိုဆို၊ ပင်အဲမရှိလို့မဖြစ်ဘူး။ ပင်အဲရဲ့အကူအညီတော့ လိုသေးတာပဲ"

ပင်အဲက

"ကျွန်မတို့ မလေးငှက်မယ် အိမ်ထောင်ကျတော့ အစေတော် လေးယောက် ပါလာကြတယ်၊ ခုတော့ အဲဒီလေးယောက်မှာ ကျွန်မတစ်ယောက်ပဲကျန်တော့တယ်။ သေတဲ့လူသေ၊ ထွက်သွားတဲ့လူကထွက်သွား"

လီဝမ်းက

"ခုတော့ ညည်းအတွက်လဲကောင်း၊ မလေးငှက်မယ် အတွက်လဲ ကောင်းပါတယ်အေ။ ညည်းတို့သခင်လေး ဂျိုချူရှိတုန်းကဆိုယင် တို့မှာလဲ အစေတော်နှစ်ယောက် ရှိပါတယ်၊ ငါဆိုတာ မနာလိုတတ်တဲ့မိန်းမ မဟုတ်ပါဘူး။ ဒါပေမယ့် ငါကမနာလိုရဘူး၊ သူ့ဘို့နှစ်ယောက်က တစ်ယောက်နဲ့ တစ်ယောက် မနာလိုဖြစ်ပြီး နေ့တိုင်း ရန်ဖြစ်နေကြတာပဲ။ ဒါနဲ့ ညည်းတို့သခင်လေးလဲ ဆုံးရော ဒီကောင်မ နှစ်ယောက်ကို မြန်မြန်ယောကျ်ားပေးစားပြီး လွှတ်လိုက်ရတယ်၊ သူတို့သာဘော်ယင် ခုဆိုငါ့မှာလဲ အားကိုးရတဲ့ အစေခံလေးတာလေး ရှိတာပေါ့အေ၊ ခုတော့—"

"အံမယ်လေး၊ စိတ်ချရတဲ့သက်ရှိအစေခံရှိလို့ အားမငယ်ပါနဲ့၊ ခုမလေးလီဝမ်းလို နေရတာက ပိုကောင်းသေးတယ်" ဟု အခြားသူများက နှစ်သိမ့်ကြလေ၏။

သို့ဖြင့် သူတို့သည် လက်ဆေးပြီးနောက် မယ်မယ်နှင့် သခင်မဝမ်ကိုကန်တော့ရန် ထွက်လာခဲ့ကြလေ၏။ အခြားအစေတော်များက စားပွဲများကိုသိမ်းကာ နေရာကို ရှင်းလင်းလျက်ရှိစဉ် မာလာသည် ပင်အဲကို သူ့အခန်းသို့ ခေါ်လာခဲ့လေ၏။ အခန်းသို့ရောက်လျှင် မာလာက

"ဟဲ့ နေစမ်းပါဦး ပင်အဲရဲ့၊ ဒီလမှာ အစေတော်တွေဘာဖြစ်လို့ ခုထက်ထိ လစာမရကြသေးတာတဲ့လဲဟင်"

ပင်အဲက လေသံတလေးဖြင့်

"ထုတ်ပေးတော့မှာပါ၊ သိပ်မကြာခင်တော့ပါဘူး။ တစ်ရက်နှစ်ရက်လောက် နေယင် ရမှာပါ၊ သခင်မလေးငှက်မယ်က လစာကို စောစောစီးစီးထုတ်ပြီးပြီ၊ ဒါပေမယ့် အဲဒီငွေတွေကို အပြင်ဘက်ကိုအတိုးနဲ့ ထုတ်ချေးထားလို့။ အတိုးတွေပြန်ရယင် လစာတွေကို ထုတ်ပေးတော့မှာပါ။ ဘယ်သူမှ သွားမပြောနဲ့နော် မာလာ"





"နေစမ်းပါဦးအေ၊ သူက အပြင်မှာငွေတိုးချစားရအောင် သူ့မှာပိုက်ဆံလိုလို့သလား။ ဘာဖြစ်လို့ဒုက္ခရှာပြီးငွေတိုးချေးစားနေတာတဲ့လဲ"

ပင်အဲက ပြုံးလိုက်ကာ

"သူ့လစာရော၊ အစေတော်တွေအားလုံးရဲ့လစာရော အပြင်ကို အတိုးနဲ့ချေးနေတာ ကြာလှပြီကောအေ့၊ ရတဲ့အတိုးကလဲ နည်းတာမှ မဟုတ်တာ။ တစ်နှစ်တစ်နှစ်ကို ငွေစင်ဆယ်ပိဿာကျော်သေးတယ်"

"ကြွာ ဒါဖြင့် ညည်းတို့သခင်မနဲ့ အစေတော်က ငါတို့ပိုက်ဆံတွေနဲ့ အပြင်ကိုငွေတိုးချေးပြီး ငါတို့လစာတွေကိုတော့ နောက်ကျမှထုတ်ပေးနေကြတယ်ပေါ့" ဟု မာလာက ပြုံး၍ပြောလေ၏။

"ဒီလိုမပြောပါနဲ့အေ၊ ဘာလဲ ညည်းမှာ ပိုက်ဆံအသုံးလိုနေလို့လား"

"ငါ့မှာတော့ မလိုပါဘူး၊ ငါ့မှာ သုံးစရာမှမရှိတာ။ ဒါပေမယ့် သခင်လေးတောင်းယင် ပေးဖို့ အဆင်သင့် ထားရတယ်အေ့"

"အရေးတကြီးလိုယင် ယူလိုက်ပါ။ ငါ့မှာ ငွေနည်းနည်းရှိပါတယ်။ ပြီးတော့ ညည်း လစာထဲက နှုတ်ယူလိုက်ရုံပေါ့"

"ခုတော့ မလိုသေးပါဘူး။ ဒါပေမယ့် လိုယင် ညည်းဆီကို လူလွှတ်ပြီး အယူခိုင်းလိုက်မယ်"

ပင်အဲသည် သူ့ကိုနှုတ်ဆက်ကာ ဥယျာဉ်မှုးဆောင်ဘက်သို့ ပြန်လာခဲ့လေ၏။

မိမိတို့အဆောင်သို့ ပြန်ရောက်သည့်အခါတွင် နတ်ငှက်မယ်မှာ အပြင်ထွက်သွားသဖြင့်မတွေ့ရချေ။ သို့ရာတွင် နတ်ငှက်မယ်၏ အခန်းထဲတွင် တစ်ခါက နတ်ငှက်မယ်ထံသို့ အကူအညီ လာ၍တောင်းဖူးသည့် အဘွားလူနှင့်သူ့မြေးငယ်ပင်အဲတို့သည် ပစ္စည်းထိန်း ချန်ဆေနှင့်လျူယွ၏ဇနီးတို့နှင့်အတူ ထိုင်နေသည်ကိုတွေ့ရလေ၏။ အစေတော်အချို့သည် တောင်ယာမှထွက်သည့် ဖရုံသီးများ၊ စွန်ပလွံသီးများနှင့် အခြားသီးနှံများကို အိတ်ကြီးများထဲမှ ကြမ်းပြင်ပေါ်သို့ သွန်ချလျက် ရှိကြလေ၏။ ပင်အဲ ရောက်လာသည့်အခါတွင် သူတို့အားလုံး မတ်တတ်ထလိုက်ကြ၏။

ပင်အဲမှာ ကျိလျှံ၏အမြွောင်ဖြစ်သည်ကို ယခင်တစ်ပတ်လာစဉ်က သိခဲ့သည့်အတွက် အဘွားလူသည် ခုတင်မီးဖိုကြီးပေါ်တွင်ထိုင်နေရာမှ ကပျာကယာဆင်းလာ၍ နှုတ်ဆက်လေ၏။

"အိမ်က သားတွေချွေးမတွေကပါ နှုတ်ဆက်လိုက်တယ်။ ခပ်စောစောကတည်းက သခင်မလေးငှက်မယ်ကိုရော၊ မလေးပင်အဲ့ကိုရော လာပြီး နှုတ်ဆက်ဖို့ပဲ။ ဒါပေမယ့် တောင်ယာမှာက သိပ်အလုပ်များနေကြတာနဲ့ ခုမှပဲလာဖြစ်တော့တယ်။ ဒီနှစ်တော့ အဘွားတို့တောင်ယာက ထောက်နဲ့ကလဲ ခါတိုင်းထက် အချိန်တစ်ရာလောက်ပဲ ပိုထွက်တယ်။ ဖရုံနဲ့ တခြားဟင်းသီးဟင်းရွက်လဲ တော်တော်များများထွက်တယ်။ ဟောဒါ အဘွားတို့တောင်ယာက ဦးဦးဖျားဖျားသီးတဲ့ဖရုံသီးတွေပဲ။ မရောင်းဘဲနဲ့ မလေးတို့မြည်းကြည့်ဖို့ယူလာတာ။ မလေးတို့က စားကောင်းသောက်ဖွယ်တွေကိုချည်း နေ့တိုင်းစားသောက်နေရတော့ ငြီးမှာပေါ့။ အငြိမ်းပြေ တောတောကလေးဘာလေး စားရအောင်ဆိုပြီး ယူလာတာ။ အဘွားတို့ကတော့ ဒီလောက်ပဲ ကျေးဇူးဆပ်နိုင်တယ် မလေးရေ့"

ပင်အဲသည် အဘွားလူကို ကျေးဇူးတင်စကားပြောဆိုပြီးနောက် အထိုင်ခိုင်းလေ၏။ သူကိုယ်တိုင် ဝင်ထိုင်လိုက်ပြီးလျှင် ပစ္စည်းထိန်းနှစ်ဦး၏ဇနီးများဖြစ်သည့် ချူနှင့်ချန်းကိုလည်း အထိုင်ခိုင်းကာ အစေခံတစ်ယောက်ကို လက်ဖက်ရည်အယူခိုင်းလိုက်လေ၏။

"ဒီနေ့ မလေးကိုကြည့်ရတာ မျက်နှာတွေနီလို့ပါလား။ မျက်လုံးတွေကလဲ့ရဲလို့" ဟု ပစ္စည်းထိန်း နှစ်ယောက်၏ဇနီးဘုစ်ယောက်ကပြော၏။

"ဟုတ်တယ်။ ကျွန်မက အရက်ချိုတို့ ဘာတို့ကို သိပ်မသောက်နိုင်ဘူး။ ဒီနေ့ မလေးလီဝမ်းနဲ့သခင်မလေးတွေက အတင်းတိုက်လွတ်လိုက်ကြလို့၊ အရက်ချိုတစ်ခွက် နှစ်ခွက်လောက် သောက်လာတော့ မျက်နှာနီနေတာပေါ့"

အဘွားချန်းက

"အံမယ်လေး၊ ကျုပ်တို့ဖြင့် သောက်ချင်ပါ့တော်။ တိုက်မယ့်လူ မရှိလို့ခက်နေတယ်။ နောက်ဘစ်ခါ မလေးကိုဖိတ်လို့များရှိယင် ကျုပ်ကိုခေါ်စမ်းပါတော်"





အားလုံး ရယ်လိုက်ကြ၏။ အဘွားချူက

"မနက်က ကဏန်းကြီးတွေကို စံအိမ်ကဝယ်သွားတာတွေလိုက်တယ်။ နည်းတဲ့ကောင်ကြီးတွေမဟုတ်ပါဘူးတော်။ ကျုပ် အထင်ပြောရယင်တော့ သုံးလေးကောင်ဆိုယင် တစ်ပိဿာနီးပါးရှိမယ် ထင်တာပဲ။ သေတ္တာကြီးသုံးလုံးနဲ့သယ်သွားတာပဲ၊ မရှိဘူးဆို အချိန် သုံးလေးဆယ်တော့ရှိမှာပေါ့၊ ဒါတောင် အိမ်ရှိလူကုန်စားသောက်မှာမဟုတ်ပါဘူး"

"ကြံကြံဖန်ဖန် အဒေါ်ရယ်၊ သခင်မလေးတွေကောင် နှစ်ကောင် သုံးကောင်စီလောက်ပဲ စားလိုက်ရတယ်။ တချို့ကျတော့ တစ်ကောင်မှတောင် မစားလိုက်ကြရဘူး"

အဘွားလူက

"ဒီနှစ် ကဏန်း တော်တော်ရှားတယ်။ ဒီလောက် ကဏန်းမျိုးဆိုယင် တစ်ပိဿာကို ငွေဒင်္ဂါး ငါးမြူးလောက် ပေးရတယ်။ ဒီတော့ ဆယ်ပိဿာဆိုယင် ငွေမြူးငါးဆယ်။ အချိန် ငါးဆယ်လောက်ဆိုတော့ ငွေစင် နှစ်ကျပ်ခွဲသားလောက် ကျမှာပေါ့။ အရက်ချိုတို့ဘာတို့၊ ဒီပြင် စားစရာတို့နဲ့ဆိုယင် ငွေစင်နှစ်ကျပ်သားကျော်ကျော်လောက်ကုန်မှာပေါ့။ မြတ်စွာဘုရား။ ဒီငွေလောက်ဆိုယင် ကျုပ်တို့တောသူတောင်သား တစ်နှစ်စာ ထိုင်စားလောက်တယ်"

"သခင်မလေးငှက်မယ်ကိုကော တွေ့ပြီးပလား" ဟု အဘွားလူကို ပင်အဲက မေး၏။

"တွေ့ပြီးပါပြီ။ ခဏစောင့်ဦးဆိုလို့ စောင့်နေတာ" ဟု ဆိုကာ အဘွားလူသည် ပြတင်းပေါက်မှနေ၍ ကောင်းကင်ကို လှမ်းကြည့်လိုက်ပြီးလျှင်

"တော်တော်တောင် နေနည်းသွားပြီးတော့၊ ကျုပ်တို့ ပြန်ဖို့ကောင်းပြီ၊ တော်တော်ကြာ မြို့တံခါးတွေပိတ်နေယင်ခက်နေလိမ့်မယ်"

"ဒီလိုဆိုယင် ကျုပ် သခင်မလေးငှက်မယ်ကို သွားကြည့်လိုက်ဦးမယ်" ဟုဆိုကာ အဘွားချူထ၍သွားလေ၏။ ခဏကြာလျှင် ပြုံးလျက် ပြန်လာကာ

"အဘွားလူတို့တော့ ထိပေါက်တာပဲ တော်ရေ့။ သခင်မ နှစ်ယောက်ကတော့ တော့်ကို သဘောကျသွားကြပြီ"

ပင်အဲနှင့် ဒ့ခြားသူများက အကျိုးအကြောင်းကိုမေးကြ၏။

"ကျုပ်ရောက်သွားတော့ မလေးငှက်မယ်က မယ်မယ့်အဆောင်မှာ ရောက်နေတယ်တော့။ ဒါနဲ့ ကျုပ်က မလေးငှက်မယ်အနားကပ်ပြီး အဘွားလူတို့ပြန်တော့မယ်ပြောတယ်။ မြို့တံခါးပိတ်နေမှာစိုးလို့လို့ ပြောတော့ အဘွားလူခမျာဒီလောက်အလေးကြီးကို ထမ်းပြီး အဝေးကြီးကလာရတာတဲ့။ သိပ်ပင်ပန်းနေမှာပေါ့တဲ့။ ဒီနေ့ည ဒီမှာပဲအိပ်ပေ့စေတဲ့။ မနက်ဖြန်မှ ပြန်ပေ့စေလို့ပြောတယ်။ ဒီကတည်းက မလေးငှက်မယ် အဘွားလူကို သဘောကျနေပြီဆိုတာ ကျုပ်သိလိုက်ပါပြီ။

"ဒါပေမယ့် ဒါနဲ့မပြီးသေးဘူးတော့်။ မယ်မယ်က အဘွားလူဆိုတာ ဘယ်သူလဲတဲ့။ ဒါနဲ့ မလေးငှက်မယ်က ဘယ်သူဆိုတာပြောပြတော့၊ အတော်ပဲတဲ့၊ ငါက ဒီလိုသက်ကြီးရွယ်အိုတွေနဲ့တွေ့ပြီး ရှေးဟောင်းနှောင်းဖြစ်တွေကို ပြောချင်နေတာတဲ့။ ငါ့ဆီကိုခေါ်ခဲ့တဲ့။ ကဲ ဒီတော့ ဒီထက်ကံကောင်းတာ ရှိဦးမှာလားတော်"

အဘွားချုကာ အဘွားလူအား မယ်မယ့်အဆောင်သို့ သွားရန်တိုက်တွန်းလေ၏။

"မလုပ်ပါနဲ့တော်၊ မသွားရဲပါဘူး။ ကျုပ်တို့ တောသူတောင်သား ဘယ်သွားလို့ကောင်းပါ့မလဲ။ ပြန်သွားပြီလို့သာ ကြည့်ကောင်းအောင် ပြောလိုက်ပါ"

"သွားပါ၊ ကိစ္စမရှိပါဘူး။ ကျွန်မတို့မယ်မယ်က သဘောကောင်းပါတယ်။ သက်ကြီးရွယ်အိုတွေနဲ့ မရှိဆင်းရဲသားတွေအပေါ်မှာဆိုယင်တော့ ပြောမနေနဲ့တော့။ တချို့မှူးမတ်ကတော်ကြီးတွေလို သွေးမကြီးပါဘူး။ အဘွားလူ တစ်ယောက်တည်း သွားရမှာ ရှက်တယ်ဆိုယင် အဘွားချုနဲ့ ကျွန်မပါလိုက်ခဲ့မယ်"

သို့ဖြင့် ပင်အဲ၊ ချုယွီ၏ ဇနီးနှင့် အဘွားလူတို့သည် မယ်မယ်၏ အဆောင်များဘက်သို့ ထွက်လာခဲ့ကြလေ၏။





အတွင်းဆောင်ဝင်းတံခါးဝတွင် တာဝန်ကျနေသည့် သူငယ်တော်များသည် ပင်အဲကိုမြင်သည့်အခါတွင် မတ်တတ်ရပ်၍ အရိုအသေပေးကြလေ၏။ ထိုနောက် သူငယ်တော်နှစ်ယောက်သည် ပင်အဲထံသို့ ပြေးလာကာ တရိုတသေနှုတ်ဆက်လေ၏။

"ဘာပြောစရာရှိလို့လဲ"

"ကျွန်တော့်အမေ သိပ်နေထိုင်မကောင်းဖြစ်နေလို့အစ်မ။ ဆေးဆရာပင့်ချင်လို့ ခပ်စောစောပြန်ခွင့်ရမလားလို့ပါ"

"အင်း၊ နင်တို့ တော်တော်ညာဏ်များတဲ့ကောင်တွေနော်။ နေ့တိုင်းအကြောင်းပြပြီး တစ်ယောက်တစ်လှည့်စီ ခွင့်ယူနေကြတယ်။ ပြီးတော့ မလေးငှက်မယ်ကိုတော့ နင်တို့ကိုယ်တိုင်မပြောဘူး။ တစ်ဆိတ်ရှိယင် ငါ့ဆီကိုပဲ လာပြောနေကြတယ်။ တစ်နေ့ကလဲ ချူအဲရယ်၊ အစောကြီးခွင့်တိုင်ပြန်သွားတယ်။ ငါကတော့ အဟုတ်မှတ်လို့ ပေးလိုက်တာပေါ့။ သခင်လေးကိုလျှံက ကိစ္စရှိလို့ခေါ်တော့ မရှိတော့ဘူး။ ခွင့်ပေးလိုက်ရမလားလို့ဆိုပြီး ငါ့ကိုတောင် ဆူသေးတယ်။ ခုလဲ တစ်ယောက်လာပြန်ပြီပေါ့"

"ဟုတ်ပါတယ်မလေးရယ်၊ သူ့အမေကတကယ်နေထိုင်မကောင်းဖြစ်နေတာပါ။ သွားပါစေ" ဟု အဘွားချုက ဝင်၍ပြောလေ၏။

"ဒါဖြင့်ယင် မနက်ဖြန်မနက်ကျယင်တော့ စောစောဆင်းနော်။ မနက်ဖြန်ကျယင် နင့်ကိုခိုင်းစရာတစ်ခုရှိတယ်။ အဲဒါ နေဖင်ထိုးမှ အိပ်ရာက ထမလာခဲ့နဲ့။ ပြော် နင်အိမ်ပြန်တော့ လိုင်ဝမ်းကို ဝင်ပြောခဲ့ဦး။ မလေးငှက်မယ်ကမှာလိုက်တယ်လို့၊ ဒီလအတွက်အတိုးတွေကို မနက်ဖြန်နောက်ဆုံးထားပြီး လာပေးလှည့်ပါလို့။ မနက်ဖြန်မှ လာမပေးယင်လဲ မပေးနဲ့တော့လို့၊ နေပေ့စေလို့မှာလိုက်တယ်လို့ ဝင်ပြောခဲ့၊ ကြားလား"

သူငယ်တော်ကလေးသည် ဟုတ်ကဲ့ဟု ပြောကာ ဝမ်းသာအားရဖြင့် ထွက်သွားလေ၏။

ပင်အဲနှင့် အဘွားကြီးနှစ်ယောက်သည် မယ်မယ်၏အဆောင်များဘက်ဆီသို့ လာခဲ့ကြ၏။ အဆောင်တွင် ဥယျာဉ်ယဲမှ သခင်မကလေးများလည်း ရောက်နေကြသည်ကိုတွေ့ရလေ၏။ ပုလဲ၊ မြစသည့်လက်ဝတ်ရတနာတို့ကို ဝတ်ထားသည့် ငြိသူငယ်မ ချော့ချော့ကလေးများသည်

မည်သူမည်ဝါဖြစ်ကြောင်းကို အဘွားလူမသိချေ။ သို့ရာတွင် ထိုင်ခုံတစ်ခုပေါ်တွင် လဲလျောင်းလျက်ရှိပြီး လှပစွာဝတ်ဆင်ထားသည့် သူငယ်မကလေးတစ်ယောက်က ခြေထောက်ကိုနှိပ်ပေးနေသည့် အဘွားကြီးတစ်ယောက်ကိုမူ အဘွားလူ ကောင်းစွာသတိထားလိုက်မိ၏။ သခင်မလေးနတ်ငှက်မယ်သည် ထိုအဘွားကြီးအနီးတွင်ရပ်ကာ တစ်စုံတစ်ရာကို ပြောဆိုလျက်ရှိလေ၏။ ထိုအဘွားကြီးသည် မယ်မယ်ဖြစ်ရမည်ဟု တွက်လိုက်မိသဖြင့် အဘွားလူသည် ရှေ့သို့ ရိုသေစွာတိုးသွားခဲ့ကာ နှုတ်ခွန်းဆက်လေ၏။

''မယ်မယ်ကျန်းမာရဲ့သားဖျာ့''ဟု အဘွားလူက နှုတ်ဆက်လိုက်လေ၏။

အနှိပ်ခံနေသည့်အဘွားကြီးသည် ခေါင်းထောင်၍ကြည့်လိုက်ပြီး လျှင် ကုသားထိုင်တစ်လုံးယူလာခဲ့ရန် ချူယွ၏ ဇနီးကို အမိန့်ပေးလိုက်၏။ အဘွားလူ၏မြေးငယ် ပန်အဲမှာကား နှုတ်မဆက်ရဲဘဲ ရှက်လျက်ရှိလေ၏။

''အမယ်ကြီး အသက်ဘယ်လောက်ရှိပြီလဲ'' ဟု မယ်မယ်က မေးလေ၏။

'ခုနှစ်ဆယ့်ငါးနှစ်ပါ'' ဟု အဘွားလူက မတ်တတ်ရပ်၍ ဖြေလေ၏။

''အံမယ်လေး၊ အိုပေမယ့် တယ်ပြီးကျန်းမာပါကလား။ ကျုပ်ထက်တောင် အများကြီး ကြီးသေးတာကပဲ။ အင်း အမယ်ကြီးအရွယ်ရောက်ရင် ကျုပ်တို့ ဒီလောက်မှကျန်းမာပါဦးမလားမသိဘူး''

အဘွားလူက ပြုံးလိုက်လျက်

''အကျွန်တို့က ကြမ်းကြမ်းတမ်းတမ်းနေလာတာ၊ မယ်မယ်တို့က စည်းစိမ်နဲ့နေလာတာကိုဖျာ့။ မယ်မယ်တို့လိုချည်းသာ ဆိုရင်လဲ လယ်လုပ်တဲ့လူ ဘယ်မှာရှိပါတော့မလဲ''

''မျက်စိတွေ၊ သွားတွေကောင်းကောင်းသေးရဲ့လား''

''ကောင်းပါသေးတယ်။ ဒါပေမယ့် ဒီနှစ်တော့ လက်ဝဲဘက်အံသွား ကျိုးသွားပြီဖျာ့''





''အင်း ကျုပ်တို့လဲ အိုမင်းမစွမ်းဖြစ်ပါပြီတော်၊ သိပ်သုံးစားလို့မရတော့ပါဘူး။ မျက်စိကလဲ မှုန်စပြုပါပြီ၊ နားကလဲမကောင်းချင်တော့ဘူး။ မှတ်ဉာဏ်ကလဲ ချွတ်ယွင်းလာပြီ၊ ဆွေမျိုးတွေကိုတောင် အကုန်မမှတ်မိတော့ဘူး။ သူတို့ လာသည်ရင်တောင် ထွက်မတွေ့တော့ဘူး။ တော်တော်ကြာ ဟိုလူမမှတ်မိ၊ သည်လူမမှတ်မိနဲ့၊ ရယ်စရာကြီး ဖြစ်နေမှာ။ ခုတော့ ဘာမှမဘတ်နိုင်တော့ပါဘူး။ စားတာရယ်၊ အိပ်တာရယ်၊ ပျင်းရင် မြေးတွေနဲ့ အပျင်းဖြေတာရယ်၊ ဒီလောက်ပဲလုပ်နိုင်တော့တယ်''

အဘွားလူက ပြုံးလိုက်၏။

''ကုသိုလ်ကံထူးတာပေါ့ မယ်မယ်ရယ်၊ အကျွန်တို့မှာ ဒီလိုနေချင်လို့တောင်မှ မနေရတာ''

''ဘယ်ကလာ ကုသိုလ်ထူးရမှာလဲတော်။ ဘာမှအသုံးမကျတော့တဲ့ အမယ်အို ရွတ်တွကြီးဖြစ်နေပြီကပဲ''

သူ့စကားကြောင့် အားလုံး ဝိုင်းရယ်လိုက်ကြ၏။ မယ်မယ်က ဆက်၍

'ကျုပ်တို့ဖို့ ဖရုံသီးတွေ၊ ဟင်းသီးဟင်းရွက်တွေလာပို့တယ်ဆို၊ ငှက်မယ်ကပြောတယ်။ ခုပဲအချက်ခိုင်းလိုက်တယ်။ ဒီလို လတ်လတ်ဆတ်ဆတ် ဟင်းသီးဟင်းရွက်စားချင်နေတာ ကြာလှပြီ၊ ဈေးကဝယ်တဲ့ ဟင်းသီးဟင်းရွက်တွေက အခုယ်ကြီးအိုတို့အခင်းကသို့ လတ်သတ်ဆတ်ဆတ်တွက်လာတာဘွေမှမဟုတ်တာ''

အဘွားလူက

''ခုဟာတွေကတော့ အကျွန်တို့ တောင်ယာက လောလောလတ်လတ်ခူးလာတွေပါ မယ်မယ်။ အကျွန်တို့ကတော့ ဒါတွေကို မစားချင်တော့ပါဘူး၊ အသားတို့ငါးတို့ကို စားချင်တာပေါ့။ မတတ်နိုင်လို့သာ မနေရတာ''

''ခု ကျုပ်စံအိမ်မှာ ဆွေတွေမျိုးတွေ စုံတုန်း အေးအေးဆေးဆေးနေပြီး ကြည့်စရာရှိတာတွေကြည့်သွားဦး။ ပျော်ရင်လဲ တစ်ရက်တန်သည်၊ နှစ်ရက်တန်သည်နေဦးပေါ့၊ ကျုပ်တို့စံအိမ်ဝင်းထဲမှာ ဥယျာဉ်လဲရှိတယ်၊ အသီးတွေဘာတွေတောင် သီးကုန်ပြီထင်ပါရဲ့။ မနက်ဖြန်ကျ

တော့ ဥယျာဉ်ထဲကသစ်သီးတွေကို မြည်းသွားဦး။ အိမ်ဖိုလဲ ယူသွား။ ဟိုရောက်တော့ ရွှေမြို့တော်က တို့အမျိုးဆီက ယူလာတာပဲလို့ ပြောရတာပေါ့”

မယ်မယ်က အဘွားလူကို သဘောကျကြောင်းတွေ့သည့်အခါတွင် နတ်ငှက်မယ်ကလည်း အတင်းတိုက်တွန်းလေ၏။

“ကျွန်မတို့မြို့က စံအိမ်က အဘွားလူတို့ ထယ်တော့လောက် မကျယ်ပေမယ့် အခန်းတွေတစ်ပုံကြီးရှိပါတယ် အဘွားလူရဲ့၊ တစ်ရက် နှစ်ရက်လောက်နေပြီး တောကအကြောင်းတွေ ဘာတွေကို မယ်မယ့်ကို ပြောပြသွားပါဦး”

မယ်မယ်က

“ဟဲ့ ငှက်မယ် စကားအိုးမ။ သူ့ကိုသွားမစပါနဲ့အေ။ တောသူတောင်သားဆိုတာ ရိုးကရိုးပါဘိသနဲ့၊ လို့သိချင်မှသိတာ”

မယ်မယ်က အစေတော်များကိုခေါ်ကာ အဘွားလူ၏ မြေးငယ် ပန်အဲအား သစ်သီးများအကျွေးခိုင်း၏။ သို့ရာတွင် ပန်အဲမှာ လူတွေကြားထဲတွင် မစားရဲဘဲဖြစ်လျက်ရှိလေ၏။ ထို့ကြောင့် သူငယ်ကလေးအား ငွေတစ်ထုပ်ပေးလိုက်ပြီး အပြင်တွင် သူငယ်တော်ကလေးများနှင့် သွား၍ကစားရန် အပို့ခိုင်းလိုက်လေ၏။ အဘွားလူမှာကား လက်ဖက်ရည်သောက်ရင်း တောမှ အကြောင်းများကို ပြောပြလျက် ရှိလေရာ မယ်မယ်မှာ သူ့စကားများကို နားထောင်၍ သဘောကျနေလေ၏။

အဘွားလူသည် မယ်မယ့်ကို တောမှအကြောင်းကိုပြောဆိုနေစဉ် နတ်ငှက်မယ်သည် အစေတော်တစ်ယောက်ကိုလွှတ်ကာ အဘွားလူအား ထမင်းစားရန် အခေါ်ခိုင်းလိုက်၏။ မယ်မယ်ကလည်း သူစားမည့်ဟင်းထဲမှ အချို့ဟင်းများကိုခွဲ၍ အပို့ခိုင်းလိုက်လေ၏။ စားသောက်ပြီးလျှင် နတ်ငှက်မယ်သည် အဘွားလူကို မယ်မယ်အနီးသို့ ပြန်ပို့လိုက်ပြန်၏။ ယုန်ယွမ်းက အစေတော်တစ်ယောက်ကို ခေါ်ကာ အဘွားလူအား ရေချိုးခိုင်းစေပြီးနောက် အဘွားလူဝတ်ရန် အဝတ်အစားများကို ရွေးနေလေ၏။ ထိုနောက်တွင် အဘွားလူသည် မယ်မယ်၏ထိုင်ခုံဘေးတွင်ထိုင်ကာ ရှေးဟောင်းနှောင်းဖြစ်များနှင့်တကွ အတင်းအဖျင်းများကို ပြော





ဆိုလျက်ရှိလေ၏။ ပေါက်ယုနှင့်မိန်းမပျိုများမှာလည်း ထိုသို့သောစကားမျိုးကို ယခုမှကြားဖူးကြသဖြင့် အနီးတွင် ဝိုင်းအုံနားထောင်လျက် ရှိကြလေ၏။ သူတို့အဖို့ အဘွားလူ၏ ပြောပြသည့် အဖြစ်အပျက်များသည် မျက်မမြင် သူတောင်းစားကြီးပြောပြသည့် ပုံပြင်များထက် စိတ်ဝင်စားစရာကောင်းလျက်ရှိလေ၏။

အဘွားအိုမှာ တောသူကြီးတစ်ဦးဖြစ်သည့်တိုင် နလပိန်းတုံးတစ်ဦးမဟုတ်ချေ။ ထို့မျှမက အသက်လည်းကြီး၊ အတွေ့အကြုံလည်း ရှိသူတစ်ယောက်ဖြစ်သည့်အတွက်သူပြောသည့်အဖြစ်အပျက်များကို မယ်မယ်နှင့်တကွ လူငယ်တစ်သိုက်ဖေပါ စိတ်ပါဝင်စားကြောင်းကို သတိပြုလိုက်မိ၏။ သို့ဖြင့် အတင်းအဖျင်းတွေ ပြောရော ကုန်သွားသည့် အခါတွင် အဘွားလူသည် သူ့ဇိဝ ကူးဖြင့် သူတီထွင်၍ ပုံတိုပတ်စများကို ပြောလျက်ရှိလေ၏။

“အကျွန်တို့တောမှာဆိုယင် စပါးတို့ဘာတို့ စိုက်ရတယ်။ စပါးပြီးယင် အသီးအရွက်တို့ဘာတို့စိုက်ပြီး တောင်ယာလုပ်ရတယ်။ နွေ၊ မိုး၊ ဆောင်းရာသီတိုင်း လုပ်နေရတာပဲ။ နေပူတယ်၊ မိုးရွာတယ်ဆိုပြီး နားနေလို့ဘယ်ဖြစ်မလဲ။ နားဖို့ကိုအချိန်ရေဘူး။ သိပ်ပင်ပန်းလွန်းတဲ့အခါကျတော့ နေ့လယ်နေ့ခင်း တောင်ယာထဲမှာပဲတစ်ရေးတမော နားရတယ်။ တောင်ယာထဲမှာဆိုတော့ ထူးထူးဆန်းဆန်းတွေလဲ မြင်ရတာပေါ့လေ”

‘ဥပမာ မနှစ်ဆောင်းတွင်းတုန်းက ဆိုပါတော့။ နှင်းတွေကလဲ ကျလိုက်တာ မပြောပါနဲ့တော့။ နေ့စဉ်ရက်ဆက်ကျလိုက်တာ၊ မြေကြီးပေါ်မှာ သုံးလေးပေလောက်ထူသွားတယ်။ ဒါနဲ့ တစ်နေ့တော့ အကျွန်လဲ တောင်ယာထဲကိုစောစောသွားမယ်ဆိုပြီး အိပ်ရာကစောစောထ၊ မျက်နှာသစ်ပြီး ပြင်ဆင်နေတုန်း အိမ်ဘေး ထင်းပုံဆီက တချွတ်ချွတ် မြည်နေတဲ့ အသံကိုကြားရတယ်။ အိမ်က ထင်းပုံကိုလာပြီး ထင်းလာခိုးတာပဲဆိုပြီး အကျွန်လဲ ပြတင်းပေါက်ကနေချောင်းကြည့်လိုက်တယ်။ ကြည့်လိုက်တော့ ရွာထဲကလူ မဟုတ်ဘူးတော်ရေ့”

“တခြားရွာကဖြစ်မလား။ သိပ်ချမ်းလွန်းတော့ ထင်းပုံတွေ့တာနဲ့ ပီးလှုံရအောင်ဆိုပြီး ဝင်ဆွဲတာနေမှာပေါ့”

မယ်မယ်ကပြောလေ၏။

"ဒါလဲမဟုတ်ဘူးရှင့်၊ တခြားကခရီးသွားလဲ မဟုတ်ဘူးရှင့်။ ဒါ့ကြောင့်မို့ ထူးဆန်းတယ်လို့ ပြောတာပေါ့။ ဘယ်သူမှတ်သလဲ၊ ကြည့်လိုက်တော့ ကောင်မလေးရယ်၊ အပျိုမလေး၊ ဘာရှိုးဦးမလဲ၊ အလွန်ဆုံးရှိလှယင် ဆယ့်ရှစ်နှစ်လောက်ပဲရှိဦးမှာပေါ့။ လှလိုက်တာလဲ မပြောပါနဲ့တော့၊ ပန်းချီကားထဲကအရုပ်ကလေး ကျနေတာပဲ။ ဆံပင်ကလဲနက်မှောင်လို့။ အင်္ကျီကအနီရောင်၊ လုံချည်ကပိုးလုံချည် အဖြူရောင်ကလေးဝတ်လို့"

ထိုစဉ်တွင် အပြင်မှ ဆူဆူညံညံအသံများကို ကြားရလေ၏။

"ဘာမှမဟုတ်ပါဘူး၊ မယ်မယ်အထိတ်တလန့်ဖြစ်နေပါ့မယ်' ဟု တစ်ယောက်ကပြော၏။

အပြင်ဘက်သို့ထွက်၍ အကျိုးအကြောင်းကို စုံစမ်းကြည့်လေ၏။ စံအိမ်ဝင်းကြီး တောင်ဘက်ခြမ်းရှိ မြင်းဇောင်းများကို မီးလောင်ခြင်းဖြစ်ကြောင်း၊ သို့ရာတွင် ခုအချိန်၌ မီးကိုနိုင်နေပြီဖြစ်၍ ဘာမျှစိုးရိမ်စရာမရှိတော့ကြောင်းဖြင့် အစေတော် တစ်ယောက်က လာရောက် ပြောကြလေ၏။

မယ်မယ်မှာ ထစ်ခနဲရှိလျှင်ထိတ်လန့်တတ်သူဖြစ်လေရာ ချက်ချင်းထိုင်ရာမှထကာ သူ့ကို အပြင်ဘက်ဝရန်တာဘက်သို့ တွဲ၍အပို့ခိုင်းလေ၏။ စံအိမ်ဝင်းအရှေ့တောင်ထောင့်မှ မီးတောက်ကြီးများကို မြင်သည့်အခါ၌ မယ်မယ်သည် ဘုရားတလျက်ရှိလေ၏။ ထို့ပြင် အခန့်တိုင်များထွန်း၍လည်း မီးနတ်ကို ပူဇော်ခိုင်းလေ၏။ သခင်မဝမ်နှင့် အခြားသူများသည် မယ်မယ်ကို နှစ်သိမ့်ရန် အဆောင်သို့ပြေးလာကြလေ၏။

"ခဏနေယင် ငြိမ်းသွားတော့မှာပါ မယ်မယ်ရဲ့၊ အဆောင်ထဲမှာသာ ပြန်ဝင်နေပါ'' ဟု သူတို့ကပြောကြလေ၏။

သို့ရာတွင် မယ်မယ်သည် တော်တော်နှင့်မပြန်နိုင်ဘဲ မီးတောက်များကျသွားသည့် အခါတွင်မှ အဆောင်ထဲသို့ ပြန်ဝင်လာခဲ့လေ၏။ ထိုစဉ် ပေါက်ယုက အဘွားလူအား





"ခုတင်ကစကားကို ဆက်စမ်းပါဦး၊ ဒီလောက်ကောင်နှင်းတွေကျနေတဲ့အထဲမှာ ကောင်မလေးက ဘာဖြစ်လို့ ထင်းလာယူနေတာလဲ၊ အအေးမမိဘူးလွားဟင်''

မယ်မယ်က

"တော်စမ်းပါကွယ်၊ ဒီအကြောင်းမပြောစမ်းပါနဲ့တော့။ စောစောက အဲဒီ ထင်းရှာတဲ့အကြောင်းကို ပြောနေတုန်းမှာပဲ မီးလန့်တာမဟုတ်လား။ ဒါပြင်အကြောင်းကိုပြောစမ်းပါ''

ဤတွင် ပေါက်ယုလည်း ထိုအကြောင်းကို မမေးရတော့ချေ။ အဘွားလူမှာလည်း နောက်ထပ်ပုံတစ်ပုံကို ပြောရပြန်လေ၏။

"အကျွန်တို့ရွာရဲ့ အရှေ့ဘက်မှာ အသက် ကိုးဆယ်လောက် ရှိတဲ့ အဘွားကြီးတစ်ယောက်ရှိတယ်။ အဘွားကြီးကနေ့တိုင်းဥပုသ်စောင့်ပြီး နေ့တိုင်း ဘုရားရှိခိုးတယ်။ ဘုရားတရားကို သိပ်ကြည်ညိုတော့ ဂရုဏာနတ်သမီးနဲ့တွေ့တယ်လို့ တစ်ညမှာ အိပ်မက်မက်သတဲ့။ အိပ်မက်ထဲမှာ နတ်သမီးက 'အဘွားဟာ ဘုရားတရားလဲ သိပ်ကြည်ညိုတယ်၊ ဒါပေမယ့် အဘွားမှာ သားထောက်မြီခံ မရှိဘူး။ ဒါကြောင့် သိကြားမင်းကို သူကိုယ်တိုင် လျှောက်ထားခဲ့တဲ့အတွက် အဘွားကို သိကြားမင်းက မြေးယောကျ်ားလေးတစ်ယောက် ပေးလိမ့်မယ်'လို့ ပြောသတဲ့''

'အစတုန်းကတော့ အဲဒီအဘွားကြီးမှာ သားယောကျ်ားလေး တစ်ယောက်ရှိသတဲ့။ ဒါပေမယ့် အသက် ဆယ့်ခုနစ်ဆယ့်ရှစ်နှစ်လောက်ရှိတဲ့အခါကျတော့ အဲဒီသားလေးကလဲ သေသွားသတဲ့။ ဒါနဲ့ သောကရောက်နေကြတာပေါ့သေး။ မကြာပါဘူး၊ အဲဒီလိုအိပ်မက်မက်ပြီးကြာခင်မှာပဲ သားယောကျ်ားလေးတစ်ယောက် ထပ်မွေးတာပဲတဲ့။ ခုဆိုယင် အဲဒီကလေးက ဆယ့်လေးငါးနှစ်လောက်တောင်ရှိနေပြီ။ ဖြူဖြူဝဝကလေးရယ်။ အဲဒီတော့ မယုံမရှိကြနဲ့၊ နတ်တို့သိကြားတို့ဆိုတာတကယ်ရှိတယ်''

ထိုပုံပြင်မျိုးမှာ မယ်မယ်နှင့် ဒေါ်လေးဝမ်တို့ ကြိုက်တတ်သော ပုံပြင်များ ဖြစ်လေ၏။ သခင်မဝမ်မှာ ပို၍ စိတ်ဝင်စားလျက်ရှိလေ၏။ ပေါက်ယုမှာကား ထိုအကြောင်းကိုစိတ်မဝင်စားနိုင်ဘဲ စောစောကပုံပြင်

ထဲတွင် ပါသော ထင်းလာယူသည့် မိန်းမပျိုကလေး အကြောင်းကိုသာ စိတ်ဝင်စားလျက်ရှိလေ၏။ ထိုစဉ် တန်ချန်းက

"မနေ့က စမ်းယဉ်က မလေးတို့ကို ကျွေးမွေးဧည့်ခံတယ် မဟုတ်လား။ နောက်တစ်ခါကျယင် အဘွား လူကို ခေါ်ပြီး ပုံပြောခိုင်းရယင် မကောင်းဘူးလားဟင်"

"နေဦး၊ စမ်းယဉ်ကဧည့်ခံတဲ့အတွက် မယ်မယ်က သူ့ကိုပြန်ကာနီး ယမင်းဖိတ်ကျွေးဦးမယ်လို့ပြောနေတယ်၊ အဲဒီကျယင် မောင်တို့ကိုလဲ ဖိတ်မှာ။ ဒီတော့ အဲဒီပွဲပြီးအောင်စောင့်လိုက်ကြဦး"

"အဲဒီပွဲပြီးမှဆိုယင် ဆောင်းဝင်နေပြီ၊ ဆောင်းတွင်းကျယင် မယ်မယ်က ဒီလိုပွဲတွေလမ်းတွေလုပ်တာ သိပ်မကြိုက်ဘူး။ လူတွေအအေးမိပြီး နေထိုင်မကောင်းဖြစ်တတ်လွန်းလို့တဲ့"

"ရပါတယ်၊ အဘွားကြီးက မိုးတို့နှင်းတို့ဆိုယင် သိပ်သဘောကျတာ။ ပထမဆုံး နှင်းပွင့်တွေကျအောင် စောင့်ဦး၊ အဲဒီအခါကျယင် အဘွားကြီးကို နှင်းပွင့်ပွဲ အလုပ်ခိုင်းမယ်။ မောင်တို့လဲ နှင်းတွေထဲမှာ ကဗျာတွေစပ်ရတာပေါ့"

ထိုက်ယုက

"ဘာ၊ နှင်းပွင့်တွေထဲမှာ ကဗျာရေးမယ်ဟုတ်လား။ နှင်းတွေထဲမှာ ကဗျာရေးရတာက နှင်းတောထဲမှာ ထင်းတွေစုပုံပြီး မီးပုံပွဲလုပ်ရတာလောက် ပျော်စရာမကောင်းပါဘူး"

ပေါက်ကြည်နှင့်အခြားသူများက ရယ်လိုက်ကြ၏။ ပေါက်ယုက ထိုက်ယုကို တစ်ချက်လှမ်းကြည့်လိုက်လေ၏၊ သို့ရာတွင် မည်သို့မျှ မပြောချေ။

လူစုကွဲသည့်အခါတွင် ပေါက်ယုသည် အဘွားလူအနီးသို့ ကပ်သွားကာ စောစောကထင်းပုံနားတွင်မြင်ခဲ့သည်ဟုပြောသည့်မိန်းကလေးမှာ မည်သူဖြစ်ကြောင်းကို မေးမြန်းလေ၏။ ဤတွင် အဘွားလူမှာလည်း ကြံဖန်တီထွင်ပြောရပြန်၏။

"အကျွန်တို့ရွာမြောက်ဘက်မှာ နတ်စင်တစ်စင်ရှိတယ်။ တစ်ခါကျတော့ လူတစ်ယောက်က၊ အဲ သူ့နာမည်ကတော့"





"နာမည်တွေဘာတွေ အရေးမကြီးပါဘူး၊ ဇာတ်လမ်းကိုသာ ပြောပြစမ်းပါ" ဟု ပေါက်ယုကပြော၏။

"အဲဒီလူမှာ သားယောကျ်ားဆိုလို့ တစ်ယောက်မှမရှိဘူး။ သမီးလေးတစ်ယောက်သာရှိတယ်။ သူငယ်မလေးက စာလဲ ရေးတတ်ဖတ်တတ်တယ်၊ မိဘတွေကလဲ သူတို့သမီးလေးကို သိပ်ချစ်ကြတယ်၊ ဒါပေမယ့် အဲဒီသူငယ်မလေး အသက်ဆယ့်ခုနစ်နှစ်လောက်လဲ ရောက်ရော မကျန်းမမာဖြစ်ပြီးသေသွားတယ်"

ပေါက်ယုက မကျေမနပ်ဖြင့်

"နောက်တော့ကော ဘာဖြစ်သေးသလဲ"

"သူ့မိဘတွေကသူတို့သမီးလေးကိုသိပ်လွမ်းတဲ့အတွက် နတ်ကွန်းကလေးတစ်ခုဆောက်ပြီး အဲဒီနတ်ကွန်းမှာ သူတို့သမီးနဲ့တူတဲ့ နတ်ရုပ်ကလေးတစ်ရုပ် တင်ပြီး ထားကြသတဲ့။ အဲဒီနားမှာလဲ နတ်ကွန်းကို ဖယောင်းတိုင်တို့၊ အမွှေးတိုင်တို့ပူဇော်ဖို့ နတ်ကဘောကြီးတစ်ယောက်ကိုလဲ ပင့်ထားသတဲ့။ အဲဒါက ကြာတော့ကြာပါပြီ၊ ခုတော့ အဲဒီလူတွေလဲ မရှိကြတော့ပါဘူး။ နတ်ကွန်းလေးလဲပျက်နေပါပြီ။ နောက်တော့ အဲဒီနတ်ကွန်းမှာ တင်ပြီးကိုးထားတဲ့အရုပ်ကလေးကလဲ အသက်ဝင်သွားပြီး ဥစ္စာစောင့်ဖြစ်သွားရောတဲ့"

"ဥစ္စာစောင့်ဖြစ်တာ မဟုတ်ဘူး အဘွားလူရဲ့၊ အဲဒီလူတွေဟာ ဘယ်တော့မှမသေဘူးတဲ့။ တစ်ဘဝကနေ တစ်ဘဝကူးနေတာတဲ့"

"ဟုတ်တယ်၊ ဟုတ်တယ်၊ တစ်ခါတလေကျတော့ အဲဒီ ဥစ္စာစောင့်မလေးဟာ လူယောင်ဖန်ဆင်းပြီး ရွာတွေ၊ ဘောင်ယာတဲတွေ၊ လယ်တဲတွေထဲကိုလျှောက်လည်တတ်သတဲ့။ စောစောက အဘွားတို့ အိမ်ဝင်းထဲကို လာပြီးထင်းယူတယ်ဆိုတဲ့ သူငယ်မကလေးဟာ သူပေါ့။ ဒါကြောင့် ရွာကလူတွေက အဲဒီနတ်စင်ကိုလဲ မီးရှို့၊ အဲဒီနတ်စင်က နတ်ရုပ်ကလေးကိုလဲ ရိုက်ချိုးဖို့ပြောနေကြတယ်"

ပေါက်ယုက စိုးရိမ်တကြီးဖြင့်

"မလုပ်ပါစေနဲ့ အဘွားရယ်။ နတ်ကွန်းကိုဖျက်လို့ဘယ်ကောင်းပါ့မလဲ၊ အကုသိုလ်ဖြစ်ပါတယ်"

"ဟုတ်တယ်၊ အကျွန်ုပ်မြေးကြီးပြောတာမှန်တယ်။ မနက်ဖြန် ရွာကိုပြန်ရောက်ယင်တော့ အဘွားလဲ ရွာကလူတွေကို ပြောပြရဦးမယ်"

"ကျွန်တော့် အဘွား မယ်မယ်နဲ့ အမေက အပေးအကမ်း အလှူအတန်းရက်ရောပါတယ်။ တကယ်ကတော့ ကျွန်တော်တို့ တစ်အိမ်သားလုံးဟာ ကုသိုလ်ကောင်းမှုလုပ်ဖို့ ဝါသနာပါကြတယ်။ ကျောင်းဆောက်တာတို့၊ ဘုရားတည်တာတို့၊ နတ်ကွန်းဆောက်တာတို့ဆို လုပ်ရယင် သိပ်ဝမ်းသာကြတယ်။ ဒါကြောင့်မို့ မနက်ဖြန်ကျယင် အဘွားတို့အတွက် ကျွန်တော်တို့အိမ်က အိမ်သူအိမ်သားတွေဆီမှာ အလှူငွေ လိုက်ကောက်မယ်။ တဲ့ပိုက်ဆံနဲ့ အဘွားကပဲကြီးကြပ်ပြီး အဲဒီနတ်ကွန်းကလေးကို ပြင်ဆောက်၊ နတ်ရုပ်ကလေးကိုလဲ မွမ်းမံပေးပါ၊ အမွေးတိုင်ဖိုးကိုတော့ ကျွန်တော်ကပဲလှူပါမယ်၊ မကောင်းဘူးလား"

"ကောင်းတာပေါ့တော်၊ သခင်လေးထည့်ယင် အကျွန်ုပ်တို့ကလဲ တတ်အားသမျှထည့်ရမှာပေါ့"

ပေါက်ယုသည် အဘွားလူနေသည့် ရွာအမည်၊ အကွာအဝေးနှင့် တကွ နတ်ကွန်းရှိသည့်နေရာတို့ကို မေးမြန်းလေ၏။ အဘွားလူက ပါးစပ်ထဲတွင် တွေ့ရာကို ကောက်ပြောသွားသည့်တိုင် ပေါက်ယုမှာ တကယ်ယုံကြည်လျက်ရှိ၏။ မိမိအဆောင်သို့ပြန်ရောက်သည့်အခါတွင်လည်း ပေါက်ယုသည် ထိုအကြောင်းကို တွေးလျက်ရှိလေ၏။

နောက်တစ်နေ့မနက် မိုးလင်းသည့်အခါတွင် ပေါက်ယုသည် သူ့အစေခံ မိန်ယန်းကိုခေါ်ကာ ပိုက်ဆံအမြောက်အမြား ပေးလိုက်ပြီးလျှင် အဘွားလူပြောသည့်နတ်ကွန်းကို အရှာခိုင်းလိုက်လေ၏။ မိန်ယန်း ပြန်လာလျှင် အခြေအနေကိုကြည့်ကာ နောက်ထပ် မည်သို့ပြုပြင်မွမ်းမံရန်ကိုလည်း စိတ်ကူးထားလေ၏။

ပေါက်ယုသည် ထိုနေ့တစ်နေ့လုံး မိန်ယန်းကို တမျှော်မျှော် ဖြစ်လျက်ရှိလေ၏။ သူ့ကိုကြည့်ရသည်မှာ အိုးကင်းပူပေါ်သို့ ရောက်နေသည့် ပုရွက်ဆိတ်တစ်ကောင်ကဲ့သို့ ယောက်ယက်ခတ်လျက် ရှိလေ၏။ နေဝင်ရီသရောအချိန်လောက်တွင် မိန်ယန်းသည် ကျေနပ်အားရသောမျက်နှာနှင့် ပြန်လာလေ၏။





"ဘယ်နှယ်လဲဟင် တွေ့ခဲ့ရဲ့လား"

"သခင်လေးပြောတာက မှားနေတယ်ဗျ။ ရှာလိုက်ရတာ ဖတ်ဖတ်ကို မောနေတာပဲဗျာ။ နေရာကလဲ သခင်လေးပြောတဲ့နေရာမဟုတ်ဘူး။ နာမည်ကလဲ သခင်လေးပြောတဲ့ နာမည်မဟုတ်ဘူး။ ဒါနဲ့ ဟိုမေးဒီမေးနဲ့ တစ်နေ့လုံး လိုက်ရှာလိုက်တာ၊ ညနေစောင်းတော့မှ အဲ့ဒီနတ်ကွန်းကိုသွားတွေ့တယ်။ ရွာရဲ့အရှေ့မြောက်ဘက် လေးငါးဖာလုံလောက်ဝေးတဲ့ ကွင်းထဲမှာ။ နတ်ကွန်းက ပြိုတောင်နေပါပြီ"

ပေါက်ယုက ပြုံးလိုက်လျက်

"အဘွားလူက အသက်ကြီးပြီ မဟုတ်လားကွ။ အသက်ကြီးတော့လဲ မေ့မှာပေါ့။ အဲဒီရောက်တော့ ဘာတွေ့သလဲ ပြောစမ်းပါဦး"

"သူပြောတဲ့အတိုင်း နတ်ကွန်းက တောင်ဘက်ကိုတော့ မျက်နှာမူနေတယ်ခင်ဗျ၊ ပြိုတော့ပြိုကျနေပြီ။ ကျွန်တော်လဲ မောမောနဲ့၊ အိမ်ယာလေး တွေ့မှတွေ့သေးတယ်လို့ပြောပြီး နတ်ကွန်းနား ကပ်သွားတာပေါ့။ နတ်ကွန်းနားလဲရောက်ရော ဘာပြောကောင်းမလဲ သခင်လေးရေ၊ ကျွန်တော်လဲ ကြောက်ကြောက်နဲ့ တစ်ချီးတည်း ပြန်ပြေးလာခဲ့တာပဲ။ နတ်ရုပ်ကြီးက နည်းနည်းနောနောမှမဟုတ်တာ၊ လူထက်ရပ်လောက် ရှိတယ်"

"သူက လူယောင်ဖန်ဆင်းတတ်တော့ လူ့ကိုယ်လုံးလောက်ရှိချင်လဲရှိမှာပေါ့ကွ"

မိန်ယန်းက လက်ခုပ်တီးလိုက်လျက်

"နတ်ရုပ်က နတ်သမီးရုပ်ကလေးမှ မဟုတ်ဘဲ သခင်လေးရဲ့ လက်စသတ်တော့ မယ်ကုဝဏ်ရုပ်ပဲ။ အစွယ်ကြီးငေါငေါနဲ့"

ပေါက်ယုက စိတ်ပျက်လက်ပျက်ဖြင့်

"မင်း တော်တော်အသုံးမကျတဲ့ကောင်ကွ။ ဒီလောက် ကလေး တောင်မှ ရှာအောင်မရှာနိုင်ဘူးလား"

"သခင်လေးဟာ ဘယ်လိုစာအုပ်တွေကို ဖတ်နေမှန်း မသိပါဘူး။ ပြီးတော့ တောရမ်းပယ်ဖွဲ့ကားတွေကိုလဲ ယုံနေတာပဲ။ ကျွန်တော့်မှာ ဖြင့် ရှာလိုက်ရတာ၊ ဖတ်ဖတ်ကိုမောနေတာပဲ။ ပြီးတော့ ကျွန်တော့်ကို အသုံးမကျဘူးတဲ့"

ပေါက်ယုက လေပျော့ကလေးဖြင့်

"ဒီလောက်လဲ စိတ်မပျက်ပါနဲ့ဦးကွာ။ အားတဲ့ တစ်နေ့ကျတော့ လိုက်ရှာစမ်းပါဦး။ တို့ကို လိမ်ပြောဘယ်ဆိုယင်တော့လဲ မတတ်နိုင်ဘူး ပေါ့ကွာ။ ဒါပေမယ့် သူပြောတဲ့အတိုင်း မှန်ယင်ဘော့ မင်းလဲ ကုသိုလ်ရပါတယ်။ မင်းကိုလဲ ကောင်းကောင်းဆုချပါ့မယ်"

ထိုစဉ် အတွင်းဆောင်ဘက်မှ သူငယ်တော် တစ်ယောက် ရောက်လာသာ

'မယ်မယ်ရဲ့အဆောင်မှာ သခင်လေးကို စောင့်နေကြတယ်ခင်ဗျ။ ခုချက်ချင်း အတွင်းဆောင်ကို လာခဲ့ပါတဲ့''

အဘယ့်ကြောင့် ခေါ်သည်ကိုသိလိုလျှင် နောက်အခန်းကို ဆက်ဖတ်ပါလေ။



## အခန်း ၄၀

မဟာနန္ဒာဥယျာဉ်တွင် မယ်မယ်က ကျေးမွေးညွှန်ခြင်း။

အရက်ပွဲတွင် စာစပ်ပြိုင်ရာ၌ ယုန်ယွမ်းက ဒိုင်လုပ်ခြင်း။

ပေါက်ယုသည် အပြင်သို့ ထွက်လာသည့်အခါတွင် ခန်းဆီး လိုက်ကာအနီးတွင် အခေါ်ဘော် ဟုပိုကိုတွေ့ရလေ၏။

"သခင်လေး၊ မြန်မြန်လာရှင့်။ မယ်မယ်စောင့်နေတယ်"

မယ်မယ်၏အဆောင်သို့ ရောက်သည့်အခါတွင် မယ်မယ်သည် သခင်မငယ်၊ မိန်းမပျိုများနှင့်အတူ ရှိစမ်းယဉ် ပြန်တော့မည် ဖြစ်သည့်အတွက် နှုတ်ဆက်ထမင်းကျွေးရန် တိုင်ပင်နေကြသည်ကိုတွေ့ရလေ၏။

ပေါက်ယုက

"မောင်ပြောမယ်လေ။ ခုထမင်းပွဲမှာ အပြင်က ညှိသည်တွေကို ဖိတ်မှာမှမဟုတ်ဘာ၊ ခပ်ကျဉ်းကျဉ်းပဲလုပ်ကြဘာပေါ့။ မောင်တို့ကြိုက်တဲ့ဟင်းတွေချည်းပဲ အချက်ခိုင်းမယ်။ စားပွဲတွေလဲများများခင်းစရာမလိုဘူး။ လူတစ်ယောက်ကို သုံးချောင်းထောက် လက်ဖက်ရည်စားပွဲကလေး တစ်လုံးစီခင်းပြီးတော့ ဟင်းကောင်းကောင်းနှစ်ခွက်ရယ်၊ အချိုအချဉ်ထည့်တဲ့ ဆယ်ခန်းတွဲယွန်းအစ်ကလေးတစ်လုံးစီရယ်၊ အရက်ချိုအိုး တစ်အိုးစီရယ် ချပေး။ ဒီလောက်ဆိုယင် တော်လောက်ပြီပေါ့"

မယ်မယ်ကလည်း ထိုအစီအစဉ်ကိုသဘောတူလိုက်၏။ မယ်မယ်သည် သူကြိုက်သည့်ဟင်းလျာများကိုစီမံရန် ချိုချဉ်ခဲဖွယ်တို့ကိုယွန်းအစ်ထလေးများတွင် ထည့်ပြီး ဥယျာဉ်ထဲတွင် တည်ခင်းရန်အမိန့်ပေးလိုက်လေ၏။ ထိုကိစ္စကိုပြောဆိုပြီးသော်အခါတွင် မီးအိမ်များကိုထွန်းညှိလိုက်ကြပြီးနောက် သူတို့အားလုံးသည် အိပ်ရာသို့ဝင်ခဲ့ကြလေ၏။

ကံအားလျော်စွာပင် နောက်တစ်နေ့မှာ ရာသီဥတု သာယာကြည်လင်လျက်ရှိလေ၏။ နံနက်လင်းသည်နှင့် လီဝမ်းသည် အိပ်ရာမှထကာ အစေတော်ထိန်းများ၊ အမစတော်များကိုခေါ်ကာ ဥယျာဉ်တွင် သစ်ရွက်ခြောက်များကို လှည်းကျင်းခြင်း၊ စားပွဲများ၊ ကုလားထိုင်များကို ဖုန်သုတ်ခြင်း၊ လက်ဖက်ရည်ပွဲအတွက်ပြင်ဆင်ခြင်း၊ အရက်အိုးများကို ပြင်ဆင်ခြင်း စသည့်ကိစ္စများဖြင့် အလုပ်များလျက်ရှိလေ၏။ ထိုသို့အလုပ်များလျက်ရှိစဉ် အစေတော်ဖုန်အဲသည် အဘွားလူနှင့် သူ့မြေးပန်အဲတို့နှင့်အတူ ရောက်လာ၏။

"သခင်မလေးတော့ အတော်အလုပ်များနေပြီနော်''ဟု အဘွားလူက ပြောလေ၏။

လီဝမ်းက ပြုံးလိုက်လျက်

"မနေ့တုန်းက အဘွားလူပြန်ဖြစ်မှာမဟုတ်ပါဘူးလို့ ကျွန်မ သိသားပဲ။ ဘာဖြစ်လို့များ ဒီသောက်တောင်အရေးတကြီးဖြစ်နေရဘာလဲ''

"မယ်မယ်ကတော့ တစ်နေ့လောက်နေပြီး အေးအေးဆေးဆေး နေစေချင်တယ်ထင်ပါရဲ့''

ဖုန်အဲက သော့တွဲတစ်တွဲကိုထုတ်လိုက်ကာ

"မလေးငှက်မယ်ကပြောလိုက်တယ်၊ အပြင်ဘက်မှာ သုံးချောင်းထောက်လက်ဖက်ရည်စားပွဲကလေးတွေ ထုတ်ပြီးသား မျှားများစားစား မရှိဘူးတဲ့။ မျော်စင်ပေါ်ကပစ္စည်းခန်းကိုတက်ပြီး ယူမှ လောက်မယ်တဲ့။ အစတုန်းကတော့ မလေးငှက်မယ်ကိုယ်တိုင် ပစ္စည်းခန်းကို တက်ကြည့်မလို့ပဲ၊ ဒါပေမယ့် သခင်မဝမ်နဲ့ စကားပြောနေလို့၊ မလေးကိုယ်တိုင်တက်ကြည့်လိုက်ပါတဲ့''





လီဝမ်းသည် စုယွန်ကိုသော့တွဲအကိုင်ခိုင်းပြီးနောက် အတွင်းဝင်းတံခါးရှိ သူငယ်တော်အချို့ကို အခေါ်ခိုင်းလိုက်လေ၏။ လီဝမ်းသည် မဟာနန္ဒာဥယျာဉ် ရှုခင်းသာခန်းဆောင်အောက်မှနေ၍ အပေါ်သို့မော့ကြည့်ရင်း သူငယ်တော်များအား သာနိုးပျော်ဖွယ်မျော်စင် အပေါ်ထပ်ပစ္စည်းခန်းကိုဖွင့်၍ လက်ဖက်ရည်စားပွဲကလေးများကိုချရန် ညွှန်ကြားလျက်ရှိလေ၏။ သူငယ်တော်များ၊ အစေတော်ထိန်းများနှင့် အစေတော်များသည် ပစ္စည်းများကို အောက်သို့ချနေကြ၏။ လီဝမ်းက

"ဟဲ့၊ သေသေချာချာတက်နော်၊ လိမ့်ကျနေကြဦးမယ်။ ဟိုတစ်ယောက်က ဘာဖြစ်လို့ ဒီလောက်သုတ်သီးသုတ်ပျာနိုင်နေရတာလဲ၊ နောက်က ကျားလိုက်လာလို့လားဟင်''ဟု အော်ဟစ် သတိပေးလျက်ရှိလေ၏။ ထို့နောက် လီဝမ်းသည် အဘွားလူဘက်သို့လှည့်လိုက်ပြီးလျှင်

"အဘွားတော အပေါ်ကိုတက်ကြည့်မလား''

အဘွားလူမှာ နောက်ထပ်တိုက်တွန်းစရာပင် မလိုတော့ဘဲ မြေးဖြစ်သူ ပင်အဲကိုခေါ်ကာ မျော်စင်လှေကားပေါ်သို့ရောက်နေလေပြီ။ မျော်စင်ပေါ်ရှိ ပစ္စည်းလှောင်ခန်းထဲတွင် ပစ္စည်းတွေပြည့်နှက်လျက်ရှိသည်ကို တွေ့ရ၏။ လိုက်ကာများ၊ စားပွဲများ၊ အလှတွန်းသည့် မီးပုံးရောင်စုံ အကြီးအသေးများနှင့် အခြားပစ္စည်းများကိုတွေ့ရလေ၏။ အချို့ပစ္စည်းများမှာ အမျိုးအမည်မသိသည့်တိုင် အရောင်စုံ၊ လက်ရာလှလှဖြင့် ပြုလုပ်ထားသည့်ပစ္စည်းများဖြစ်သည့်အတွက် အဘွားလူမှာ တစ်အံ့တစ်သြဖြစ်လျက်ရှိလေ၏။

'မြတ်စွာဘုရား၊ တယ်လဲများပါကလား''ဟုပင် ပြောမိလေ၏။

ပြန်ထွက်လာသည့် အခါတွင် သူငယ်တော်များသည် အခန်းတံခါးကိုသော့ခတ်ကာ အောက်သို့ဆင်းလာခဲ့ကြလေ၏။

မယ်မယ်သည် လှေစီးလိမ့်မည်ဟု တွက်မိသဖြင့် လီဝမ်းသည် လှေစီးရန် ပစ္စည်းများကို အထုတ်ခိုင်းပြန်လေ၏။ သူငယ်တော်များသည် ပစ္စည်းခန်းကိုဖွင့်ပြီးနောက် ခတ်တက်များ၊ ထိုးဝါးများနှင့်ယင်းများကို ယူလာကြလေ၏။ လှေရုံသို့သွားပြီး လှေနှစ်စင်းကို အသင့်ပြင်ထားရန် မလှလှော်သည့်အမျိုးသမီးများအား အပြောခိုင်းလိုက်လေ၏။

လီဝမ်းတစ်ယောက် ထိုသို့ အလုပ်များနေစဉ် မယ်မယ်သည် နောက်ပါများနှင့်အတူ သူတို့အနီးသို့ ရောက်လာလေ၏။ လီဝမ်းက မယ်မယ့်ဆီသို့လျှောက်လာခဲ့ကာ

"မယ်မယ်ကလဲ မနက်အစောကြီး ဘာဖြစ်လို့ ဆင်းလာရတာလဲ။ မလေးက မယ်မယ်တော့ မျက်နှာသစ်၊ ဘုရားဝတ်ပြုနေဦးမှာပဲလို့ထင်နေတာ။ ဂန္ဓမာပန်းတွေကို ဘောင် ခူးပြီးအပ့်ခိုင်းမလို့"

အစေတော်ပီယေ့သည် ကြာရွက်ပုံထုထားသည့် မြပန်းကန်ပြားတစ်ချပ်ပေါ်တွင် ဂန္ဓမာပန်းများကို ထည့်၍ အနီးတွင် ရပ်နေလေ၏။ မယ်မယ်သည် အနီရောင် ဂန္ဓမာပန်းပွင့်ကြီးတစ်ပွင့်ကိုရွေးယူပြီး ခေါင်းတွင် ထိုးလိုက်လေ၏။ ထို့နောက် အဘွားလူကိုမြင်သွားသည်တွင်

"လာ...အမယ်ကြီးအို၊ ကြိုက်ရာရွေးပြီးပန်လှည့်"

ဤတွင် နတ်ငှက်မယ်က အဘွားလူကိုအတင်းဆွဲခေါ်လာကာ

"လာပါ အဘွားရဲ့၊ အဘွားကို ငှက်မယ်တို့အလှပြင်ပေးပါ့မယ်"

နတ်ငှက်မယ်သည် ပန်းကန်ပြားထဲတွင်ထည့်ထားသည့် ဂန္ဓမာပန်းများကိုယူကာ အဘွားလူ၏ ခေါင်းတစ်ခေါင်းလုံးတွင် ပြည့်နေအောင် ပန်ပေးလေ၏။ အားလုံးမှာ ထိုအဖြစ်ကိုကြည့်၍ ရယ်နေကြလေ၏။

"အင်း...တစ်သက်မှာ ဂန္ဓမာပန်းကို တစ်ခါမှ မပန်ဖူးပါဘူးတော်၊ ဒီသို့ပန်းများကိုပန်ရဘယ်ဆိုတော့ ရှေးတုန်းက အကျွန့်ခေါင်းက ဘယ်လိုကုသိုလ်များ လုပ်ခဲ့လို့လဲမသိဘူး။ ဒီနေ့ ဘွားလူ့ကို ကံကောင်းလိုက်ပုံများ"

"အဘွားလူက ပန်းတွေနဲ့ မလေးငှက်မယ်ရဲ့မျက်နှာကိုပြန်ပေါက်ပါလား၊ သက်သက်မဲ့ အဘွားလူကို အစိမ်းသူရဲမကြီးနဲ့တူအောင် လုပ်ပေးနေတာ"ဟု တောင်းမှုဝိုင်းနောက်ကြ၏။

"ဘွားလူတို့က အိုလို့သာပေါ့၊ ငယ်ငယ်တုန်းကတော့သဲ့ ခုလိုပဲ ပန်းကြိုက်ပါ့တော်။ ဟောဒီလိုပန်းတွေဝေနေအောင်ပန်ပြီး ကာလသားတွေကို ကစားပြခဲ့တာပေါ့၊ ဒီနေ့တော့ ငယ်ငယ်တုန်းကလို မရှုပ်တော့ ပြန်ဖြစ်ဦးမှာပေါ့"





ထိုသို့ ရယ်မောပြောဆိုလာကြရင်း သူတို့တစ်သိုက်သည် တတိုင်းမွှေးဆောင် အနီးသို့ ရောက်လာခဲ့ကြလေ၏။ လသာဆောင် လက်ရန်းအကျယ်ကြီးပေါ်တွင် အစေတော်များသည် အဆင်သင့် ယူလာသည့် ဖဲထိုင်ဖုံကြီးကိုခင်းပေးကြလေ၏။ မယ်မယ်သည် တိုင်ကြီးတစ်လုံးကိုမှီအာထိုင်ဖုံပေါ်တွင် ထိုင်လိုက်ရင်း အဘွားလူအား သူ့အနီးတွင် လာထိုင်ရန် ခေါ်လေ၏။

"အမယ်ကြီးအို၊ ဒီလိုဥယျာဉ်ကြီးကို ဘယ်လိုသဘောရသလဲ"

"မြတ်စွာဘုရား၊ အကျွန်တို့တောသူတောင်သားများ နှစ်သစ်ကူးခါနီးတော့ မြို့တက်လာပြီး ပြက္ခဒိန်တွေ၊ အရုပ်ကားတွေဝယ်တယ်ဖျာ့။ အရုပ်ကားတွေက လှလွန်းတော့ ဒီလိုအရုပ်ကားတွေထဲမှာ လျှောက်သွားနေချင်လိုက်တာလို့ ပြောမိကြတယ်ဖျာ့။ အဲဒီထဲမှာဆွဲထားတဲ့ရှုခင်းတွေ၊ ဥယျာဉ်တွေက လှလွန်းလို့ လူ့ပြည်မှာ တကယ်မှ ရှိပါ့မလားလို့တောင် ထင်မိတယ်ဖျာ့။ ခု မယ်မယ်တို့ဥယျာဉ်ကြီးကို မြင်လိုက်တဲ့အခါကျတော့ ပန်းချီကားတွေထဲမှာ တွေ့ရတာထက် ဆယ်ဆလောက်လှနေတာကိုးဖျာ့။ ဒီလိုဥယျာဉ်ကြီးကို ပန်းချီဆွဲပြီး အိမ်ကလူတွေကိုပြချင်လိုက်တာ။ ဒီလိုပြနိုင်ယင် သေပျော်ပါပြီ"

မယ်မယ်က ဆီချွန်းကို လက်ညှိုးထိုးပြလိုက်ကာ

"ဟောဒီမှာ ကျုပ်မြေးမ ဆီချွန်းက ပန်းချီ အလွန်ကောင်းပါတော်၊ ဒါမျိုးဆိုဆွဲနိုင်တာပေါ့။ အမယ်ကြီးအိုလိုချင်ရင်ဆိုယင် မနက်ဖြန် အမိ အဆွဲခိုင်းလိုက်မယ်လေ"

အဘွားလူသည် ဝမ်းသာလွန်းသဖြင့် ဆီချွန်း၏ လက်ကို သွား၍ ဆွဲထားလေ၏။

"အံမယ်လေး၊ သခင်မလေးက ဆွဲတတ်သလား။ ရုပ်ကလဲချော၊ ငယ်ကလဲငယ်၊ ဒီလိုအရွယ်ကလေးနဲ့ ဒီလောက်လှတဲ့ ပန်းချီကားတွေကို ဆွဲတတ်တယ်ဆိုတာ ကုသိုလ်ထူးလို့ပေါ့တော်။ ကျုပ်ဖြင့် နတ်ပြည်က ဆင်းလာတဲ့ နတ်သမီးတွေနဲ့များ တွေ့နေသလားတောင် အောက်မေ့ပါတယ်"

ခဏနားကြပြီးနောက် မတ်မယ်သည် အဘွားလူအား ဥယျာဉ်ကို လိုက်ပြလေရာ ပထမဆုံး ဝေဠုဝန် ရိပ်သာသို့ ရောက်သွားကြလေ၏။ အတွင်းဝင်းထဲသို့ ဝင်လိုက်သည်နှင့် ဘေးတစ်ဘက်တစ်ချက်တွင် ဝါးပင်များ အုပ်မိုးလျက်ရှိသည့် ကျောက်စရစ်ခင်း လမ်းကလေးကို မြင်လိုက်ရလေ၏။ ကျောက်စရစ်လမ်းဘေး မြေပြင်မှာ စိမ်းညိုသောရေညှိတို့ဖြင့် ဖုံးလျက်ရှိလေ၏။ အဘွားလူသည် အခြားသူများကို ကျောက်စရစ်လမ်းပေါ်မှ လျှောက်စေပြီး သူကိုယ်တိုင်မှာမူ ဘေးမှ ဆင်းလျှောက်လေ၏။

"အဘွားလူ၊ ဒီကလျှောက်လေ။ ရေညှိတွေကချော်နေတယ်"ဟု ဟုပိုက အဘွားလူကို ဆွဲခေါ်၏။

"ကိစ္စမရှိပါဘူး၊ အဘွားလူတို့က လျှောက်နေကျပါ။ သွား၊ သွား၊ သခင်မလေးတွေသာ ရှောကသွားကြ။ ဖိနပ်ကလေးတွေ ညစ်ပတ်ကုန်လိမ့်မယ်"

ထိုသို့ပြောဆိုနေစဉ် အဘွားလူသည် အမှတ်တမဲ့ ဖြစ်သွားကာ ချော်သွားပြီး ဗိုင်းခနဲလဲကျသွားလေရာ အားလုံးက လက်ခုပ် လက်ဝါး တီး၍ရယ်ကြလေ၏။

"ဟဲ့ ကောင်မတွေ၊ ထူဖို့ဖြင့် စိတ်မကူးကြဘူး။ ကြည့်ပြီး ရယ်နေကြတယ်။ ထူလိုက်ပါဦး"ဟု မယ်မယ်က ပြောသေး၏။ အဘွားလူက ရယ်လိုက်ရင်း

"အကြွားသန်သွားတော့ ဒီလိုဖြစ်တာပေါ့"

"ခါးတွေဘာတွေများနာသွားသေးလား၊ အစေခံကောင်မ တစ်ယောက်လောက် အနှိပ်ခိုင်းလိုက်"

"အို့မယ်လေ၊ အကျွန်တို့က ဒီလောက်ဘော့ ရိုးနေပြီ။ နေ့တိုင်း လောက်လဲ လဲနေတာ။ လဲတိုင်းသာ အနှိပ်ခံနေရယင် ခက်ရော့ပေါ့"

အစေတော်ဇူချွန်းသည် သူတို့ဝင်နိုင်ရန်အတွက် အဆောင်ဝမှ ဝါးကန့်လန့်တာကို မ,ပေးထားလေ၏။ မယ်မယ်နှင့် အခြားသူများသည်လည်း အထဲသို့ ဝင်လာခဲ့ကာ အသီးသီးထိုင်ကြလေ၏။ ခဏကြာလျှင် ထိုက်ယုသည် ဗန်းငယ်တစ်ခုပေါ်တွင်လက်ဖက်ရည်ကရားတစ်ခုကိုတင်၍ မယ်မယ်အား လာရောက်ပေးလေ၏။





"ဒေါ်လေးတို့အတွက်တော့ လက်ဖက်ရည် မငွေ့နဲ့တော့ ဟော့။ ဘော်ပြီ"ဟု သခင်မဝမ်က ပြောလေ၏။

ထိုနောက် ထိုက်ယုက သခင်မဝမ် ထိုင်ရန်အတွက် သူထိုင်နေကျ ကုလားထိုင်ကို အစေခံ တစ်ယောက်အား အယူခိုင်းလိုက်လေ၏။ အဘွားလူမှာ ပြတင်းပေါက်အနီးရှိ စားပွဲပေါ်တွင် တင်ထားသော စုတ်တံများ၊ မှင်သွေးခုံများနှင့် စာအုပ်များကို ကြည့်၍ တအံ့တသြဖြစ်လျက်ရှိလေ၏။

"ဒါ သခင်လေးရဲ့စာကြည့်ဆောင် ထင်တယ်"

မယ်မယ်က ပြုံး၍ ထိုက်ယုကိုသက်ညှိုးထိုးပြလိုက်၏။

"ကျုပ်မြေးမရဲ့အဆောင်လေ"

အဘွားလူက ထိုက်ယုကိုစိုက်ကြည့်လိုက်ပြီးနောက်

"အဆောင်ကိုကြည့်ရတာက မိန်းကလေးတစ်ယောက်ရဲ့အဆောင်နဲ့ မတူဘူး။ စာကြည့်ဆောင်ကြီးလို ဟိန်းနေတာပဲ"

"ဟဲ့ ပေါက်ယု ဘယ်တစ်ယောက်တော"ဟု မယ်မယ်က မေးလိုက်၏။

"ကန်ထဲမှာ လှေစီးနေပါတယ် မယ်မယ်"ဟု အစေတော်များက ပြောကြလေ၏။

"လှေတွေကို ဘယ်သူက အထုတ်ခိုင်းလို့လဲ"

လီဝမ်းက ခပ်သွက်သွက်ဖြင့်

"မလေး အထုတ်ခိုင်းတာပါ မယ်မယ်။ မျှော်စင်ပေါ်ကနေပြီး ပစ္စည်းတွေချရင်း မယ်မယ် စီးချင်ယင်စီးရအောင်ဆိုပြီး ခတ်ဘက်တွေပါ ချလာခဲ့ပါတယ်"

မယ်မယ်က မည်သို့မျှ ပြောရသေးမီ ဒေါ်လေးဆွေ့ ရောက်လာလေ၏။ သူတို့က ထိုင်ရာမှထ၍ အရိုအသေမပြုရသေးမီမှာပင် ဒေါ်လေးဆွေ့မှာ ခန်းဆောင်ထဲသို့ ရောက်နေလေပြီ။ အားလုံး ပြန်ထိုင်ကြသည့်အခါတွင် ဒေါ်လေးဆွေ့က

"မယ်မယ် ဒီလိုအစောကြီးရောက်လာပုံထောက်တော့တော်တော် စိတ်လက်ကြည်လင်ပုံရတယ်"

"စောစောကတင် ပြောနေသေးသတော့။ နောက်ကျတဲ့လူကို ဒဏ်ရိုက်ရမယ်လို့။ ခုတော့ ညည်း ဖြစ်နေပြီပဲ။ ဒဏ်အရိုက်ခံရတော့မယ် ထင်တယ်"

အတန်ကြာ စကားပြောဆိုနေကြပြီးနောက် မယ်မယ်က ပြတင်းတွင် တပ်ထားသည့်ဇာခန်းဆီးကိုကြည့်ကာ အရောင်လွင့်နေပြီဟုပြောလေ၏။ သခင်မဝမ်က

"အဲဒီခန်းဆီးက အသစ်တုန်းက သိပ်လှတာ။ အစိမ်းရောင်ကို လွင်နေတာပဲ။ ဒါပေမယ့် သိပ်မခံလိုက်ဘူး၊ ခဏကြာတော့ အရောင်လွင့်သွားတယ်။ ဒါပေမယ့် ဘယ်လိုပဲဖြစ်ဖြစ် ဒီဝင်းထဲမှာ ဆီးတော်တို့၊ မက်မုံပင်တို့မရှိဘဲ ဝါးပင်တွေချည်းဆိုတော့ နဂိုကပဲ စိမ်းနေတာ။ အစိမ်းရောင်မရှိလဲ ကိစ္စရှိပါဘူး။ စံအိမ်မှာ ခန်းဆီးအရောင် လေးငါးမျိုးရှိပါတယ်။ မနက်ဖြန်ကျတော့ လဲပေးလိုက်ပါ့မယ်"

နတ်ငှက်မယ်က

"ပစ္စည်းလှောင်ခန်းကို မနေ့က ငှက်မယ်ဖွင့်ကြည့်တော့သေတ္တာကြီးတစ်လုံးထဲမှာ ပုစဉ်းတောင်ဇာခန်းဆီးပန်းနီရောင်တွေ တစ်အုပ်ကြီး တွေ့တယ်။ အဆင်ကတော့ အမျိုးမျိုးပဲ။ တချို့က ပန်းတွေ ဆုပ်ကြဲထားသလိုပဲ။ တချို့ကျတော့ တိမ်လိပ်တွေ၊ ငှက်တွေ၊ လိပ်ပြာတွေ၊ ပန်းပွင့်တွေနဲ့။ အရောင်တွေကလဲ လှနေတာပဲ။ နှုလိုက်တဲ့ဇာကလဲ မပြောပါနဲ့တော့။ တစ်ခါမှ ဒါမျိုးမတွေ့ဖူးဘူး။ အိပ်ရာဖုံးလုပ်ရအောင်ဆိုပြီး ငှက်မယ်တောင် နှစ်အုပ်ဆုတ်ခဲ့သေးတယ်"

မယ်မယ်က

"ဘာရယ်အေ့။ ညည်းမမြင်ဖူးတာ၊ မကြားဖူးတာရယ်လို့ မရှိဘူးဆို။ ခုတော့ ဒီဇာကို ခုမှမြင်ဖူးတယ်လား။ ဘယ်နယ်ရှိစ၊ မရွှေစာ။ ရှေ့မှာအကြွားကလေးလဲ နည်းနည်းလျှော့ပါဦးနော်"

ဒေါ်လေးဆွေ့က

"ငှက်မယ် ဘယ်လောက်ပဲ သိတယ်ပြောပြော၊ မယ်မယ့်ကိုတော့ ဘယ်မီပါ့မလဲ မယ်မယ်ရယ်။ ငှက်မယ်ကို ပညာလေးဘာလေးလဲပေးစပ်ပါဦး။ ကျွန်မတို့လဲ ကြားရအောင်"





"ဟုတ်သားပဲ မယ်မယ်။ ငှက်မယ်ကို ပညာပေးပါဦး"ဟု ငှက်မယ်က ပြုံး၍ပြောလေ၏။

ဤသို့ မယ်မယ်က ပြောသည်မှာ

"အဲဒီဇာအုပ်ဟာ ညည်းတို့ထက်တောင် အသက်ကြီးသေးတယ်အေ့။ ငှက်မယ်က ပုစဉ်းတောင်ဇာလို့ပြောတာလဲ အပြစ်ဆိုနဲ့၊ အဲဒီဇာအုပ်နဲ့ ပုစဉ်းတောင်ဇာအုပ်က သိပ်တူလွန်းတော့ တော်တော့်လူဆို ယင်ခဲ့တတ်ဘူး။ အမှန်က အဲဒါ ပုစဉ်းတောင်ဇာမဟုတ်ဘူး၊ နှင်းအိမြူပိုးတဲ့တော်"

နတ်ငှက်မယ်က

"ဟယ် နှင်းအိမြူတဲ့လား။ နာမည်ကလေးက ချစ်စရာကလေးနော်၊ လှလိုက်တာနော်။ ငှက်မယ်လဲ ပိုးတွေအများကြီးကိုတွေ့ခဲ့ဖူးပါရဲ့၊ ဒါပေမယ့် အဲဒီနှင်းအိမြူပိုးဆိုတာကို တစ်ခါမှမကြားဖူးဘူး"

"ကြားဖူးမလားအေ့၊ ညည်းတို့ လူဖြစ်လာတာ ဘယ်လောက်များကြာသေးလို့လဲ။ ဒီလိုရှားရှားပါးပါးဟာတွေကို ဘယ်လောက်များမြင်ဖူးတွေ့ဖူးကြလို့လဲ၊ ညည်းတို့က ကြွားချင်လို့သာကြွားနေကြတာ၊ အဲဒီနှင်းအိမြူပိုးဆိုတာက အရောင်လေးမျိုးပဲရှိတယ်။ အပြာနုရယ်၊ မရမ်းရယ်၊ အစိမ်းရင့်ရယ်၊ ပန်းရောင်ရယ် လေးမျိုးပဲထုတ်တယ်။ အိပ်ရာကန့်လန့်ကာတို့ ပြတင်းပေါက် ခန်းဆီးတို့မှာ သုံးရတယ်။ အဝေးကနေကြည့်ရင် မီးခိုးလိုလို၊ နှင်းလိုလို၊ မြူလိုလိုပဲ၊ ဒါကြောင့် သူ့ကို နှင်းအိမြူပိုးလို့ခေါ်တာ။ ပန်းနုရောင်နှင်းအိမြူပိုးကျတော့ တိမ်နှင်းဆီဇာတဲ့တော့။ ဒီနေ့ ရွှေနန်းတော်ကြီးမှာသုံးနေတဲ့ဇာတောင် သူ့လောက် မနုချင်ဘူး"

"ငှက်မယ်မမြင်ဖူးကတော့ ထားပါတော့၊ ငယ်သေးလို့။ ကျွန်မတောင် ခုမှပဲမြင်ဖူးတယ်"ဟု ဒေါ်လေးဆွေ့ကပြော၏။

နတ်ငှက်မယ်ကအယူခိုင်းလိုက်သဖြင့် ဇာအုပ်တစ်အုပ် ရောက်လာ၏။ မယ်မယ်က

"ဟောဒါပဲအေ့၊ ပြတင်းပေါက်ခန်းဆီး သုံးတယ်။ နောက်တော့ အိပ်ရာဖုံးတွေ၊ အိပ်ရာခန်းဆီးတွေအတွက်လဲ ကောင်းတယ်ဆိုပြီး

သုံးကြတယ်။ မနက်ဖြန်ကျယင် ထပ်ထုတ်ပြီး ထိုက်ယုခန်းဆောင်က ခန်းဆီးတွေကို လဲပေးလိုက်ပါအေ”

နတ်ငှက်မယ်က ပြောသည့်အတိုင်း လုပ်ပေးမည်ဖြစ်ကြောင်း ပြောနေစဉ် အခြားသူများသည် ဇာအုပ်ကို ကိုင်ကြည့်နေကြ၏။ အဘွားလူကား မျက်လုံးကျွတ်ကျမတတ် စူးစိုက်ကြည့်လျက်ရှိလေ၏။

“မြတ်စွာဘုရား၊ ဒီလိုဇာမျိုးဘယ်မြင်ဖူးပါ့မလဲ။ ပြတင်းပေါက်တွေမှာသုံးတယ်ဆိုတော့ နှမြောစရာကြီး”

“အင်္ကျီတို့ဘာတို့ ချုပ်ဝတ်လို့တော့ ဘယ်ကောင်းပါ့မလဲ” မယ်မယ်ကပြောလေ၏။

နတ်ငှက်မယ်သည် သူဝတ်ထားသည့်ဇာအင်္ကျီနီ ရင်ဖုံးကို ပြလိုက်ကာ

“ငှက်မယ်ရဲ့အင်္ကျီကိုကြည့်စမ်းပါဦး”

မယ်မယ်နှင့် ဒေါ်လေးဆွေ့တို့က

“ဒါလဲ တော်တော်ကောင်းတဲ့ဇာပဲ။ ခုဆိုယင် ရွှေနန်းတော်ကြီးအတွက်ပဲ ရက်တော့တယ်။ ဒါတောင် ခုတင်အပြဲ့တဲ့ နှင်းအိမြူနဲ့ စယှဉ်ယင် သိပ်မကောင်းသေးဘူး”

“အံ့ယ်လေး မယ်မယ်ရယ်၊ ဒီလောက်ညံ့တဲ့ ဇာမျိုးကို ရွှေနန်းတော်ကြီးက သုံးသတဲ့သား။ တကယ်ကတော့ အရာရှိကတော် မယ်မယ်တောင် တောက်တောင်သုံးမယ်မထင်ပါဘူး” /

မယ်မယ်က

“အပြာနုရောင်ရှိသေးသလား၊ အပြာနုရောင်ရှိယင် အဘွားလူကို တစ်အုပ်လောက်ပေးလိုက်ကြပါအေ။ အိမ်မှာ ဖဲပ်ရာခန်းဆီး သုံးရတာပေါ့။ ပိုတဲ့အစကို လိုက်တဲ့အရောင်နဲ့ အနားကွပ်ပြီး အစေတော်မတွေအတွက် အပေါ်အင်္ကျီလက်ပြတ် ချုပ်ပေးလိုက်ပါ၊ ကြာကြာ သိမ်းမထားပါနဲ့။ ပေါ်တော်ကြာ ခြတွေပိုးတွေ ကိုက်ပြီး အလကားဖြစ်ကုန်လိမ့်မယ်”

နတ်ငှက်မယ်သည် ဟုတ်ကဲ့ဟုပြောကာ ပစ္စည်းများကိုအသိမ်းခိုင်းလိုက်လေ၏။ မယ်မယ်လည်း ထိုင်ရာမှထလေ၏။





“ကဲ လျှောက်ကြည့်ကြဦးစို့၊ ဘာဖြစ်လို့ ဒီနေရာမှာကြာကြာထိုင်နေဦးမလဲ”

အဘွားလူက မကြာခဏဘုရားတ,က

“အင်း မြတ်တဲ့သူများဟာ မြတ်တဲ့အိမ်ကြီးတွေမှာနေကြရတယ်ဆိုတာ ဘယ်မှန်တော့မလဲနော်၊ မနေ့က မယ်မယ်ရဲ့အဆောင်ကို ရောက်တော့အကျွန်ဖြင့် အံ့သြလို့မဆုံးဘူး၊ သေတ္တာကြီးတွေကလဲ နည်းတဲ့သေတ္တာကြီးတွေမဟုတ်ဘူး။ ဗီရိုကြီးတွေကလဲ နည်းတဲ့ဗီရိုကြီးတွေ မဟုတ်ဘူး၊ ခုံပွဲကြီးတွေကလဲ အကြီးကြီး၊ အိပ်ရာကြီးကလဲ မပြောနဲ့တော့။ အဝတ်ဗီရိုကြီးကပဲ အကျွန်တို့အိမ်က အခန်းကလေးထက်မြင့်လဲမြင့် ကြီးလဲကြီးနေတယ်။ ဗီရိုကြီးနောက်မှာ လှေကားတပ်ထားရတာ ဘာအံ့သြစရာရှိတော့သလဲ၊ သူတို့တစ်တွေက ပစ္စည်းတွေကို ခေါင်မိုးပေါ်တက်ပြီး နေပူပြသလဲ မဟုတ်ပါဘူး။ ဒီလှေကားကြီးက ဘာလုပ်ဖို့ပါလိမ့်မလဲလို့တွေးနေမိတယ်။ နောက်တော့မှ ဗီရိုအပေါ်အံတွေကို ပစ္စည်းတွေထည့်ဖို့ ဒီလှေကားကြီးကို သုံးတာကိုးလို့သိရတယ်။ ပစ္စည်းလှောင်တဲ့အခန်းထဲကျတော့ အခန်းကျယ်ကြီးမှာ ထက်တောင် ပစ္စည်းစုံနေသေးတယ်၊ အဲဒီမှာ ပစ္စည်းအလှအပတွေချည်းပဲ၊ နည်းတာမဟုတ်ပါဘူး။ တချို့ဟာတွေဆိုယင် ဘာပစ္စည်းတွေမှန်းတောင် မသိဘူး။ ကြည့်လေလေ အခန်းထဲကမထွက်ချင်လေလေပဲ”

နတ်ငှက်မယ်က

“အဘွားလူကို ဒီထက်ကောင်းတဲ့နေရာတွေကို လိုက်ပြရဦးမယ်”

တဝဲ့ဆောင်မှထွက်လာသည့်အခါ ကန်ထဲတွင် လှေစီးနေကြသူတစ်သိုက်ကို မြင်ရ၏။

“လှေတွေထုတ်ပြီးသားဆိုယင်လဲ စီးကြရအောင်အေ” ဟု မယ်မယ်က ပြောလေ၏။

သူတို့တစ်သိုက်သည် လေးညှင်းကျွန်းညိုနှင့် ပေဒါကမ်းသို့ ရောက်လာကြစဉ် ရွှေချေးယွန်းချိုင့်ကြီးများကို ကိုင်၍ စောင့်နေကြသည့် အစေတော်သိန်းများကို တွေ့ရလေ၏။

နတ်ငှက်မယ်သည် မည်သည့်နေရာတွင် မနက်စာစားမည်နည်း သခင်မဝမ်ကို မေးလေ၏။

"မယ်မယ်သဘောကျတဲ့နေရာပေါ့လေ"

သူတို့ပြောနေသည်ကို ကြားသည့်အခါတွင် မယ်မယ်သည် ရှေ့ သွားနေရာမှ နောက်သို့ သမင်လည်ပြန်လှည့်ကြည့်လိုက်ရင်း

"တန်ချွန် ရဲ့အဆောင်မှာ မကောင်းဘူးလား။ အဲဒီနေရာက က သာ ယာသားပဲ၊ ယွန်းချိုင့်တွေကို အဲဒီကိုယူသွားခိုင်းလိုက်ပေါ့၊ ပျော် လှေနဲ့သွားကြတာပေါ့"

နတ်ငှက်မယ်သည် လီဝမ်း၊ တန်ချင်း၊ ယုန်ယွမ်း၊ ဟုပို့ အတူ စားသောက်ဖွယ်ရာများကိုယူ၍ ပြန်လှည့်လာခဲ့ကြလေ၏။ မန်ဆန်းသစ်ဆောင်သို့ ဖြတ်လမ်းမှလာခဲ့ကြပြီးလျှင် မနက်ခင်း ခန်းဆောင်တွင် စားပွဲများကို ပြင်ဆင်ခင်းကျင်းလျက်ရှိလေ၏။

ယုန်ယွမ်းက ရယ်လိုက်လျက်

"အပြင်မှာ ယောကျ်ားတွေ စားသောက်ပွဲကြီးခင်းယင် သူ ဖျော်ဖြေဖို့ လူပြက်တစ်ယောက်ပါရသတဲ့။ ဒီနေ့ ကျွန်မတို့မှာလဲ မိန် လူပြက်တစ်ယောက်ပါတယ်"

လီဝမ်းမှာ ရိုးသဖြင့် သူပြောသည့်အဓိပ္ပာယ်ကို ကောင်းစွာ မလည်သည့်တိုင် အဘွားလူအား ရည်ရွယ်ပြောဆိုခြင်း ဖြစ်ကြော င်း နတ်ငှက်မယ်သိလိုက်၏။

"ဟုတ်တယ်၊ အဘွားလူပါယင် ရယ်ရမယ်"

ထို့နောက် နတ်ငှက်မယ်နှင့် ယုန်ယွမ်းသည်သူတို့အစီအစဉ်မျ ကို တိုင်ပင်နေကြလေ၏။

"ဟောဒီမလေးငှက်မယ်ဟာ တော်တော်ဆိုးတယ်၊ ကလေး ပဲ။ ဒါကြောင့်မို့ သူ့ကို မယ်မယ်က ခဏခဏကြိမ်းတာ" ဟု လီဝမ်း ပြုံး၍ပြောလေ၏။

"မလေးလီဝမ်း မပါပါဘူး။ အဘွားလူကို ရယ်အောင်လု ကျွန်မတာဝန်ထားပါ"ဟု ယုန်ယွမ်းကပြောလေ၏။





သူတို့စကားပြောနေကြစဉ် ကျန်လူများလည်းရောက်လာကြလေ ၏။ ကိုယ်ကြိုက်သည့် နေရာတွင် ဝင်ထိုင်ကြစဉ် အစေတော်များက လက် ဖက်ရည် တည်ခင်းလေ၏၊ နတ်ငှက်မယ်သည် ပိုးလက်သုတ်ပဝါတစ်ထည် ဖြင့် ပတ်လာသော ငွေပန်းခက်မြ ပ်၍ တည်နှစ်ဖြင့်လုပ်ထားသည့်တူများ ကို လိုက်ချပေးလေ၏။

'ဟဲ့၊ အဲဒီစားပွဲခုံကလေးကို ဒီဘက်ကိုယူခဲ့ပါ။ ငါ့မှာ မယ်ကြီး အိုနဲ့ စကားပြောရအောင်"ဟု မယ်မယ်ကပြောလေ၏။

မယ်မယ်၏ အမိန့်အတိုင်း စားပွဲခုံကို ရွှေ့၍ နတ်ငှက်မယ်သည် အဓိပ္ပာယ်ပါသော အကြည့်ဖြင့် ယုန်ယွမ်းကို လှမ်းကြည့်လိုက်လေ၏။ ထိုစဉ် အစေတော်တစ်ယောက်သည် အဘွားလူအနီးသို့ သွားကာ ခပ် တိုးတိုး ပြောဆိုပြီးနောက်

"အဲဒါ ကျွန်မတို့အိမ်ရဲ့ထုံးစံနော် အဘွားလူ၊ ဒီထုံးစံအတိုင်း မလိုက်ယင် လူရယ်စရာဖြစ်နေလိမ့်မယ်"

အားလုံး အဆင်သင့်ဖြစ်သည့်အခါ စားပွဲများတွင် နေရာယူကြ လေ၏။ ဒေါ်လေးဆွေ့မှာ မနက်စာစားပြီး ဖြစ်သည့်အတွက် ဘာမျှ မစားတော့ဘဲ အနီးတွင်ထိုင်ကာ လက်ဖက်ရည်သောက်လျက် ရှိလေ၏။ မယ်မယ်၏စားပွဲတွင် ပေါက်ယု၊ ရှီစမ်းယဉ်၊ ထိုက်ယုနှင့်ပေါက်ကြည်တို့ ထိုင်လျက်ရှိပြီး သခင်မဝမ်၏စားပွဲတွင် ယင်ချွန်း၊ တန်ချွန်းနှင့်ဆိချွန်းတို့ ထိုင်လျက်ရှိပြီး အဘွားလူမှာ မယ်မယ့်စားပွဲအနီးတွင်ထိုင်လျက်ရှိလေ၏။

ခါတိုင်းဆိုလျှင် ယုန်ယွမ်းသည် မယ်မယ့်အနီးတွင် လက်ဆေး ခွက်၊ ခြင်ရိုက်နှင့် လက်သုတ်ပဝါတို့ကို ကိုင်လျက် အစေတော်များကို အဆင်သင့် စောင့်ခိုင်းတတ်၏။ ယနေ့တွင်မူ ယုန်ယွမ်းသည် အစေတော် ငယ်များအား အနားသို့ မလာစေတော့ဘဲ သူကိုယ်တိုင် ခြင်ရိုက်ကိုကိုင်၍ မယ်မယ့်အနီးတွင် စောင့်လျက်ရှိလေရာ အဘွားလူကို နောက်ပြောင်လို သည့်အတွက် တမင်စီစဉ်ဖို့ နေကြောင်းကို အစေတော်ငယ်များ ရိပ်မိ ကြ၏။

ယုန်ယွမ်းသည် အဘွားလူအနားသို့ကပ်ကာ "မမေ့နဲ့နော်အဘွားလူ"ဟု သတိပေးလိုက်သည်။ အဘွားလူကလည်း "စိတ်ချပါ မလေးရယ်"ဟု ပြန်ပြောလေ၏။

အဘွားလူသည် သူ့နေရာတွင် ထိုင်လိုက်သည်နှင့် တူများကို ကောက်ကိုင်လိုက်ရာ တူများမှာ အကိုင်ရခက်နေသည်ကို တွေ့ရလေ၏။ နတ်ငှက်မယ်နှင့် ယုန်ယွမ်းသည် အဘွားလူရှေ့တွင် ရွှေပန်းခက်မြုပ်ထားသည့် လေးထောင့်ဆင်စွယ်ဘူကြီးတစ်စုံကို ချပေးထားသောကြောင့် ဖြစ်လေ၏။

'ဒီညှပ်ကြီးတွေကလဲဘော် အကျန်တို့ဘောကာ သံဂေါ်ပြားကြီးတွေထက်တောင် လေးပါသေးကလား၊ ဘယ်လိုလုပ်ကိုင်ရမယ်သို့တောင် မပြောတတ်တော့ဘူး"

အားလုံးက ဝိုင်းရယ်လိုက်ကြလေ၏။ ထိုစဉ် အစေခံတစ်ယောက်က သောတ္တာဘစ်လုံးကိုယူ၍ အနားတွင် လာရပ်နေပြီး အခြားအစေတော်တစ်ယောက်က အဖုံးကိုဖွင့်လိုက်ရာ ပန်းကန်နှစ်သုံးကို တွေ့ရလေ၏။ လိဝမ်းက တစ်လုံးကို မယ်မယ့်စားပွဲပေါ်သို့တင်လိုက်ပြီး နတ်ငှက်မယ်က ခိုဥများပါသည့်ပန်းကန်ကို အဘွားလူ၏ စားပွဲပေါ်သို့ တင်လိုက်လေ၏။ မယ်မယ်က စားရန်ဘိုက်တွန်းလေ၏။

ဤတွင် အဘွားလူသည် ရုတ်တရက်ထ၍ရပ်လိုက်ကာ

"တောင်ယာတောက အဘွားလူ
နွားမကြီးထက်ဆူ
ဆူပေမယ်လို့ အသားများ
ရတာအကုန်စား"

ဟုဆိုကာ ထိုင်ချလိုက်ပြီးနောက် ရှေ့မှပန်းကန်ကို ကြည့်နေလေ၏။

ရုတ်တရက်သော် အားလုံး ကြောင်သွားကြလေ၏။ သို့ရာတွင် ခဏကြာလျှင် အားလုံး တဝါးဝါး ဖြစ်နေကြလေပြီ။ ရှိစမ်းယဉ်မှာ ထမင်းတွေ ပါးစပ်ထဲမှ ပြန်ထွက်ကုန်လေ၏။ ယိုက်ယုမှာလည်း သီးကာ စားပွဲပေါ်တွင် ခေါင်းတင်ကာ မရှုနိုင် မကယ်နိုင် ဖြစ်လျက်ရှိလေ၏။ ပေါက်ယုမှာ မယ်မယ့်ကိုဖက်၍ တအားရယ်လျက်ရှိလေ၏။ သခင်မဝမ်





ကမူ နတ်ငှက်မယ်ကို လက်ညှိုးထောင်၍သတိပေးလျက်ရှိသည့်တိုင် စကားမပြောနိုင်ဘဲ ရယ်လျက်ရှိလေ၏။ ဒေါ်လေးဆွေ့မှာ လက်ဖက်ရည်တွေ သီးကာ ဖူးခနဲမှုတ်ထုတ်လိုက်မိသည်တွင် တန်ချွန်း၏အင်္ကျီတွေစိုကုန်လေ၏။ တန်ချွန်းကလန့်ပြီး လက်မှပန်းကန်ကို လွှတ်ချလိုက်သည်တွင် ထမင်းတွေ ယင်ချွန်းကိုယ်ပေါ်သို့ ဖိတ်ကုန်လေ၏။ ဆီချွန်းမှာ ထိုင်ရာမှထကာ အူနှိပ်၍ ရယ်လျက်ရှိလေ၏။

အစေတော်များမှာလည်း အော်သူအော်၊ ထိုင်ချ၍ ရယ်သူရယ်ဖြစ်လျက်ရှိပြီး အချို့အစေတော်များက သခင်မလေးများအင်္ကျီကို သုတ်ပေးရန် အဝတ်များကို ပြေးယူကြလေ၏။

နတ်ငှက်မယ်နှင့်ယုန်ယွမ်းတို့နှစ်ယောက်ကမူ မပြုံးမရယ် ရှုတည်တည်ဖြင့် အဘွားလူကို အစားခိုင်းလျက်ရှိလေ၏။ သို့ရာတွင် အဘွားလူသည် တူကိုကိုင်လိုက်သည့်အခါဝင်ကိုင်၍မရဘဲဖြစ်လျက်ရှိလေ၏။

"စံအိမ်တော်မှာ လူမပြောနဲ့ ကြက်ကလေးတွေကအောင်လှတယ်နော်။ ကြည့်ပါဦး၊ ဥကလေးတွေအုထားလိုက်တာ သေးသေးလေးတွေ၊ ချစ်စရာကောင်းပါဘိသနဲ့။ ကဲ၊ အကျွန်ုပ် တစ်လုံးဆော်လိုက်ဦးမယ်"

ဤတွင် အားလုံး ဝါးခနဲ ဖြစ်သွားကြပြန်လေ၏။ မယ်မယ်မှာ ရယ်ရလွန်းသဖြင့် မျက်ရည်တွေထွက်နေလေပြီ။

"ကေနွ မျောက်မ ငှက်မယ် နောက်တာနေမှာပဲ။ မယ်ကြီးအို၊ ငှက်မယ် ပြောတာတွေကို ယုံမနေနဲ့။ အလကား၊ မယ်ကြီးအိုကို နောက်နေတာ"

"ကြက်ဥကလေးတွေက ချစ်စရာကလေးတွေတော်၊ သေးသေးကလေးတွေရယ်၊ အကျွန်ုပ်တစ်လုံးလောက် ဆော်သိုက်ဦးမှပဲ"ဟုဆိုကာ အဘွားလူသည် ခိုဥတစ်လုံးကိုတူဖြင့် ကော်၍ နေလေရာ ညှပ်၍မရဘဲရှိလေ၏။

"တစ်လုံးကို ငွေစင် တစ်ကျပ်သားတောင် ပေးရတာ အဘွားလူရဲ့။ ပူပူလေးသုံးဆောင်လိုက်၊ ဒါမှအရသာရှိတာ"ဟု နတ်ငှက်မယ်က ပြောလေ၏။

အဘွားလူသည် ဥတစ်လုံးကို တူဖြင့်ညှပ်ယူလိုက်လေ၏။ သို့ရာတွင် ညှပ်၍မရနိုင်ဘဲဖြစ်လျက်ရှိလေ၏။ သို့ဖြင့် လွတ်သွားလိုက်၊ ညှပ်လိုက်ဖြင့် အတော်ကြာသည့်အခါမှ ဥကိုညှပ်မိလေ၏။ သို့ရာတွင် စားမည်ဟုပါးစပ်ကို ဟလိုက်စဉ် ဥသည် ကြမ်းပေါ်သို့ လွတ်ကျသွားလေ၏။ အဘွားလူက တူကိုချ၍ ကုန်းကောက်မည်ပြုစဉ် အစေတော်တစ်ယောက်က ကောက်ပေးလိုက်ပြီး

"အဘွားရေ ကြက်ဥတစ်လုံး ကြမ်းပေါ်ကျတာဟာ ငွေစင်တစ်ကျပ်သား ကျသွားတာနဲ့အတူတူပဲနော်၊ ချင်ချင်မမြည်ဘာတစ်ခုပဲ"

ဟု ပြောလေ၏။

အဘွားလူသည် ဥကိုတူဖြင့် ညှပ်သော်လည်း ညှပ်၍မရနိုင်ဘဲဖြစ်လျက်ရှိလေ၏။ အခြားသူများလည်း ဆက်၍ မစားနိုင်ကြသေးဘဲ အဘွားလူကိုကြည့်လျက်ရှိကြလေ၏။

"ဒါက ပွဲသိမ်းနဲ့ကျွေးတဲ့ပွဲမှမဟုတ်ဘာ။ ဒီတူကို ဘယ်သူထုတ်ပေးမှာလဲအေ။ ကျေနှ ရှပ်တေးမ မိငှက်မယ်ပဲနေမှာပဲ။ သွားပါ၊ တူကို လဲပေးလိုက်ကြစမ်းပါ"

အဘွားလူအတွက် ဆင်စွယ်တူများကို ယူလာသူများမှာ နတ်ငှက်မယ်နှင့်ယုန်ယွမ်းတို့ဖြစ်လေ၏။ ထိုအခါကျမှ ငွေပန်းမြုပ်ဘည်နှစ်သားတူများကို ယူလာကြလေ၏။

"အင်း ခုတင်က ရွှေကွပ်တဲ့ တူဘော့ပြီးလို့ ငွေကွပ်တဲ့တူတွေရောက်လာပြန်ပြီပေါ့။ ဒါတောင်မှ အကျွန်တို့တောမှာသုံးတဲ့ တူတွေလိုကိုင်လို့ မကောင်းသေးဘူး"

"ငွေကွပ်ထားတာ တခြားကြောင့် မဟုတ်ဘူး အဘွားလူရဲ့။ အစာထဲမှာအဆိပ်ပါယင် ကွပ်ထားတဲ့ငွေတွေက အရောင်ပြောင်းသွားတယ်။ ဒါ့ကြောင့်မို့ ငွေကွပ်ထားတာ" ဟု နတ်ငှက်မယ်က ပြောလေ၏။

"အလို အဆိပ်၊ ဟုတ်လား။ ဒီလောက် ကောင်းတဲ့အစာထဲမှာတောင် အဆိပ် ပါတယ်ဆိုယင် အကျွန်တို့တောမှာ စားတဲ့ အစာတွေကတော့ စိန်ထည့်ထားတာနဲ့အတူတူပေါ့။ ဒီလောက် ကောင်းတာထဲမှာအဆိပ်ယင်လဲ ပါစမ်းပါစေ့ဘော်။ သေချင်လဲသေ စားပစ်လိုက်မယ်"





မယ်မယ်မှာ အဘွားလူရိုးအပုံ့ကြည့်၍ ရယ်လျက်ရှိရာမှ သနားသွားကာ သူစားနေသည့် ဟင်းခွက်အချို့ကို လှမ်းပေး လိုက်လေ၏။ ထို့ပြင် အဘွားလူ၏မြေးပင်အဲကိုလည်း ဝအောင်ကျွေးရန် အစေတော်များကို အမိန့်ပေးလျက်ရှိလေ၏။

စားသောက်ပြီးသည့်အခါ၌ မယ်မယ်သည် တန်ချွန်း၏ အိပ်ခန်းဆောင်ထဲသို့ဝင်ကာ ထိုင်၍ စကားပြောလျက်ရှိလေ၏။ အစေတော်များက စားပွဲများကို သိမ်းလျက်ရှိပြီး လီဝမ်းနှင့်နတ်ငှက်မယ်စားရန် စားပွဲတစ်ချပ်ကို ခင်းနေလေ၏။

အဘွားလူက အစေတော်များ လုပ်ကိုင်နေကြသည်ကို ငေးကြည့်ရင်း

"ဒီပြင်ဟာတွေတော့မသိဘူး၊ ဒါပေမယ့် အကျွန်တော့ သခင်မလေးတို့အိမ်မှာ လုပ်တာ ကိုင်တာတွေကို သိပ်သဘောကျတာပဲ၊ ဒါကြောင့် 'ကောင်းသောအမူအရာ၊ အပြောအဆိုတို့သည် အိမ်ကြီး အိမ်ကောင်းများတွင်သာရှိသည်' လို့ ရှေးလူကြီးများပြောကြတာကိုး"

နတ်ငှက်မယ်က

"အဘွားလူစိတ်မဆိုးနဲ့နော်၊ ငှက်မယ်တို့ကပျော်လို့နောက်တာ"

ယုန်ယွမ်းကလည်း ပြုံးလျက်

"အဘွား ကန်တော့နော်၊ ကျွန်မတို့က ပျော်ရအောင် နောက်တာပါ"

"အံမယ်လေး ကိစ္စမရှိပါဘူးဘော်။ အကျွန်တို့က မယ်မယ်ပျော်ရအောင် နောက်ပြောင်ကြတာပဲ၊ ဘာဖြစ်လို့စိတ်ဆိုးရမှာလဲ။ ဒီစံအိမ်မှာ ဘယ်လိုထုံးစံတွေရှိတယ်ဆိုပြီး အကျွန့်ကိုလာပြောကတည်းက သူတို့ တစ်ခုခုရယ်စရာဖြစ်အောင် လုပ်ကြတော့မယ်လို့တော့ အသင်လိုက်သား။ စိတ်ဆိုးယင် အကျွန်ဒီလိုနေပါ့မလားဘော်"

အဘွားလူအား လက်ဖက်ရည်မပေးသည့်အတွက် ယုန်ယွမ်းသည် အစေတော်ငယ်များအား ဆူပူလျက်ရှိလေ၏။

"မဆူပါနဲ့ကွယ်၊ ဟောဟို ငါ့မြီးလာပေးလို့ လက်ဖက်ရည် ပါပြီ။ တော်ပါပြီ၊ နောက်ထပ်မသောက်တော့ပါဘူး။ ငါ့မြီးများ ထမင်းမစားရသေးယင် စားကြ"

နတ်ငှက်မယ်က ယုန်ယွမ်းအားဆွဲ၍ အထိုင်ခိုင်းလိုက်ပြီး

"လာ ငါနဲ့အတူစားလှည့်"

ယုန်ယွမ်းက သူတို့စားပွဲတွင် ဝင်ထိုင်လိုက်သဖြင့် အစေတော်များသည် ပန်းကန်နှင့်တူများကို ယူလာကြ၏။ သူတို့ သုံးယောက် ခပ်သုတ်သုတ်စားနေသည်ကို မြင်ရသည့်အတွက် အဘွားလူက

"သခင်မလေးတို့စားတာကလဲ နည်းနည်းကလေးရယ်နော်။ ဒီ သာစားနေယင် လေတိုက်လိုက်လို့ လဲသွားမယ်နော်၊ များများ ပေးကြ"

"ကျန်တာတွေကော"ဟု ယုန်ယွမ်းကမေး၏။

"ဘာမှမလုပ်ရသေးပါဘူး၊ ဒီအတိုင်းပဲထားပါသေးတယ်"

"ဒီမှာ ဘာလုပ်မလဲ၊ အများကြီး ပိုနေတာပဲ။ ပင်အဲ ဟင်းနှစ်ပန်းကန်လောက် အပို့ခိုင်းလိုက်ပါ"

"ပို့နဲ့တော့၊ပင်အဲက စားပြီးနေပြီ"

"အို သူမစားယင်လဲ မလေးရဲ့ကြောင်တွေ စားရတာပေါ့"

အစေတော် တစ်ယောက်သည် ဟင်းနှစ်ခွက် လက်ဆွဲချင်း ထည့်၍ ထွက်သွားလေ၏။

"စုယွန်ကော"ဟု ယုန်ယွမ်းက မေး၏။

"ဒီမှာပဲ စားသွားတာပဲဟာ။ ဘာဖြစ်လို့ သူတစ်ယောက်တည်း ကိုကွက်ပြီး မေးနေရတာလဲ"ဟု လီဝမ်းက မေးလေ၏။

"ဒီလိုဆိုယင်လဲ ငြီးဘာပါပဲ"ဟု ယုန်ယွမ်းက ပြောလေ၏။

"မလာလဲ မပါဘူး။ မာလာ့ဆီ ကိုလဲဟင်းလေးဘာလေး ပို့လိုက် ပါ"ဟု နတ်ငှက်မယ်က ပြောလေ၏။

ယုန်ယွမ်းသည် အစေတော်တစ်ယောက်ခေါ်၍ အပို့ခိုင်းလိုက်ပြီး နောက် အရက်ချိုနှင့် အမြည်းစုံအစ်ကလေးများ အဆင်သင့် ရှိမရှိ





လေ၏။ အဆင်သင့်မဖြစ်သေးသည်ကို သိရသည့်အတွက် မြန်မြန်ပြင်ရန် ခိုင်းလိုက်လေ၏။

နတ်ငှက်မယ်နှင့်လီဝမ်းတို့သည် တန်ချွန်း အခန်းတွင်စကားပြော နေကြသည့် မယ်မယ်တို့ထံသို့လာခဲ့ကြလေ၏။ တန်ချွန်းမှာ ကျယ်ကျယ် ပြန့်ပြန့်နေချင်သည်ဆိုသဖြင့် သုံးခန်းကိုတစ်ခန်းတည်း ပေါင်း၍ အိပ်ခန်း လုပ်ထား၏။ ကျောက်ဖြူခင်းထားသည့် မဟော်ဂနီစားပွဲကြီးပေါ်တွင် နာမည်ကျော်လက်ရေးပန်းချီဆရာများ၏ လက်ရေးပန်းချီကားများကို အုပ်တွဲကြီးများချုပ်၍ တင်ထားလေ၏။ ထို့ပြင်အကောင်းစားမင်သွေး ခုံများ၊ စုတ်တံများ ထည့်ထားသည့် ငြို့အိုးကလေးများ ကိုလည်း တွေ့ရလေ၏။ တစ်နေရာတွင်မူ တန်ခေတ်စဉ့်ပန် စိုက်အိုးထဲတွင် ဂန္ဓမာ ပန်းပွင့်အဆုပ်ကြီးများကို ထိုးစိုက်ထားလေ၏။ အနောက်ဘက်နံရံတွင် ပန်းချီကျော်မိဖေ့ ရေးဆွဲသည့် 'မိုးနှင့်မြူ' ဆိုသည့် ပန်းချီကားကြီးကို ချိတ်ဆွဲထားပြီး အောက်တွင် ယင်ချင်ကျန်း၏ လက်ရေးကဗျာတစ်ခုကို စာတန်းထိုးထားလေ၏။

အခြားစားပွဲဘစ်လုံးပေါ်တွင်မူကြီးမားသည့်သုံချောင်းထောက် ဒေါင်းလန်းကြီးကို တင်ထားလေ၏။ ထိုကြေးဒေါင်းလန်းကြီး၏ဘေး နံ့သာနီသားဖြင့် လုပ်ထားသည့်စင်တစ်ခုပေါ်တွင် ဒေတ်ကြွေထည်ပန်း ကန်ပြားကြီးတစ်ချပ်ရှိပြီး အထဲတွင် လှပသည့်ရွှေငှက်ပျောသီးကြီးများ ကို စီထည့်ထားလေ၏၊ထိုအနီးတွင် ယွန်းထောက်တစ်ခုပေါ်တွင်မူ ဂီတ သံမြည်သည့် ကျောက်စိမ်းတုံးကလေးတစ်တုံးကို ချိတ်ဆွဲထားပြီး အနီး တွင်လည်း လက်ရိုက်ကလေးတစ်သက်ကို ချထားလေ၏။ ပန်အဲသည် မနေနိုင်တော့သဖြင့် လက်ရိုက်ကလေးကိုကောက်ပြီး ယွန်းထောက်တွင် တွဲလဲဆွဲထားသည့် ကျောက်စိမ်းတုံးကလေးကို ထုလိုက်သော့မည် ပြုစဉ် အစေတော်တစ်ယောက်က လှမ်းဆွဲထားလိုက်လေ၏။ ပန်အဲသည် ရွှေ ငှက်ပျောသီးများကို ယူ၍ စားမည်ပြုပြန်သည်။ ဤတွင် အစေတော်က ထိုငှက်ပျောများမှာ စားဖို့မဟုတ်ဘဲ အလှထားခြင်း ဖြစ်ကြောင်းဖြင့် ပြောလေ၏။

အခန်း၏ အရှေ့ဘက်နံရံနားတွင်မူ ကြီးမားသော အိပ်ရာကြီးတစ်ခုရှိလေ၏။ အိပ်ရာခန်းဆီးကန့်လန့်ကာကြီးမှာ အစိမ်းပုပ်ရောင်ဖြစ်ပြီး ပန်းပွင့်ရုပ်များ၊ ပိုးကောင်ရုပ်လေးများကို ရွှေခြည်ထိုးထားလေ၏။ ပန်အဲသည် ခန်းဆီးကန့်လန့်ကာကြီးနားသို့ ပြေးကာ ရွှေခြည်ထိုးထားသည့် ပိုးကောင်ကလေးများကိုပြ၍ "ဟောဒါက ပုရစ်ရယ်၊ ဟောဒါက ကျိုင်းကောင်" ဟု ပြောနေသေး၏။

အဘွားလူက ပန်အဲကိုတစ်ချက်ရိုက်လိုက်လေ၏။

"ဟဲ့ကောင်လေး၊ နင့်သက်ကြီးက ပေလို့။ ဟိုလျှောက်ကိုင်၊ ဒီလျှောက်ကိုင် မကိုင်နဲ့၊ ကြည့်ယင်ကောင်းကောင်းကြည့်"

ပန်အဲက အော်ငိုနေသဖြင့် အခြားသူများက မြေးအဘွားနှစ်ယောက်ကြားတွင် ကလေးကိုချော့ရလေ၏။ မယ်မယ်သာ ပြောင်းဇာ ခန်းဆီးကြားမှနေ၍ နောက်ဘက်သို့ လှမ်းကြည့်လျက်ရှိလေ၏။

"ဟောဟို တံခါးမြိတ်နားက မိုးမခပင်ကလေးက သိပ်လှတာပဲနော်။ သိပ်လဲ မကြီးသေးဘူး"

ထိုခဏ လေတစ်ချက်တိုက်လိုက်သဖြင့် ဆိုင်းသံဗုံသံများကိုကြားရလေ၏။

"အေလို၊ လမ်းမနဲ့နီးတယ်ထင်တယ်။ ဆိုင်းသံဗုံသံတွေကိုတောင် ကြားရတယ်။ ဘယ်သူများမင်္ဂလာဆောင်သလဲမသိဘူး"

"လမ်းမနဲ့မနီးပါဘူး မယ်မယ်ရဲ့၊ ခု ဆိုင်းသံဗုံသံတွေက လမ်းမကလာတဲ့ အသံတွေမဟုတ်ဘူး။ ငှက်မယ်တို့စံအိမ်ဝင်းကြီးထဲမှာ ငှားထားတဲ့ ကချေသည် ကောင်မလေးတွေ ဇာတ်တိုက်နေကြတာ"

"ဒီလိုဆိုယင်လဲအေး၊ ဒီကိုခေါ်ပြီး ဇာတ်ကခိုင်းပါလား။ သူတို့လဲ အပြင်ထွက်ရ၊ တို့လဲအပျင်းပြေရတာပေါ့"

နတ်ငှက်မယ်သည် ကချေသည်များကိုအခေါ်ခိုင်းလိုက်ပြီးနောက် ကော်ဇောနီကြီးတစ်ချပ်ကို အခင်းခိုင်းပြီးလျှင် စားပွဲများကိုလည်းအခင်းခိုင်းလိုက်လေ၏။ မယ်မယ်က

"ဒီမှာမလုပ်နဲ့လေ။ ကြာဖူးငုံဆိပ်က ကန်လေးထဲက အဆောင်ပေါ်မှာ ကြည့်ရအောင်။ ဂီတသံများဟာ ရေထဲကနေပြီး နားထောင်ရ





ယင် ပိုပြီး အရသာရှိတယ်အေ့။ တို့က သာနိုးပျော်ဖွယ် မျှော်စင်ပေါ်တက်ပြီး အရက်ချိုကလေးသောက်ရင်း နားထောင်ရတာပေါ့"

အားလုံးကပင် ထိုအကြံကို သဘောတူကြလေ၏။

ထိုနောက် မယ်မယ်သည် ဒေါ်လေးဆွဲ့ဘက်သို့ လှည့်လိုက်ကာ ခပ်ပြုံးပြုံးဖြင့်

"လာ လာ သွားကြရအောင်၊ ဒီကောင်မလေးတွေက သူတို့အခန်းထဲကို လူတွေသိပ်လာတာ မကြိုက်ဘူး။ ညစ်ပတ်မှာစိုးလို့တဲ့။ သူတို့မနေစေချင်တဲ့ နေရာဘာ မကောင်းဘူး။ လှေစီးရင်း အရက်ချိုကလေး သောက်ချည်ကြရအောင်"

သူတို့သည် အခန်းဆောင်မှ ထွက်လာခဲ့ကြရာ ခဏကြာလျှင် ကန်စွန်းနွယ်ကျွန်းသို့ရောက်လေ၏။ ဆူချောင်မှ ခေါ်ထားသည့် လှေလှော်အမျိုးသမီးများသည် သစ်သားဖြင့် ထွင်းထားသည့် လှေကလေးနှစ်စင်းကို အဆင်သင့်ပြင်ထားကြလေ၏။ မယ်မယ်၊ သခင်မဝမ်၊ ဒေါ်လေးဆွဲ့၊ အဘွားလူ၊ ယုန်ယွမ်းနှင့် ယင်ချွန်းတို့က လှေပေါ်သို့အလျင်တက်နှင့်ကြသည်။ နောက်ဘွင် လီဝမ်းဘက်လာပြီး နောက်ဆုံး၌ နတ်ငှက်မယ်တက်လာကာ လှေကို ကိုယ်တိုင်လှော်မည့်ဟန်ဖြင့် ဦးတွင် ထိုင်နေလေ၏။

"မယ်မယ် ဘာမှမကြောက်နဲ့နော်၊ ဘာမှမဖြစ်ဘူး၊ စိတ်ချ"

နတ်ငှက်မယ်သည် လှေကို ကမ်းမှတွန်းထုတ်လိုက်ရာ လှေကလေးကသေးပြီး လူများနေသည့်အတွက် လှေငယ်မှာ လှုပ်ယမ်းလျက်ရှိလေ၏။ နတ်ငှက်မယ်က ထိုးဝါးကို လှေလှော်အမျိုးသမီးလက်သို့ပေးကာ မြန်မြန်ထိုင်ချလိုက်လေ၏။

ယင်ချွန်းနှင့် အခြားမိန်းကလေးများက နောက်လှေတစ်စင်းနှင့် လိုက်လာကြ၏။ အစေတော်များမှာ ကမ်းမှ ခြေကျင် လိုက်ပါလာကြလေ၏။

"ကြည့်စမ်းနော်။ ကြာပန်းတွေက ခြောက်နေပြီ။ ကြည့်လို့မကောင်းတော့ဘူး။ ဘာဖြစ်လို့များ နှုတ်အပစ်မခိုင်းကြသလဲမသိဘူး"

ပေါက်ကြည်ကပြုံးလျက်

"နှုတ်ချိန်ဘယ်မှာရှိလို့လဲ မောင်ရဲ့။ ခုဘစ်လေးမှာ ပေါက်ကြည်တို့က ကန်ဘက်ကို နေ့တိုင်းရောက်ပြီးနေကြတာ။ ကန်ထဲမှ လူတွေနဲ့ဆိုတော့ နှုတ်ချိန်မရတော့ဘူးပေါ့"

ထိုက်ယုက

"လီရှန်ယင့် (တန်မင်းဆက်ခေတ် ကဗျာစာဆိုကြီး)ရဲ့ 'ကြာရွက်ခြောက်တွင်၊ မိုးပေါက် မိုးစက်၊ ဖျန်းပက်နေသံ၊ ကာရန်ရှာလျက်' ဆိုတဲ့ ကဗျာစာပိုဒ်ကို သိပ်ကြိုက်တာပဲ။ ကြာရွက်ခြောက်တွေကို နှုတ်မပစ်ပါနဲ့တဲ့။ အဲဒီပေါ်ကို မိုးစက်ကလေးတွေကျသံကို နားထောင်ပြီး ကာရန်ရှာရတာ သိပ်ကောင်းတာပဲလို့ ပြောခဲ့တယ်။ ခု မောင်တို့နှစ်ယောက်ကတော့ ကြာရွက်ခြောက်တွေကို နှုတ်ပစ်ချင်နေကြတယ်ပေါ့"

သူတို့လှေကလေးသည် ကျူတောချောင်းနှင့် ပန်းမျောဆိပ်သို့ ရောက်လာခဲ့ကြလေ၏။ အရိပ်ထဲတွင်ဖြစ်၍ အေးလျက်ရှိလေ၏။ မြက်ပင်ကလေးတွေ ခြောက်သွေ့ပြီ။ လေးနှင့်ဆိုင် မြက်ကလေးတွေ ရော်ပြီ။ ဆောင်းဦး၏ ရနံ့ကလေးများ သင်းပျံ့ပြီ။ မယ်မယ်သည် ကမ်းတွင်ရှိသည့်မျှော်စင်ကို လှမ်းကြည့်လျက် ရှိလေ၏။

"အဲဒီအဆောင်က ပေါက်ကြည်ရဲ့ အဆောင် မဟုတ်လား"ဟု မေးရာ ဟုတ်မှန်ကြောင်း ပြောကြလေ၏။

ဤတွင် မယ်မယ်သည် လှေကို ကျောက်ဖြူ လှေကားရင်းတွင် ဆိုက်စေကာ သဇင်မြိုင်သို့ တက်လာခဲ့ရာ သဇင်မြိုင်မှာ မွှေးကြိုင်သင်းပျံ့လျက်ရှိလေ၏။ ရှားပါးသည့်ပန်းပင်များ၊ နှယ်ပင်များသည် ဆောင်းရိပ်ကြောင့် အရောင်ပြောင်းစ ပြုလေပြီ။ အချို့နှယ်ပင်များမှ အသီးများသည် သန္တာသီးကလေးများကဲ့သို့ ရဲရဲနီကာ တွဲလောင်းကျလျက်ရှိလေ၏။ သူတို့ဝင်ခဲ့သည့် အဆောင်မှာ နှင်းလိုက်ဂူကြီး တစ်ခုကဲ့သို့ ဖြူဖွေးလျက်ရှိပြီး အခန်းအထင်းဆို၍ ဘာကိုမျှ မတွေ့ဘဲ ရှိလေ၏။ အဆင်းတန်ဆာဆို၍ ဘာမျှမရှိဘဲ ပြောင်ဝင်းလျက်ရှိလေ၏။ စားပွဲပေါ်တွင်လည်း ဂန္ဓမာပန်းခိုင်တစ်ခိုင် စိုက်ထားသည့် ပန်းအိုးတစ်အိုး၊ စာအုပ်စင်ကလေးနှစ်စင်နှင့် လက်ဖက်ရည်ပန်းကန်တစ်ပန်းကန်တို့မှအပ အခြား





ဘာမျှမရှိချေ။ အပြာရောင် အိပ်ရာနီးဆီးနှင့် အိပ်ရာမှာလည်း ခပ်ရိုးရိုးသာဖြစ်လေ၏။

"ဟောဒီ ကလေးမကတော့ ဖြစ်သလိုကိုနေတတ်တယ်။ ဒေါ်လေးဝမ်ဆီမှာတောင်းပြီး အခန်းကို ပြင်ပါတော့လား။ ပေါက်ကြည်အခန်းဟာ ဒီလိုနေလိမ့်လို့ကို မထင်မိဘူး။ ဘာလဲ၊ တချို့ပစ္စည်းတွေကို ရွာချောင်အိမ်မှာ ထားပစ်ခဲ့သလား"ဟု မယ်မယ်ကမေးလေ၏။

မယ်မယ်က ယုန်ယွမ်းအား ရှေးဟောင်း အလှအပ ပစ္စည်းများ ထုတ်ပေးရန် ပြောလိုက်ပြီး နင်ငှက်မယ်ဘက်သို့လှည့်၍

"ဘာဖြစ်လို့ ပေါက်ကြည်အခန်းကို အလှအပပစ္စည်းတွေ ပို့မပေးတာလဲ ငှက်မယ်။ ဒီလောက်တောင်ပဲ နှမြောသလား"

သခင်မဝမ်နှင့် နင်ငှက်မယ်တို့ နှစ်ယောက်စလုံးက

"သူက ဒါမျိုးတွေလိုချင်ဘူးတဲ့ မယ်မယ်ရဲ့။ ပို့လိုက်တိုင်း ပြန်ပြန်ပို့လိုက်တာချည်းပဲ"

"ဟိုမှာနေတုန်းကလဲ သူက ဒါမျိုးတွေ သိပ်ဝါသနာမပါဘူး"ဟု ဒေါ်လေးဆွေ့က ပြောလေ၏။

မယ်မယ်က ခေါင်းယမ်းလိုက်ကာ

"ဘယ်ဖြစ်မလဲ။ သူကတော့ ရိုးရိုးနေချင်လို့ဖြစ်မှာပေါ့။ ဒါပေမယ့် ဆွေမျိုးတွေလာယင် မြင်လို့မကောင်းပါဘူး။ ပြီးတော့ မိန်းကလေးဆိုတာ သိပ်ပြီးလဲ ရိုးရိုးကုပ်ကုပ် မဖြစ်ရဘူး။ မိန်းကလေးများ အပြင်အဆင်၊ အမွှမ်းအမံ နည်းလွန်းပြန်ယင်လဲ ကံဆိုးတတ်တယ်။ နည်းနည်းပါးပါးတော့ ဝတ်စားပေးရတယ်။ ကြည့်ပါဦး၊ သူ့လို အပျိုနုနုထွတ်ထွတ်ကလေးက ဒီလိုနေတယ်ဆိုတော့ တို့လိုအမယ်ကြီးတွေ မြင်းဇောင်းထဲမှာနေရမယ့်ပုံပေါက်နေပြီ။ ရှေးစာဆိုတွေ၊ ဇာတ်တွေထဲမှာ မိန်းမချောတွေရဲ့အိပ်ခန်းဆောင် ဘယ်လောက်ကြီးကျယ်ခမ်းနားတယ်ဆိုတာ ညည်းတို့လဲ ကြည့်ဖူးဖတ်ဖူးသားကပဲ။ တို့အိမ်က ကလေးမကလေးတွေရဲ့ အိပ်ခန်းဟာ အဲဒီဇာတ်တွေထဲက ဘုရင့်သမီးတော်တွေရဲ့အိပ်ခန်းဆောင်တွေလောက် ခမ်းနားရမယ်လို့တော့ မဆိုလိုပါဘူး။ ဒါပေမယ့် ခုလို ရှင်းရှင်းကြီးဆိုတော့လဲဘယ်ကောင်းမလဲ၊ တစ်ဘက်အစွန်းကိုရောက်လွန်း

လှတယ်။ စံအိမ်မှာ အလှအပ ပစ္စည်းတွေ ရှိလျက်သားနဲ့ ဘာဖြစ်လို့ အလင်္ကာရထားမလဲ၊ သုံးရမှာပေါ့။ ကိုယ်က ရိုးရိုးနေတာမျိုးကို ကြိုက် တယ်ဆိုယင်တောင် သူများလိုမျိုးမျိုးမပြင်ဆင်ချင်နေပေါ့၊ ဘယ်လိုပဲ ဖြစ်ဖြစ် နည်းနည်းတော့ပြင်ရဆင်ရမှာပဲ။

"မယ်မယ်ငယ်ငယ်တုန်းက အခန်းအလှပြင်တာတို့၊ အိမ်အလှပြင် တာတို့ကို သိပ်ဝါသနာပါတယ်။ ဒါပေမယ့် ခုအသက်ကြီးတော့ ဒါ တွေကို လုပ်နိုင်တဲ့အားလဲမရှိတော့ပါဘူး။ ဒီကလေးမတွေက ငယ်ငယ်ပဲ ရှိသေးတာကပဲ၊ အခန်းအလှပြင်တစတို့၊ အိမ်အလှပြင်တာတို့ကို တတ် ထားဖို့ကောင်းတာပေါ့။ အလှကိုလဲ ရွေးတတ်ရတယ်။ ပြင်တတ်ရတယ်၊ မပြင်တတ်ယင်ဘယ်လောက်ပဲလှတဲ့ပစ္စည်းတွေ၊ အဖိုးတန်တဲ့ ပစ္စည်းတွေ ဆင်ဆင်ကြည့်ရတာဟုန်ပြီးရိုင်းနေတယ်။ဆင်တတ်ပြင်တတ်တဲ့လူကျတော့ တော်တော်တန်တန်ပြင်ရုံကလေးနဲ့ကို ကြည့်လို့ယဉ်နေတယ်။ တို့စံအိမ်က ကလေးမတွေကတော့ ဒီလောက် မျက်စိမရိုင်းသေးပါဘူး၊ ယဉ်အောင် ပြင်တတ်ပါတယ်။ ကဲ ဒီအခန်းကို မယ်မယ်ပဲကြည့်ဆင်ပေးပါ့မယ်။ အ မရိုင်းစေရဘူး၊ ရိုးရိုးလေးနဲ့ယဉ်စေရမယ်။ မယ်မယ့်မှာ ပေါက်ယုမ အောင်သိမ်းထားတဲ့ အလှအပပစ္စည်းကလေးတွေ ရှိပါသေးတယ်။ လှ မြင်သွားလို့ကတော့ ဒီလောက်ဆိုယင် ဘယ်မှာရှိတော့မလဲ"

မယ်မယ်သည် ယုန်ယွမ်းကိုခေါ်လိုက်ပြီးလျှင်

"သွား၊ ငါသိမ်းထားတဲ့ ကျောက်ခက်ပန်းပင်ကလေးတွေ ထုတ် ခဲ့။ ပြီးတော့ ဇာခန်းဆီး လိုက်ကာကလေးရယ်၊ ကန့်ကူကျောက် သုံ ချောင်းထောက်ဒေါင်းလန်းကြီးရယ် ယူခဲ့။ ဒီစားပွဲမှာ ဒီသုံးခုလောက် တင်လိုက်ယင် တော်တော်ကြည့်လို့လှသွားပြီ။ ပြီးတော့ လက်ရေးပန်းချီ ရေးထားတဲ့ ပိုးအိပ်ရာခန်းဆီးအဖြူပေါ့လဲထုတ်ခဲ့"

"ဟုတ်ကဲ့ မယ်မယ်။ ဒါပေမယ့် အဲဒီပစ္စည်းတွေက အရှေ့ဘက် ထပ်ခိုးကသေတ္တာကြီးတွေထဲမှာရောက်နေတယ်၊ မနည်းရှာရမှာ။ မနက် ဖြန်လောက်ကျမှ ရမယ်ထင်တယ်"

"အေးပေါ့အေ။ မနက်ဖြန်ရရ၊ သဘက်ခါရရပေါ့။ ဒါက အရေး မကြီးပါဘူး။ မေ့တော့မမေ့မနေနဲ့"





ထိုနေရာတွင် အတန်ကြာ ထိုင်ပြီးနောက် သူတို့သည် သာနီးပျော် ဖွယ်ဆောင်သို့ လာကာ ကချေသည်များဇာတ်လိုက်နေကြသည်ကို လာ ကြည့်ကြလေ၏။ ဝင်ကွမ်းက မည်သည့်ဇာတ်ကို ကြည့်ချင်သနည်းဟု မေးလေ၏။

"ညည်းတို့ကြိုက်တာ က,ပေါ့အေ" ဟု မယ်မယ်က ပြောလေ၏။

ကချေသည်များသည် ကြာဖူငုံ ဆိပ်ကမ်းသို့ ပြန် သွား ကြ ကာ အသင့်ပြင်ဆင်နေကြလေ၏။

ထိုအချိန်၌ကား နတ်ငှက်မယ်နှင့် သူ့အစေတော်များသည် ပြင် ဆင်ရေရှိသည်တို့ကို အားလုံး ပြင်ဆင်ပြီးစီးနေလေပြီ။ မြောက်ဘက်တွင် ထိုင်ဖုံကြီးနှစ်ဖုံကို ချထားပြီး ဇ တ္တိပ ငုပ်ထားသည့် ဖဲမှိုအုံကြီးနှစ်လုံးစီ ဆင့်ထားလေ၏။ထိုင်ဖုံများရှေ့တွင်ယွန်းစားပွဲများချထားပြီး ထိုအပေါ် တွင် သစ်တော်ပွင့်ပုံယွန်းဗန်း၊ ဆီးတော်ပွင့်ပုံယွန်းဗန်း၊ ကြာပွင့်ပုံနှင့် နေကြာပွင့်ပုံတို့ ရေးထားသည့်ယွန်းဗန်းများတင်ကာ လက်ဖက်ရည်အိုး များနှင့် ပန်းကန်များချထားလေ၏။ ယွန်းဗန်းကြီးတစ်ခုထဲတွင်မူ အရောင် ငါးခု၊ ပန်းစိုက်အိုးနှင့်ချိုချဉ်ခဲဖွယ်တို့ ထည့်ထားသည့် ယွန်းအစ်တစ်လုံး တင်ထားလေ၏။ အခြားဗန်းတစ်ခုမှာ ငါးပန်းကန်များထားရန်အတွက် အသင့်ပြင်ထားလေ၏။ ထိုင်ဖုံနှစ်ခုနှင့် လက်ဖက်ရည်စားပွဲလေးလုံးမှာ မယ်မယ်နှင့် ဒေါ်လေးဆွဲ့တို့အတွက် ဖြစ်လေ၏။ ကုလားထိုင်တစ်လုံး နှင့် လက်ဖက်ရည်စားပွဲနှစ်လုံးမှာ သခင်မဝမ်အတွက် ဖြစ်လေ၏။အခြား သူများမှာ ကုလားထိုင်တစ်လုံးစီနှင့် လက်ဖက်ရည်စားပွဲစီ ဖြစ်လေ၏။ ဧည့်သည်လူ၏နေရာမှာ အရှေ့ဘက်ဖြစ်ပြီး သခင်မဝမ်၏နေရာမှာ ထို့ အောက်နားတွင်ဖြစ်လေ၏။

အနောက်ဘက်တန်းတွင် ရှိစမ်းယဉ်၊ ပေါက်ကြည်၊ ထိုက်ယု၊ ယင်ချွန်း၊ တန်ချွန်းတို့အစဉ်အလိုက် ထိုင်နေကြပြီး ပေါက်ယု၊ လီဝမ်းနှင့် နတ်ငှက်မယ်တို့မှာ တတိယမြောက်ရန်း၏ကြား လိုက်ကာ၏အပြင်ဘက်တွင် ထိုင်ကြလေ၏။ သူတို့ရှေ့တွင် ချထားသည့် အမြည်းစုံထည့်ယွန်းအစ်များ မှာ ယွန်းလက်ဖက်ရည်စားပွဲများနှင့် လိုက်အောင် ပုံစံတူချထားလေ၏။

သူတို့အသီးသီး၏ ရှေ့တွင်လည်း ပြောင်လက်နေသည့် ပန်းကြွေဖော် ငွေအရက်အိုးတစ်လုံးစီနှင့် ငွေအရက်ခွက်တစ်လုံးစီ ချထားလေ၏။

လူစုံသည်နှင့် မယ်မယ်က

"ကဲ အရက်ချိုကလေးသောက်ပြီး အရက်သောက်ရင်း စာစပ်ပွဲကလေးလုပ်ကြရအောင်"

ဒေါ်လေးဆွေ့က

"မယ်မယ်က အရက်သောက်ရင်း စာစပ်တာကို သိပ်ကျွမ်းကျင်တာ။ ဒါပေမယ့် ကျွန်မတို့က ဘယ်ကျွမ်းကျင်ပါ့မလဲ။ ကျွန်မတို့ ရှုံးပြီ၊ အရက်ချိုသောက်ရအောင်လုပ်တာလား။ ဒီလိုဆိုယင်လဲ စာမစပ်တော့ဘဲ ဒီအတိုင်းပဲ သောက်ကြပါ့မယ်"

"အံမယ်လေး၊ ညည်း ဒီနေ့ သိပ်ချိုနေပါကလား။ ဘာလဲ၊ ငါလဲ ညည်းတို့နဲ့ မပြိုင်နိုင်တော့ဘူးလို့ အောင်းမေ့နေလို့လား"

"မဟုတ်ပါဘူး မယ်မယ်ရဲ့။ ကျွန်မက မဖြေတတ်ယင် အရယ်ခံရမှာစိုးလို့ပါ။ အရက်ရှိန်ရှိနေယင်တော့ အရယ်ခံရလဲ အကြောင်းမဟုတ်တော့ဘူးလေ"

သခင်မဝမ်က

"မဖြေနိုင်ယင်လဲ ကိစ္စမရှိပါဘူးလေ။ မှားယင် တစ်ခွက်ပိုသောက်ရရုံပါ။ မသောက်နိုင်တော့ဘူး၊ မူးသွားလို့ဆိုယင်လဲ့ ဟောဟိုမှာ သွားလှဲနေရုံပေါ့၊ ဘယ်သူကမှ မရယ်ပါဘူး"

"ကောင်းပြီလေ။ ဒါပေမယ့် မယ်မယ်က တစ်ခွက်ပိုသောက်ထားရမယ်နော် မယ်မယ်"

"သဘောပါတော်"

မယ်မယ်က သူ့ခွက်ကို ကုန်အောင် သောက်လိုက်၏။

"စာစပ်ပွဲလုပ်ချင်ယင် ယုန်ယွမ်းက ဒိုင်လုပ်"

မယ်မယ်က အရက်ချိုသောက်ရင်း စာစပ်ပြိုင်ပွဲလုပ်ပြီဆိုလျှင် ယုန်ယွမ်းသတ်မှတ်ပေးသည့် ဆုံးဖြတ်ချက်ကိုမှ နာခံတတ်သည့်အတွက်





အားလုံးကလည်း သဘောတူလိုက်လေ၏။ နတ်ငှက်မယ်က ယုန်ယွမ်းကို လှမ်းခေါ်လိုက်လေ၏။

သခင်မဝမ်က

"လာ၊ ကုလားထိုင်တစ်လုံးနဲ့ ညည်းပါဝင်ထိုင်" ဟု ခေါ်ကာ အစေတော်တစ်ယောက်ကို ကုလားထိုင်တစ်လုံး အယူခိုင်းလိုက်ပြီးလျှင် နတ်ငှက်မယ်တို့စားပွဲတွင် အထိုင်ခိုင်းလေ၏။

ယုန်ယွမ်းသည် ဟန်ဆောင်ပန်ဆောင်ငြင်းပြီးနောက် ကုလားထိုင်တွင် ဝင်ထိုင်လိုက်လျက်

"အရက်သောက်တာကလဲ စစ်စည်းကမ်းလိုတင်းကျပ်တယ်နော်။ ဒီတော့ ကျွန်မကိုဒိုင်အလုပ်ခိုင်းယင် ဘယ်သူဖြစ်ဖြစ် ကျွန်မအဆုံးအဖြတ်ကို နာခံရမယ်။ လျော်ဆိုလျော်ရမယ်"

သခင်မဝမ်ကပြုံးကာ

'ကဲ ရှည်မနေစမ်းပါနဲ့အေ။ စည်းကမ်းချက်တွေကိုသာ ပြောစမ်းပါ"

အဘွားလူက ထိုင်ရာမှထလိုက်လျက်

"အကျွန်တို့တော့ မပါဘတ်ဘူးတော့်"

"ရပါတယ်၊ နောက်ကျတော့ လုပ်တတ်သွားမှာပါ"

ယုန်ယွမ်းက အစေတော်တချို့အား အဘွားလူကို ကုလားထိုင်တွင် အတင်းဆွဲ၍ အထိုင်ခိုင်းရန် ပြောလေ၏။

"ကဲ၊ အားလုံး ကိုယ့်အလှည့်နဲ့ကိုယ် စာစပ်ရမယ်။ မစပ်နိုင်တဲ့လူက အရက်ချိုတစ်အိုးလုံး ကုန်အောင်သောက်ရမယ်" ဟု ယုန်ယွမ်းက ပြောလိုက်သည့်အခါတွင် အဘွားလူသည်း ငြိမ်သွားလေ၏။

"ဟောဒီမှာ ကျွန်မ အံစာသုံးပြား ရှိတယ်။ မယ်မယ်ကစပြီး နောက်ဆုံး အဘွားလူအထိ တစ်လှည့်စီ စာစပ်ရမယ်။ ဥပမာ ကျွန်မက အံစာပြား သုံးပြားပေါ်မှာရှိတဲ့စာတန်းကို တစ်ခုစီ ဖတ်သွားမယ်။ ပြီးယင် အဲဒီသုံးပြားပေါင်းပြီး စကားထာဝှက်မယ်။ စာတန်းတစ်ခုကိုဖတ်လိုက်တိုင်း ဖြေတဲ့လူဟာ ရှေးကဗျာထဲကဖြစ်ဖြစ်၊ စကားပုံထဲကဖြစ်ဖြစ်၊ ဆုံးမစာထဲကဖြစ်ဖြစ် အပိုဒ်တစ်ပိုဒ်ကို ကောက်ရွတ်ပြနိုင်ရမယ်။ အဲဒီလို

ကောက်ရွတ်ပြလိုက်တဲ့စာဟာလဲ ရှေ့က အံစာထဲမှာပါတဲ့ စာတန်းနဲ့ ကာရန်ကိုက်နေရမယ်။ မှားယင် လျှော်ကြေးပေးတဲ့ အနေနဲ့ အရက် တစ်ခွက် စီ သောက်ရမယ်'

အားလုံးက သဘောတူသဖြင့် စ၊ စပ်ပွဲကိုစလေ၏။

"ဟောဒီမှာ အံစာသုံးပြား။ လက်ဝဲဘက်မှာ ကြည့်လိုက်ပါ။ 'ကောင်းကင် အဇဋ္ဌာ' လို့ ရေးထားတယ်"

"ဟိုအမြင့်မှာပြာတာတာ၊ ကောင်းကင်အဇဋ္ဌာ" ဟု မယ်မယ် က ဆိုလိုက်သည်။

"ဟုတ်တယ်၊ မှန်တယ်"

"'အလယ်ကောင်လေးကို၊ လူမရောက်၊ ရှိတာငါးနဲ့ခြောက်'လို့ ရေးထားတယ်"

"တံတားပေါ်ရောက်၊ ရှုနဲ့နောက်၊ ကြိုင်လှိုင်ပန်းနံ့လျှောက်"

"နောက်ဆုံးအဖြစ် သူခွင်လှတ်၊ ရှိတာခြောက်နှင့် တစ်"

"အရင်းကိုစစ်၊ တိမ်လွှာဖြစ်၊ နေနီထွန်းသစ်သစ်"

"ဘေးရန်ကင်းပျောက်၊ ရောင်ဝါတောက်၊ တစ္ဆေသူမကြောက်"

"သရဲလူနောက်၊ ကြောက်ရွံ့ခြောက်၊ ထော့ကျိုးသူ့ခြေထောက်"

အားလုံးဝိုင်း၍ ဩဘာပေးလိုက်ကြသည်တွင် မယ်မယ်လည်း အရက်တစ်ခွက်ကို ကုန်အောင်မော့သောက်လိုက်လေ၏။

ယုန်ယွမ်းက

"လာပြန်ပြီ နောက်တစ်ပုဒ်၊ လက်ဝဲဘက်နား၊ အံစားထား၊ ငါးနဲ့အမြှောက်ငါး"

ဒေါ်လေးဆွေ့က

"ဆီးတော်ပွင့်များ၊ ခုန်လှုပ်ရှား၊ လေတွင်ဆော့ကစား"

"လက်ယာဘက်နား၊ နောက်ပြန်သွား၊ နောက်ထပ် အမြှောက် ငါး"

"ဆယ်သစ္စန်ဖျား၊ ရောက်သော်ငြား၊ ဆီးတော်ပွင့်ခေါင်ဖျား"

"အလယ်ကောင်တွင်၊ နှစ်ငါးရှစ်၊ အပေါင်းခုနစ်ပင်"

"ရာဘ်ကန်းပျိုခင်၊ သိုးငယ်ရှင်၊ အချစ်တဲ့သို့ဝင်"





"ထောင်ထိပ်ပေါ်မှာ၊ နတ်ဒေဝါ၊ ကြိမ်စကြာလှည့်လာ"

"နတ်တို့ပျော်ရာ၊ ဂတိသာ၊ လူနှင့်မဆိုင်ပါ"

အားလုံးက လက်ခုပ်တီးကြပြီး ဒေါ်လေးဆွေ့က သူ့ အရက် ခွက်ကို သောက်လိုက်လေ၏။

"ဟောဒီမှာနောက်တစ်ပုဒ်၊ လက်ဝဲဘက်မှာနှစ် နှင့်ငါ၊ ပေါင်း ကာဆုံတော့သည်"

ရှိစမ်းယဉ်က

"လနဲ့နေဟာ၊ ဤကမ္ဘာ၊ ထွန်းကာလင်းတော့သည်"

"လှက်ယာမှလေ၊ တင်နှစ်မွေ့၊ အသင်တူးဆန်းပေ"

"အသံဆိတ်ပေ၊ ထူးဆန်းလေ၊ မြေမှာပန်းပွင့်ကြွ"

"အလယ်ကောင်တွင်၊ တစ်ငါးယှဉ်၊ အသင်တူးဆန်းလျှင်"

"ဆီးတော်ပွင့်တင်၊ တိမ်ပန်းမျှင်၊ နေနှင့်ထပ်လို့ယှဉ်"

"ချယ်ရီနီနီ၊ မြေနှင့်နီ၊ မည်သူတို့ကြောင့်နည်း"

"နှမ်းတော်နှင့်နီ၊ ကျေးနှင့်ကျီ၊ သူတို့လက်ချက်တည်း"

သူ့အလှည့်ပြီးသည်နှင့် ရှိမ်းယဉ်သည် ခွက်ကိုမော့လိုက်လေ၏။

"နောက်တစ်ပုဒ်။ သုံးနှင့်သုံးလီ၊ ကိုးဖြစ်သည်၊ လက်ဝဲဘက်မှာ တည်"

ပေါက်ကြည်က

"ပျိုလွှားစုံညီ၊ ကောင်းကင်ဆီ၊ နှင်းမြည်ကျူးရင့်သီ"

"သုံးသုံးခါရောက်၊ ပြန်လှန်မြှောက်၊ လက်ယာဘက်မှာရောက်"

"လေတိုက်ရှေ့နောက်၊ ပေါင်းမြက်ခြောက်၊ ခါးစည်းကဲ့သို့ မြှောက်"

"သုံးနှင့်ခြောက်လျှင်၊ အတူယှဉ်၊ ကိုးပင်ဖြစ်တော့သည်"

"ကောင်းကင်ပြာတွင်၊ တောင်ထွတ်ယှဉ်၊ အောက်တွင်ဝိုက်ယွန်း သည်"

"လေနာဝါငယ်၊ ချည်တိုင်ဝယ်၊ ကြိုးနှယ်မြဲတော့သည်"

"လှိုင်းနဲ့ဝေနှယ်၊ ပေါင်းဆုံလှယ်၊ လွမ်းဖွယ်ကောင်းတော့ သည်"

ပေါက်ကြည်က ခွက်ကိုမော့လိုက်ပြန်သည်။

"လက်ယာဘက်တွင်၊ နိမိတ်ထင်၊ ကောင်းကင်မိုးပြာပြာ"

ထိုက်ယုကဖြေ၏။

"ရာသီတော်ဦး၊ နွေမှုးမှုး၊ တိမ်ဦးလေပြည်လာ"

ပေါက်ကြည်က သူ့ကို ဖျတ်ခနဲကြည့်လိုက်သည့်တိုင် ထိုက်ယု သူ့ကိုမကြည့်ဘဲ ဆက်ဖြေသည်။

"အလယ်ဘက်တွင်၊ ဇာပိုးမျှင်၊ ဆင်ဆင်ခြင်ခြင်ရက်"
"မယုတ်မလွန်၊ စာသံဝဏ်၊ ယုံကျွန်ရောက်ခဲ့လျက်"
"ခြောက်ကိုနှစ်တင်၊ ပေါင်းခဲ့လျှင်၊ အစဉ်ရှစ်သာဖြစ်"
"ဘုရင့်ထံဘွင်၊ ခစားဝင်၊ နောင်တွင်မော်ကွန်းစစ်"
"စွင့်စွင့်သန်းလုန်း၊ အသွင်ဆန်း၊ ဘယ်ပန်းသာလို့ယဉ်"
"အနန်းအနန်း၊ သဇင်ပန်း၊ ခေါင်ရန်းသာလို့ယဉ်"

ကိုယ့်အလှည့်ပြီးသည့်အခါတွင် ပေါက်ယုသည်အရက်တစ်ခွက်ကို မော့လိုက်လေ၏။

ယုန်ယွမ်းက

"လေးနှင့်ငါးဘက်၊ ဘယ်အတွက်၊ ကိုးကြိမ်ကိုးခါဘွက်"

ယင်ချွန်းက

"မကားမှုံပွင့်လျက်၊ မိုးရေစက်၊ မြေမှာစိုလို့ရှဲ"

"ဟော၊ ကာရန်မကိုက်ဘူး။ မှားနေပြီ၊မှား နေပြီ။ ဒဏ်ပေးပါ" ဟု ဝိုင်းအော်ကြလေ၏။

ယင်ချွန်းက ပြုံး၍ အရက်တစ်ကျိုက်ကို သောက်ပြလိုက်လေ၏။ နတ်ဇုက်မယ်နှင့် ယုန်ယွမ်းတို့သည် အဘွားလူကို နောက်ပြောင် မေးမြန်းလိုပြီဖြစ်သည့်အတွက် အခြားသူများအား အမှားကို အဖြေခိုင်းထားကြ ခြင်းဖြစ်လေ၏။ သခင်မဝမ်အလှည့်သို့ရောက်သည့်အခါတွင် ယုန်ယွမ်းက သူ့အစားဖြေပေးလေ၏။ ထိုနောက် အဘွားလူ၏အလှည့်သို့ ရောက်လာ လေ၏။





"အကျွန်တို့ဘောမှာလဲ ပျင်းယင် ဒီလိုတော့ကစားလေ့ရှိပါတယ်။ ဒါပေမယ့် အကျွန်တို့အဖြေတွေက သခင်မလေးအဖြေတွေလို နုန်းမဆန် ဘူးဘော့၊ ဘောသံပါတယ်။ ကဲ၊ မေးလေ၊ ဖြေကြည့်ရတာပ"

"လွယ်ပါတယ်အဘွားလူရယ်၊စိတ်ထဲထင်တာသာဖြေလိုက်ပေါ့"

ယုန်ယွမ်းက

"လေးနဲ့လေးပေါင်း၊ လက်ဝဲစောင်း၊ လူကောင်းဖြစ်လိမ့်မည်"

အဘွားလူက စဉ်းစားလိုက်ပြီး၊ "လယ်သမားပြောဘာတော်" ဟု ပြောလိုက်ရာ ဝါးခနဲပွဲကျသွားကြလေ၏။

"ဟုတ်တယ်လေ၊ ဘောမှာ ဒီလိုပဲ ဖြေကြတာပဲ၊ မရယ်ပါနဲ့" ဟု မယ်မယ်ကပြောလေ၏။ အဘွားလူကရယ်လျက်

"အကျွန်တို့တာကတော့ကိုယ်သိတာပဲကိုယ်ဖြေရတာကိုးတော့။ ရယ်တော့မရကြနဲ့"

"အစိမ်းအနီ၊ သုံးလေးတည်၊ အလယ်ဖြစ်တော့သည်"
"ဟိုဘောအုပ်ဆီ၊ ဘောခံနီ၊ တစ်ချီသောင်လိမ့်မည်"
"ဟုတ်ပြီ၊ ကိုယ်ဖြေတတ်သလိုဖြေ"
"လက်ယာဘက်ဆင့်၊ တစ်နှစ်ပွင့်၊ လွန်စွာပဏာဘင့်"
"ကြက်သွန်ဖြူမြစ်၊ ချင်းစိမ်းမြစ်၊ အတူမထားရစ်"

အားလုံး တခစ်ခစ်ဖြစ်နေကြလေပြီ။

"ပန်းကုံးသီပြီး၊ သူတို့နည်း၊ ပန်းကုံးဘယ်လောက်ကြီး"

အဘွားလူက လက်ကိုဝိုင်းပြလိုက်ကာ

"ကျုပ်တို့အရီး၊ ဖရုံသီး၊ ဟောသည်လောက်ကြီး" ဟု ဆိုလိုက် လေ၏။

အားလုံး တဝါးဝါးဖြစ်နေကြစဉ် အပြင်ဘက်မှ ဆူဆူညံညံအသံ များကို ကြားရလေ၏။ အကြောင်းကိုနောက်တစ်ခန်းတွင်ပြောပြပေအံ့။

## အခန်း ၄၁

မြစိမ်းမှန်ကူသီလရင်ကျောင်းတိုက်တွင် ပေါက်ယု လက်ဖက်ရည် သောက်ခြင်း။

နီမောင်းပျော်ဖွယ်ရိပ်သာတွင် အဘွားလူ ယစ်ရွှေရည်မူးခြင်း။

"အကျွန်တို့ယာမှာသီးတဲ့ ဖရုံသီးဟာ ဟောဒီလောက်ကြီး" ဟု အဘွားလူက လက်ဟန်ခြေဟန်ဖြင့်လုပ်ပြလိုက်သောအခါတွင် အားလုံး တဝါးဝါးပွဲကျသွားလေ၏။ အဘွားလူသည် အရက်ချိုကို တစ်ခွက်လုံးကုန်အောင်မော့သောက်လိုက်ပြီးနောက် ပြက်လုံးထုတ်လိုသည့်ဟန်ဖြင့်

"အကျွန်တို့ တောသူတောင်သားဆိုတာက ခပ်အအရယ်တော့၊ ခုယမကာအလေးကလဲ နည်းနည်းဝင်နေတော့ အရှိန်ရနေပါပြီ။ လက်ထဲက ကြွေခွက်ကလေးလွှတ်မကျအောင်တောင် မနည်း သတိထားနေရတာ။ တကယ်ဆို အကျွန်တို့ကို သစ်သားခွက်ကလေးနဲ့ တိုက်ရော့ပေါ့။ လွှတ်ကျယင်လဲ မကွဲတော့ဘူးပေါ့"

သူ့စကားကြောင့် အားလုံး ဝိုင်းရယ်လိုက်ကြပြန်၏။ နတ်ငှက်မယ်က







"ရပါတယ် အဘွားရယ်၊ အဘွားသောက်ချင်တယ်ဆိုယင် သစ်သားခွက်ကို အယူခိုင်းလိုက်မှာပေါ့။ ဒါပေမယ့် တစ်ခုတော့ရှိတယ်နော်အဘွား၊ သစ်သားခွက်က ကြွေခွက်လိုမဟုတ်ဘူး၊ အစုံရှိတာ။ ခွက်မယ်တို့ ရွှေမြို့တော်ထုံးစံက သစ်သားခွက်နဲ့ အရက်ချို သောက်တယ်ဆိုယင် တစ်ခွက်တည်းနဲ့သောက်လို့မရဘူး။ အစုံလိုက် ပြည့်အောင်ထည့်ပြီး အဲဒီခွက်တွေထဲက အရက်ချိုတွေအားလုံး ကုန်အောင်သောက်ရတာ။ ဒီတော့ သစ်သားခွက်နဲ့သောက်လို ဖြစ်ပါ့မလား"

အဘွားလူသည် စဉ်းစားလျက်ရှိလေ၏။ "ငါကတော့ သူတို့ရယ်ရအောင် တမင်သက်သက်နောက်ပြောင်နေတာ၊ ဒါပေမယ့် ခု မလေးငှက်မယ်ပြောတဲ့ပုံအတိုင်းဆိုယင်တော့ သူတို့စံအိမ်မှာ သစ်သားခွက်တွေ တကယ်ရှိတဲ့ပုံပဲ။ တို့တောက လူကုံထံတွေအိမ်မှာဆိုယင်တော့ ငွေအရက်ခွက်ကျော်၊ ရွှေအရက်ခွက်တွေနဲ့သောက်တာ မြင်ဖူးတယ်ပဲ။ သစ်သားခွက်ရယ်လို့တော့ မတွေ့ဖူးသေးဘူး။ ခု သူတို့ဆီမှာရှိတယ်ဆိုတဲ့ သစ်သားခွက်တွေဟာ ကလေးကစားတဲ့ခွက်ကလေးတွေဖြစ်မှာပဲ၊ မလေးငှက်မယ်က တော့ ငါ့ကို အရက်များများသောက်အောင် ညာတိုက်နေပြီထင်တယ်။ ကိစ္စမရှိဘူးလေ၊ သူတို့အရက်ချိုက တို့တောက ပျားရည် အရက်ထက် ပိုပြင်းမှာမဟုတ်ပါဘူး။ ဒီတော့ အကုန်လုံးသောက်လိုက်ရယင်လဲ ဘာဖြစ်သလဲ၊ သောက်လိုက်ရုံပေါ့" ဟု တွေးလျက်ရှိလေ၏။ ထို့ကြောင့် အဘွားလူက

"ရပါတယ်သခင်မလေးရယ်၊ သောက်ဆိုယင်လဲ သောက်ရမှာပေါ့"

ဤတွင် နတ်ငှက်မယ်က ဖုန်အဲဘက်သို့လှည့်၍

"အတွင်းဆောင်ဘက်က စာအုပ်စင်ပေါ်မှာ ဝါးမြစ်နဲ့လုပ်ထားတဲ့ အရက်ခွက်ကလေးတစ်စုံရှိတယ်၊ ဆယ်လုံးပါတယ်။ သွားယူချည်စမ်း"

အစေတော်ဖုန်အဲက သွားယူမည်ပြုသည့်အခါတွင် ယုန်ယွမ်းက ပြုံးလိုက်လျက်

"မလေးငှက်မယ်ရဲ့ အဲဒီခွက်ကလေးတွေက တကယ့်ခေါသးသေးကလေးတွေပဲ။ ပြီးတော့ သစ်သားခွက်လို့ပြောထားပြီး ခုတော့

သစ်သားခွက်လဲမဟုတ်ဘူး ဝါးခွက်တွေ၊ သစ်မာသားနဲ့လုပ်ထားတဲ့ သစ်သားခွက်တစ်စုံရှိတယ်မဟုတ်လား၊ ဆယ်လုံးပါတယ်လေ။ အဲဒါကိုယူခဲ့၊ အဲဒီခွက်တွေနဲ့တိုက်ပေါ့"

နတ်ငှက်မယ်ကလည်း သဘောတူသဖြင့် ယုန်ယွမ်းသည် ထိုခွက်များကို အစေတော်တစ်ယောက်အား အယူခိုင်းလိုက်လေ၏။ ယူလာသည့်အခါတွင် အဘွားလူသည် ထိုသစ်သားခွက်များကို ကြည့်၍ ဟာအံ့တသြဖြစ်ကာ သဘောကျလျက်ရှိလေ၏။ အံ့သြရခြင်းမှာ အခြားကြောင့်မဟုတ်၊ ခွက်ဆယ်လုံးသည် တစ်ခွက်ပြီးတစ်ခွက် ကြီးစဉ်ငယ်လိုက် အံကိုက်ထည့်ထား၍ ရသောကြောင့်ဖြစ်ပြီး ခွက်အကြီးဆုံးမှာ ဟင်းသောက်ပန်းကန်လုံးသာသာလောက် ရှိလျက် ခွက်အသေးမှာ လက်ထဲတွင် သူကိုင်ထားသည့် ကြွေပန်းကန်ကလေးလောက်သာ ရှိလေ၏။ သဘောကျခြင်းမှာ အခြားကြောင့်မဟုတ်၊ ထိုသစ်သားခွက်ငယ်များပေါ်တွင် သစ်ပင်များ၊ တောတောင်များ၊ ရှုခင်းများကို ရေးခြယ်ထားပြီး စံအိမ်တံဆိပ်များနှင့် စာတန်းများ ရေ ထိုးထားခြင်းကြောင့် ဖြစ်လေ၏။

"ခွက်အငယ်ကလေးနဲ့ပဲ သောက်မယ်လေ။ အားလုံးကုန်အောင်တော့ အကျွန်မသောက်နိုင်ဘူးထင်တယ်တော့"

နတ်ငှက်မယ်က ရယ်လိုက်လျက်

"တစ်ခွက်တည်းသောက်လို့ ဘယ်ဖြစ်မလဲ အဘွားရဲ့၊ ငှက်မယ်တို့အိမ်မှာတော့ ဒီလောက်သောက်နိုင်တဲ့လူမရှိတဲ့အတွက် ဒီခွက်စုံကို ဘယ်သူမှ မသုံးရဲကြဘူး။ အခုအဘွားသောက်မယ်ဆိုလို့ ငှက်မယ်တို့မှာတကူးတကန့် ယူပေးခဲ့ရတာ။ ဒီတော့ ငြင်းမနေနဲ့၊ ဒီခွက်တွေနဲ့ တစ်လှည့်စီကုန်အောင်သောက်ပေတော့"

အဘွားလူမှာ ထိတ်လန့်လျက်ရှိကာ

"မလုပ်ပါနဲ့မလေးရယ်။ အကျွန်မသောက်နိုင်လို့ပါ။ မသောက်ပါရစေနဲ့"

မယ်မယ်၊ သခင်မဆင့်နှင့် သခင်မဝမ်တို့မှာ ဤမျှ များပြားသော အရက်များကို အဘွားလူ အသက်အရွယ်ဖြင့် သောက်နိုင်မည်မဟုတ်သည်ကို သိလိုက်သဖြင့်





'ဟဲ့ အကုန်ဘယ်သောက်နိုင်ပါ့မလဲ၊ မလုပ်ပါနဲ့။ အကြီးဆုံးခွက်နဲ့ တစ်ခွက်လောက်ဆိုယင် တော်ရော့ပေါ့"

"အမိဒ္ဓမြတ်စွာဘုရား၊ ဒီခွက်ကြီးနဲ့တော့ မလုပ်ပါနဲ့။ အငယ်ဆုံးခွက်ကလေးနဲ့ပဲ သောက်ပါရစေ၊ ကျန်တာကိုတော့ နည်းနည်းသောက်ရအောင် အိမ်ကိုယူသွားတော့မယ်"

ယုန်ယွမ်းက ခွက်ကြီးထဲသို့ အရက်ငှဲ့ပြီး အဘွားလူကို လှမ်းပေးလိုက်၏။ အဘွားလူသည် အရက်ခွက်ကို လက်နှစ်ဖက်ဖြင့် ကိုင်ရင်း နှုတ်ခမ်းတွင် တေ့လိုက်သေး၏။

မယ်မယ်နှင့် ဒေါ်လေးဆင့်က

"ဖြည်းဖြည်းလဲ သောက်ပါ အဘွားလူရယ်၊ သီးနေပါ့မယ်"

ဒေါ်လေးဆွေ့က အမြည်းပေးလိုက်ရန် နတ်ငှက်မယ်ကို ပြောလေ၏။

"အဘွားလူ၊ ဘာမြည်းမလဲ။ ကြိုက်တာပြော"

"သခင်မလေးရဲ့ ဟင်းပန်းကန်တွေက ဘာတွေမှန်းမှ မသိတာ။ ဘယ်ပြောတတ်ပါ့မလဲ သခင်မလေးရဲ့။ ကြည့်ရတာကတော့ အားလုံးစားသချင့်ဖွယ်တွေချည်းပဲ"

မယ်မယ်က ပြုံးလျက်

"ခရမ်းသီးကြော်ကလေး ပေးလိုက်ပါလားအေ"

နတ်ငှက်မယ်က တူဖြင့် ခရမ်းသီးကြော်တစ်ဖပ်ကို လှမ်းယူပြီး အဘွားလူ ပါးစပ်ထဲသို့ထည့်ပေးလိုက်လေ၏။

"အဘွားလူတို့က ခရမ်းသီးတော့ နေ့တိုင်းစားရမှာပါ။ ဒါ ပမယ့် ငှက်မယ်တို့ ခရမ်းသီးကြော်လေးကိုလဲ မြည်းကြည့်စမ်းပါဦး"

အဘွားလူက တစ်ချက်ရယ်လိုက်ပြီးနောက်

"သခင်မလေးတို့က အကျွန့်ကို လိမ်မနေကြစမ်းပါနဲ့။ ဘယ်က ခရမ်းသီးကြော်ရမှာလဲ။ ခရမ်းသီးကြော်က ဒီလိုမကောင်းပါဘူး။ ခရမ်းသီးကြော် ဒီလောက်ကောင်းယင် အကျွန်တို့ခုစိုက်နေတဲ့ သီးနှံတွေကိုမစိုက်တော့ဘူး၊ ခရမ်းသီးချည်းပဲ စိုက်တော့မယ်"

'အဟုတ်ပြောတာ အဘွားလူရဲ့။ အဲဒါ ခရမ်းသီးကြော်ပါ"

အဘွားလူက တအံ့တသြဖြင့်

"တကယ်ပြောတာလားတော်။ အကျွန်ုပ်ဖြင့် ခရမ်းသီးကြော်လို့ကို မထင်မိဘူး။ နည်းနည်း ထပ်ပေးစမ်းပါဦး သခင်မလေးရယ်။ သေသေချာချာ စားကြည့်ရအောင်"

နတ်ငှက်မယ်က တူဖြင့် နောက်တစ်ခါကျွေးပြန်၏။

အဘွားလူသည် သေချာစွာ ဝါးပြီးနောက်

"ဘယ်လိုများလုပ်ပြီး ကြော်ထားသလဲ သခင်မလေးရယ်၊ အိမ်ပြန်ရောက်ယင် ကိုယ့်ဘာသာကိုယ် ကြော်စားကြည့်ရအောင်။ ပြောပြစမ်းပါဦး"

နတ်ငှက်မယ်က မျက်တောင်တဖျပ်ဖျပ်ခတ်၍ စဉ်းစားလိုက်ပြီးနောက်

"သိပ်မခက်ပါဘူး အဘွားလူရဲ့။ ခရမ်းသီးနုနုကို အခွံသင်။ သင်ပြီးတော့ ကောင်းပေ့ဆိုတဲ့အလယ်သားကို အတုံးကလေးတွေလှီး။ ကြက်ဆီနဲ့ကြော်ထားလိုက်။ ပြီးတော့ ကြက်ရင်အုပ်သားနုနုရယ်၊ မှို လတ်လတ်ဆတ်ဆတ်ရယ်၊ မျှစ်ရယ်၊ မှိုခြောက်ရယ်၊ တို့ဟူးခြောက်အစပ်ရယ်၊ သစ်ချတို့ သစ်အယ်တို့စတဲ့ သစ်သီးခြောက်အမျိုးမျိုးရယ်။ သူတို့ အားလုံးကိုလဲ အတုံးကလေးတွေဖြစ်အောင်လှီး၊ ခုတင်က ကြော်ထားတဲ့ ခရမ်းသီးနုနုကလေးတွေနဲ့ အဲဒီပစ္စည်းတွေကို ကြက်စွပ်ပြုတ်ရည်နဲ့ ခန်းအောင်ပြုတ်ပစ်လိုက်။ ပြီးတော့မှ နှမ်းဆီရွှဲရွှဲကလေးနဲ့ လှိမ့်လိုက်။ အချဉ်ကြိုက်ယင်လဲ သနပ်ကလေးဘာလေး အထဲမှာထည့်လိုက်။ ပြီးယင် ကြွေအိုးထဲမှာလုံလုံထည့်ပြီး ပေါင်းထားလိုက်။ ဒါပဲ"

အဘွားလူသည် ခေါင်းကိုယမ်းကာ တအံ့ဘသြဖြစ်ဟန်ဖြင့် လျှာကိုထုတ်လျက်ရှိလေ၏။

"မြတ်စွာဘုရား၊ ကောင်းတာလဲမပြောနဲ့လေ။ သခင်မလေးတို့ဟာ ကြက်တစ်ဒါဇင်လောက်က အဆီကိုထုတ်ပြီးလုပ်ထားတော့ကောင်းတော့မှာပေါ့"

အဘွားလူက စကားပြောရင်းဖြင့်သောက်လာခဲ့ရာ ယခုအချိန်တွင် ခွက်ကြီး တစ်ခွက် ကုန်ခါနီးနေလေပြီ။ အဘွားလူသည် အရက်ချိုကို





သောက်ပြီးလျှင် သစ်အားခွက်ကို သေချာစွာကိုင်တွယ်ကြည့်ရှုလျက်ရှိပြန်လေ၏။

"တော်ပြီလား အဘွားလူ၊ သောက်ဦးမလား။ ကြည့်ရတာ မဝသေးဘူးထင်တယ်"

"အံမယ်လေး၊ တော်ပါပြီသခင်မလေးရယ်။ ဒီထက်သောက်ယင် သေလိမ့်မယ်။ အဘွားက ခွက်ကလေးကို လှလို့ကြည့်နေတာပါ။ တော်တော်လှတဲ့ လက်ရာ"

ယုန်ယွမ်းက

"ကဲ၊ အရက်ချိုတော့ သောက်လို့ တစ်ခွက်ကုန်သွားပြီ။ ကိုယ်သောက်တဲ့ခွက်က ဘာသားနဲ့လုပ်ထားတာလဲ သိရဲ့လား အဘွားလူ"

"သမီးတို့လဲ မသိဘူး မဟုတ်လား၊ အေးလေ ဘယ်သိပါ့မလဲ၊ ရွှေပိန်းချဝင်းတံခါးကြီးရဲ့နောက်မှာ၊ ရွှေခြည်ထိုး ယန်းသန့်ဘာကြီးတွေကာပြီးနေကြတာ။ သစ်အကြောင်း ဝါးအကြောင်း ဘယ်သိနိုင်ပါ့မလဲ။ ဒါပေမယ့် အကျွန်ုပ်တို့ကတော့ သစ်နဲ့ဝါးနဲ့ မွေးကတည်းကအတူဖက်နေလာကြရတာ။ အိပ်တော့လဲသစ်သားခေါင်းအုံး၊ ထိုင်တော့လဲ သစ်သားခုံ၊ မိုးခေါင်လို့ သရေကြီးများခိုင်းယင် သစ်ခေါက်ကိုတောင် စားလာခဲ့ရသေးတာပဲ။ သစ်ဝါးကိုနေ့တိုင်းမြင်၊ အဲဒီသစ်ဝါးကို နေ့တိုင်းကြားပြီး သစ်ဝါးအကြောင်းကိုနေ့တိုင်းပြောနေကြတော့ ဘွားလူတို့က ဘယ်သစ်ကောင်းတယ် မကောင်းဘူး၊ ဘယ်သစ်က စစ်တယ် မစစ်ဘူး ဆိုတာကောင်းကောင်းပြောနိုင်တာပေါ့။ ဒီတော့ ခု မလေးတို့အိမ်က သစ်သားခွက်တွေဟာ ဘာသားလဲဆိုတာကို ကြည့်စမ်းမယ်၊ မှန်း"

အဘွားလူသည် ထိုသို့ပြောကာ သစ်သားခွက်ကို သေချာစွာစိုက်ကြည့်လျက် ရှိလေ၏။

"မလေးတို့စံအိမ်ဟာ ပေါပေါလောလောရမယ့်သစ်တွေကို သုံးမှာ မဟုတ်တာသေချာတယ်။ ပြီးတော့ ရရာသစ်နဲ့ ကောက်လုပ်မှာမဟုတ်တာလဲ သေချာတယ်။ ဒီတော့ ဒီသစ်သားဟာ ဝက်သစ်ချမဖြစ်နိုင်ဘူး။ ပိုင်းသားဖြစ်ရမယ်"

အားလုံး ဝါးခနဲပွဲကျသွားစဉ် လက်ဖက်ရည်တည်ခင်းသည့်အစေတော် မိန်းမကြီးတစ်ယောက် ဝင်လာကာ မယ်မယ်အား တစ်စုံတစ်ရာ ပြောလေ၏။

"ကချေသည်တွေ ကြာဖူးငုံကို ရောက်နေပါပြီ။ မယ်မယ်တို့လာကြည့်မှာကို စောင့်နေကြပါတယ်။ ဇာတ်ပွဲကို အစခိုင်းထားရမလား၊ အစောင့်ခိုင်းထားရမလားလို့ အမိန့်ရှိပါ"

မယ်မယ်က ရယ်လိုက်လျက်

"အေး ဟုတ်သားပဲ၊ တို့များမေ့တောင်မေ့နေတယ်။ စ,နှင့်လို့ပြောလိုက်"

အစေတော်မိန်းမကြီးထွက်သွား၍ မကြာမီမှာပင် ပလွေသံနှင့် နှဲသံများကိုကြားရလေ၏။ လေမှာ ညင်းညင်းပြေပြေ တိုက်ခတ်လျက်ရှိပြီး ဂီတသံသည် ရေပြင်နှင့်တောအုပ်များကို ဖြတ်သန်းလာသည့်အတွက် ကြည်နူးရွှင်မြူးစရာကောင်းလျက်ရှိလေ၏။ ပေါက်ယုသည် ဂီတသံကိုကြားရသဖြင့် ပို၍ကြည်နူးလာကာ အရက်ချိုတစ်ခွက်ကိုထပ်ငှဲပြီးနောက် တစ်ခါတည်းမော့ချလိုက်လေ၏။ သူ့မိခင် သခင်မဝမ်မှာလည်း အရက်ချိုသောက်ချင်လာသဖြင့် အငေးချိုကို အကျိခိုင်းလိုက်၏။ ပေါက်ယုသည် မိခင်ကြီးကိုမြင်လျှင် နောက်တစ်ခွက်ငှဲ၍ မိခင်ကြီးကို လှမ်းပေးလိုက်၏။ သခင်မဝမ်သည် နှစ်ကျိုက်မျှဆက်တိုက်သောက်လိုက်၏။

ထိုစဉ် အကျိခိုင်းလိုက်သည့် အရက်ချိုရောက်လာလေ၏။ ပေါက်ယုသည် သူ့နေရာသို့ပြန်လာသည်တွင် သခင်မဝမ်သည် အရက်ချိုအိုးကိုကိုင်၍ မတ်တတ်ရပ်လိုက်၏။ ထို့ကြောင့် ဒေါ်လေးဆင့်မှာလည်း လိုက်၍ မတ်တတ်ရပ်ရလေ၏။ မယ်မယ်က လီဝမ် နှင့်နတ်ငှက်မယ်တို့အား သခင်မဝမ်၏လက်မှ အရက်ချိုအိုးကို လှမ်းယူရန် ပြောလိုက်လေ၏။

"ဟဲ့၊ ညည်းတို့ဒေါ်လေးဝမ်ကို ထိုင်ပါစေအေ။ အဆောင်အယောင်အခမ်းအနားတွေ ဒီလောက်မလိုပါဘူး"

သခင်မဝမ်သည် အရက်ချိုအိုးကို နတ်ငှက်မယ်သို့ ပေးလိုက်ပြီးလျှင် နေရာတွင် ပြန်ထိုင်လိုက်လေ၏။





မယ်မယ်က

"ဒီနေ့ သိပ်ပျော်တာပဲကွယ်။ ကဲ ပျော်တဲ့အထိမ်းအမှတ်နဲ့ နည်းနည်းလောက် သောက်လိုက်ကြဦးစို့ရဲ့"

မယ်မယ်သည် ဒေါ်လေးဆွေ့ကို အရက်ချို သောက်ခိုင်းပြီးနောက် ရှိစမ်းယဉ်နှင့်ပေါက်ကြည်တို့ဘက်သို့လှည့်ကာ

"လာ၊ ညည်းတို့နှစ်ယောက်လဲ သောက်ကြရမယ်။ ထိုက်ယုလဲ မသောက်နိုင်ပေမယ့် နည်းနည်းတော့သောက်ရမယ်"

မယ်မယ်က သူ့ခွက်ကို ကုန်အောင် မော့သောက်လိုက်သဖြင့် ရှိစမ်းယဉ်၊ ပေါက်ကြည်နှင့် ထိုက်ယုတို့မှာလည်း လိုက်သောက်ရလေ၏။

ဂီတသံကလည်းမြူး၊ အရက်ကလေးကလည်း မူးနေသည့်အတွက် အဘွားလူသည် မအောင့်နိုင်တော့ပဲ ထ၍ ကလေ၏။ ပေါက်ယုက ထိုက်ယုအနီးသို့ကပ်ကာ

"အဘွားလူကိုကြည့်စမ်း"

"သူတော်စင်ဘုရင်အိုကြီးကတူရိယာကိုတီးတော့ တောတိရစ္ဆာန်တွေက လိုက်ကကြရတာပေါ့။ ကြည့်လေ၊ အဘွားလူဆိုယင် ကကယ့်နွားမကြီးကျနေတာပဲ"ဟု ထိုက်ယုကပြောလိုက်သဖြင့် တစ်ဝိုင်းလုံးပွဲကျသွားလေ၏။

ထိုစဉ် ဂီတသံရပ်သွားကာ ဒေါ်လေးဆွေ့က ထိုင်ရာမှထ၍ ရပ်လိုက်လျက်

"ကဲ၊ ဒီလောက်သောက်ရယင် တော်လောက်ရောပေါ့၊ မဟုတ်ဘူးလား။ ပွဲမကြည့်ခင် အညောင်းပြေအညာပြေ တစ်ပတ်လောက် လျှောက်ကြည့်လိုက်ဦးစို့"

မယ်မယ်အတွက်လည်း အညောင်းပြေ လျှောက်ရန် ဆိုသည့်အတွက် အားလုံး ထိုင်ရာမှထလိုက်ကြကာ အပြင်သို့ထွက်လာခဲ့ကြလေ၏။ ဒေါ်လေးဆွေ့သည် အဘွားလူအား တောင်ကမူ လေးသစ်ခုခြေရင်းသို့ခေါ်သွားကာ လမ်းလျှောက်ရင်း ဥယျာဉ်ထဲတွင် စိုက်ထားသည့် သစ်ပင်တို့၏ အမျိုးအမည်ကို ပြောပြလျက်ရှိလေ၏။

အဘွားလူသည် ပြောသမျှကို နားထောင်ပြီးနောက်

"အင်း၊ သခင်မလေးတို့ ရွှေမြို့တော်မှာတော့ လူတွေတွင် အထက်တန်းကျကျ နေရတာ မဟုတ်ပါဘူးတော်။ ငှက်တွေတောင်မှ အထက်တန်းကျကျ နေရတာပါ။ ကြည့်စမ်းပါဦး။ သူတို့ ဒီရောက်လာကာစတုန်းက ဒီငှက်တွေဟာ ဘယ်မှာ စကားပြောတတ်ပါမလဲ။ ဒီကိုရောက်မှ တတ်လာကြတာ"

"ဘယ်လိုငှက်တွေများလဲ အဘွားလူရဲ့"

"ဟောဟိုစကြံမှာ ချိတ်ထားတဲ့အိမ်ထဲက နှုတ်သီးနီနီ၊ ကိုယ်လုံးစိမ်းစိမ်းနဲ့ငှက်ပေါ့ မလေးတို့ရဲ့။ အဲဒီငှက်က ကြက်တူရွေးရယ်။ ဒါပေမယ့် ဟောဒီလှောင်အိမ်ထဲက တောကျီးကန်းကတော့ ဘာဖြစ်လို့ နတ်ငှက် အမျောက်မျိုးပေါက်ပြီး စကားပြောတတ်သွားသလဲ မသိပါဘူး"

ဟု ပြောသဖြင့် အားလုံး တဝါးဝါး ဖြစ်နေကြပြန်လေ၏။

ခဏကြာလျှင် အစေတော်များရောက်လာကာ စားသောက်ဖွယ်အချိုယမကာ တို့ တည်ခင်းရတော့မည်လောဟု မေးမြန်းကြလေ၏။ မယ်မယ်က

"အရက်ချိုတွေ ဒီလောက်သောက်ထားတော့ သိပ် မဆာလှပါဘူးအေ။ ဒါပေမယ့် ဆာတဲ့လူ စားရတာပေါ့။ ယူချင်လဲယူခဲ့ကြ"

အစေတော်များသည် လက်ဖက်ရည်စားပွဲခုံကလေး နှစ်လုံးနှင့် ယွန်းအစ်နှစ်လုံးကို ယူလာကြလေ၏။ ယွန်းအစ်ကို ဖွင့်ကြည့်လိုက်သည့်အခါ၌ မုန့်မျိုးစုံ ထည့်ယူလာခဲ့သည်ကို တွေ့ရလေ၏။ တစ်မျိုးမှာ ကြာမြစ်ကို အမှုန့်ကြိတ်ထားပြီးနံ့သာပုန့်အုပ်ထားသည့် မုန့်ဖြစ်ပြီး နောက်တစ်မျိုးမှာ ထားမျိုးစေ့လှော်၊ နှင်းဆီဖြင့် ကြော်ထားသည့် မုန့်တို့ဖြစ်ပြီး အခြားတစ်အစ်ထဲမှမုန့်မှာ တစ်လက်မလောက်မျှသာရှည်သည့် မုန့်လုံးကြော်ကလေးများ ဖြစ်လေ၏။

"အထဲက ဘာ အစာသွတ်ထားသလဲဟဲ့"ဟု မယ်မယ်က မေးလေ၏။

"ကဏန်းပေါင်းပါ မယ်မယ်"

မယ်မယ်က မျက်မှောင်ကုတ်လိုက်လျက်

"ညည်းတို့ဟာက အဒီတွေ၊ အဆိမ့်တွေချည်းပဲကိုးအေ့"





မလိုင်ဖြင့်လုပ်ထားသည့် ရောင်စုံ မုန့်အချိုကလေးများကိုလည်း မယ်မယ်မကြိုက်ပြန်ချေ။ ဒေါ်လေးဆွေ့သည် ငှန်းဆီကြော်မုန့်ကို တစ်ကိုက်ကိုက်ပြီးလျှင် အစေတော်တစ်ယောက်ကို လှမ်းပေးလိုက်၏။

အဘွားလူမှာ အရသာရှိခြင်းကြောင့်လည်းကောင်း၊ မုန့်အမျိုးစုံခြင်းကြောင့်လည်းကောင်း တအံ့တသြဖြစ်လျက်ရှိလေ၏။ အဘွားလူသည် ခေါင်ချန်းပွင့်ပုံရှိသည့်မုန့်တစ်ခုကို ကောက်ယူလိုက်ပြီးလျှင်

"အကျွန်တို့ရွာက မုန့်လုပ်အကောင်းဆုံးကောင်မလေးကို ဒီမုန့်ကိုလုပ်ဖို့မပြောနဲ့ ဒီမုန့်ကို ကတ်ကြေးနဲ့ကိုက်ပြီး လုပ်ပြစမ်းဆိုတောင် လုပ်နိုင်မှာမဟုတ်ဘူးဘော်။ အကျွန် ဒီလိုမုန့်မျိုးကိုလုပ်ကြည့်မလို့ စိတ်ကူးနေတာ ကြာလှပြီ၊ ဒါပေမယ့် စားရတာမရဲဘာနဲ့ မလုပ်ဖြစ်ဘာ။ အကျွန်တို့ရွာကို မုန့်နမူနာပြဖို့ ယူသွားချင်လိုက်တာ"

အားလုံးက ဝိုင်းရယ်လိုက်ကြ၏။

"အမယ်ကြီးအိုပြန်ယင် တစ်အိုးလောက် လုပ်ပေးလိုက်ပါ့မယ်တော်၊ ကဲ ပူပူလေးရှိတုန်း စားကြည့်စမ်းပါဦး"

အချို့က တစ်ဖွဲ့ဘသေယူ၍ မြည်းစမ်းကြည့်ကြ၏။ အဘွားလူမှာ ထိုမုန့်မျိုးကို တစ်ခါမျှမစားခဲ့ဖူးချေ။ ထို့ပြင် ထိုမျှ သေးငယ်လှပသည့်မုန့်ကလေးထဲ ၌ ဥပနာသွတ်ထားသည်ကိုလည်း တအံ့တသြဖြစ်လျက်ရှိ၏။ သို့ဖြင့် အဘွားလူတို့ မြေးအဘွားနှစ်ယောက်သည် မုန့်မျိုးစုံကို စမ်းမြည်းကြည့်ရာ တစ်ဝက်ခန့်မျှကုန်သွားခဲ့လေပြီ။ နတ်ငှက်မယ်သည် ကျန်မုန့်များကို ယွန်းအစ်တစ်ခုတွင်ထည့်စေပြီးနောက် ဆွေချေသည်များထံ အပ့်ခိုင်းလိုက်၏။

ထိုစဉ် နတ်ငှက်မယ်နှင့် ကျွဲလျှံတို့၏ တစ်ဦးတည်းသော သမီးလေးသည် အထိန်းတော်နှင့်အတူရောက်လာကာ သူတို့အနီးတွင် အဘန်ကြာကစားနေကြလေ၏။ ကလေးငယ်သည် ကျွဲကောသီး တစ်လုံးဖြင့် ကစားနေရာမှ ပန်အဲလက်ထဲရှိ ရွှေငှက်ပျောသီးကို မြင်သည့်အခါတွင် ထိုငှက်ပျောသီးကို ပူဆာလျက်ရှိ၏။ အစေတော်များက ခဏနေလျှင် သွားယူပေးမည်ဟုပြောသည့်တိုင်မရဘဲ ယခုလိုချင်သည်ဟုဆိုကာ ငိုလျက်ရှိ၏။ ထို့ကြောင့် အစေတော်များသည် ကျွဲကောသီးနှင့် ငှက်ပျောသီး

လဲရနီ ပနီအဲကို ချေ့ပြောရလေ၏။ ထိုအချိန်၌ကား ပန်အဲမှာ ရွှေငှက်ပျောသီးနှင့် ကစားနေသည်မှာ အတန်ကြာခဲ့လေပြီ။ သူ့လက်ထဲတွင်လည်း မုန့်တွေအပြည့်ကိုင်ထား၏။ ကျွဲကောသီးမှာ မွှေ လျက် ရှိ၍ အတွက် ပို၍သဘောကျသွားကာ ဘာမျှမပြောတော့ဘဲ ရွှေငှက်ပျောသီးကို တောလုံးကန်သလို ကန်လိုက်ပြီး လှမ်းပေးလိုက်လေ၏။

စားသောက်ပြီးကြသည့်အခါတွင် မယ်မယ်က အဘွားလူအား ဥယျာဉ်ထဲတွင်ရှိသည့် မြစိမ်းမှန်ကူသီလရှင်ကျောင်းတိုက်သို့ ခေါ်သွားလေ၏။ ပန်းပင် သစ်ပင်တို့ ဝေဆာလျက်ရှိသည့် ကျောင်းပေါက်ဝသို့ ရောက်သည့်အခါတွင် ကျောင်းထိုင်သီလရှင်ဖြစ်သည့် ဆရာလေးမြောင်ယုက သူတို့ကိုဆီးကြိုလေ၏။

"အင်း လောကီကိစ္စ ဝိစ္စတွေအားလုံးကို စွန့်လွှတ်ပြီးတဲ့ ပုဂ္ဂိုလ်တွေမှ သူတို့နေရာထိုင်ခင်းတွေကို သန့်ရှင်းအောင်လုပ်ဖို့ အချိန်ရတာ ဒါကြောင့်ပေါ့။ ဘုန်းကြီးကျောင်းတွေ၊ သီလရှင်ကျောင်းတွေကို ကြည့်လိုက်ယင် အမြဲသန့်ရှင်းနေတာပဲ"

ထိုသို့ပြောဆိုရင်း မယ်မယ်တို့တစ်သိုက်သည် ကျောင်းတိုက်အရှေ့ဘက်ရှိ ကမ္မဋ္ဌာန်းဇရပ်ကလေးရှိရာသို့ လာခဲ့ကြလေ၏။ မြောင်ယုက ကမ္မဋ္ဌာန်းကျောင်းကလေးကို ဝင်ကြည့်ရန် ပြောလေ၏။

"မယ်မယ်တို့က ခုတင် အရက်ချိုကလေး ဘာလေးသောက်ပြီး အသားတွေစားလာကြတာ ဆရာလေးရဲ့။ အထဲမှာလဲ ဗုဒ္ဓရုပ်ပွားတော်နဲ့ဆိုတော့ ငရဲကြီးနေပါဦးမယ်။ မယ်မယ်တို့ အပြင်မှာပဲနေပါမယ်။ ဆရာလေးက လက်ဖက်ရည် အကျိုကောင်းလှတယ်လို့ ပြောကြတယ်။ ဆရာလေးကျိုတဲ့ လက်ဖက်ရည်ကလေးကိုသာ တိုက်ပါတော့"

သီလရှင်မြောင်ယုသည် လက်ဖက်ရည်ကျိုရန် ထွက်သွားလေ၏။

ပေါက်ယုသည် မြောင်ယုလုပ်ကိုင်ပုံကို သေချာစွာကြည့်လျက်ရှိလေ၏။ ဆရာလေးမြောင်ယုသည် တိမ်နဂါးမင်းက အာယုဗလဆေးကို ပူဇော်နေသည့်ပန်း၊ ရွှေပွင့်ရေးထားသည့် ပန်းသီးချဉ်ရိုင်းပွင့်ပုံ ယွန်းလက်ဖက်ရည်ဗန်းတစ်ချပ်ကို ကိုယ်တိုင်ထုတ်ယူခဲ့လေ၏။ ယွန်းဗန်းပေါ်တွင်မူ လွန်ခဲ့သည့် အနှစ်သုံးရာကျော် လေးရာခန့် ချိန်ဟွာမင်းခေတ်တွင်





ပြုလုပ်ခဲ့သည့် ရွှေမင်ပန်းရေး ကြွေလက်ဖက်ရည်အုပ်ကို အဖုံးဖုံး၍ ယူလာပြီးလျှင် မယ်မယ်ရှေ့တွင် ချလိုက်လေ၏။

"မယ်မယ်က လီယွန်လက်ဖက်ခြောက်ဆိုယင် မသောက်ဖူး ဆရာလေးရဲ့' ဟု မယ်မယ်ကပြော၏။

'ဆရာလေးသိပါတယ်။ ဒီလက်ဖက်ခြောက်က စော်ဘွား မျက်ခုံးမွေး လက်ဖက်ခြောက်ပါ။ စော်ဘွားကြီးများရဲ့ မျက်ခုံးမွေးလို အဖျားကကော့နေလို့ခေါ်တာ"

"ရေနွေးကျိုတော့ကော၊ ဘာရေနဲ့ကျိုတာလဲ ဆရာလေး"

"မနှစ်ကခံထားတဲ့ မိုးရေနဲ့ပါ"

မယ်မယ်သည် တစ်ကျိုက်သောက်လိုက်ပြီးလျှင် လက်ဖက်ခြောက်ကို မြည်းစမ်းကြည့်ရန် အဘွားလူဘက်သို့ ကမ်းလိုက်လေ၏။ အဘွားလူသည် လက်ဖက်ရည်ကို တစ်ကျိုက်တည်း မော့သောက်လိုက်ပြီးနောက်

"ကောင်းတော့ ကောင်းပါရဲ့။ ဒါပေမယ့် အကျန်တို့အကြိုက်နဲ့ပြောရယင်တော့ နည်းနည်းပေါ့နေသေးတယ်။ လက်ဖက်ခြောက်ကို ကျအောင် ခပ်ကြာကြာကလေးနှပ်ထားလိုက်ယင် ပိုကောင်းမယ်" ဟု ပြောလိုက်သဖြင့် အားလုံးက ဝိုင်းရယ်ကြပြန်လေ၏။

အခြားလူများမှာလည်း ဘုရင့်ကြွေထည် စက်ရုံမှထုတ်လုပ်သည့် ဖရဲသီးစိမ်းရောင်ပေါ်တွင် ရွှေမင်ပန်းရေးကာ အဖုံးဖုံးထားသည့် လက်ဖက်ရည်ပန်းကန်များရှေ့တွင် ချထားလျက်ရှိလေ၏။

သီလရှင်မြောင်ယုသည် ဧည့်သည်များကို လက်ဖက်ရည်တည်ခင်းပေးပြီးလျှင် ထိုက်ယုနှင့် ပေါက်ကြည်တို့ကို လက်တို့၍ ခေါ်သွားသည့်အတွက် သူတို့နှစ်ယောက်လည်း သီလရှင်နောက်မှ လိုက်သွားကြလေ၏။ ပေါက်ယုလည်း သူတို့နှစ်ယောက်နောက်မှ အသာထလိုက်လာခဲ့လေ၏။ ဆရာလေး မြောင်ယုသည် သူတို့နှစ်ယောက်ကို ဘေးအခန်းတစ်ခန်းထဲသို့ ခေါ်သွားလေ၏။ ပေါက်ကြည်သည် ထိုင်ဖုံတစ်ခုပေါ်တွင် ဝင်ထိုင်လိုက်ပြီး ထိုက်ယုမှာ ဆရာလေးမြောင်ယု ထိုင်လေ့ရှိသည့် မြက်ဖျာပေါ်တွင် ထိုင်နေလေ၏။ ဆရာလေးမြောင်ယုမှာ မီးဖိုကိုယပ်ခတ်လျက်ရှိပြီး ရေနွေး

ဆူသည်နှင့် လက်ဖက်ခြောက်များကို ခတ်၍ ကျိုနေလေ၏။ ပေါက်ယုက သူတို့အခန်းထဲသို့ အသာလိုက်လာကာ

"ဒီမှာ တိတ်တိတ်ပုန်းကျိတ်ပြီး လက်ဖက်ရည်သောက်နေကြတယ် ပေါ့"ဟု စ,လေ၏။

သူတို့သုံးယောက်က ရယ်လိုက်ကြ၏။

"မောင် ဒီကို ဘာဖြစ်လို့လိုက်လာရတာလဲ။ ဒီမှာ မောင့်ဖို့ ဘာမှ မရှိဘူး"

မြောင်ယုက လက်ဖက်ရည်ပန်းကန်များကို ရှာနေစဉ် သီသချပ် အဘွားကြီးတစ်ပါးသည် လက်ဖက်ရည်ပန်းကန် အဟောင်းများကိုကိုင် ၍ ဝင်လာလေ၏။

"ဆရာကြီး၊ ချိန်ဟွာခြွေခွက်ကြီးကို အထဲကိုသိမ်းမသွားနဲ့နော်၊ ထားခဲ့၊ အပြင်မှာထားခဲ့"ဟု မြောင်ယုက ပြောလေ၏။

ထိုကြွေခွက်ကို အဘွားလူသောက်ပြီးသားဖြစ်သည့်အတွက် ညစ် ပတ်သည်ဟုထင်သောကြောင့်အပြင်သို့အထုတ်ခိုင်းသည်ကခြင်းဖြစ်ကြောင်း ပေါက်ယု သိလိုက်လေ၏။ ဆရာလေး မြောင်ယုသည် လက်ဖက်ရည်ပန်း ကန် အသစ်နှစ်လုံးကို ထုတ်လာလေရာ တစ်လုံးမှာ လက်ကိုင်နှင့် ဖြစ်၍ ထိုခွက်ပေါ်တွင် "ဘူးသီးခြောက်ခွက်"ဟု ရေးထားလျက် နောက်တစ် လုံးမှာ အောက်တွင် စာလုံးသေးအလေးများဖြင့်"ဆင့်မင်းဆက်ခေတ်က ဝမ်ခိုင်သောက်သုံးခဲ့သောခွက်"ဟု ရေးထားပြီးလျှင် ထိုအောက်မှတစ် ဖန် "ဘွန်မင်းဆက်၊ ဟွန်ယုန်မင်းခေတ်၊ပဥ္စမနှစ် စတုတ္ထလတွင် သီလရှင် ဆရာကြီးဆူရှိသည် ဘုရင်မင်းမြတ်၏ လှူတ်တော်ဝန်ကြီးများရုံးတွင် ဤ ခွက်ကို တွေ့ရှိခဲ့ဖူးသည်"ဟု ရေးထားလေ၏။ ဆရာလေး မြောင်ယုသည် လက်ဖက်ရည်ကို ထိုခွက်ထဲသို့ငှဲ့ပြီးနောက် ပေါက်ကြည်ကို လှမ်းပေးလိုက် လေ၏။ နောက်တစ်ခွက်မှာ သပိတ်ပုံဖြစ်ပြီး "ကြွခွက်"ဟု စာတန်းထိုး ထားလေ၏။ ထိုခွက်ကိုထိုက်ယုကိုပေးပြီး ပေါက်ယုကိုမူ သူသောက်နေကျ ဖြစ်သည့် အစိမ်းရောင် နှုတ်သီးချွန်နှင့် လက်ဖက်ရည် ခွက်ကလေးထဲ ထည့်၍ပေးလိုက်လေ၏။





"တရားတော်မှာ သတ္တဝါဝေနေယျအားလုံးဟာ အတူတူပဲလို့ပါ တယ်နော်။ သူတို့ကျတော့ အဖိုးတန်လက်ဖက်ရည်ခွက်တွေနဲ့ ထည့်ပေးပြီး ကျွန်တော့်ကျတော့ ဘာဖြစ်လို့ ဒီခွက်စုတ်ကြီးနဲ့ ထည့်ပေးရတာလဲ ဆရာ လေးရဲ့"ဟု ပေါက်ယုကမေးလိုက်၏။

"ဘာ ခွက်စုတ်ကြီး ဟုတ်လား။ မောင်တို့စံအိမ်မှာတောင် သည့် တစ်ဝက် အဖိုးတန်တဲ့ခွက်တောင် ရှိမှာမဟုတ်ဘူး။ သိရဲ့လား"ဟု ဆရာ လေး မြောင်ယုက ပြောလေ၏။

"'သူများနိုင်ငံမှာ သူများနည်းအတိုင်း လုပ်ရတယ်လို့' စာဆိုရှိ တယ်မဟုတ်လား။ ရွှေတွေ၊ ပုလဲတွေ၊ ကျောက်စိမ်းတွေ၊ ကျောက်မျက် ရတနာတွေကို စီထားတဲ့ခွက်က ဆရာလေးလိုပုဂ္ဂိုလ်အဖို့ ယုတ်ညံ့နိမ့်ကျ ရာမရောက်ပေဘူးလား"

ဆရာလေးမြောင်သည် ထိုစကားကြောင့် အကြီးအကျယ်သဘော ကျသွားကာ ပေါက်ယုအား ဝါးမြစ်ဖြင့်လုပ်ထားသည့် လက်ဖက်ရည် ခွက်တစ်ခွက်ကို ထုတ်၍ပေးလေ၏။ ဝါးမြစ်ခွက်မှာ အဖုအထစ်များ အဆစ်များဖြင့်ပြည့်လျက်ရှိ၏။

"ဆရာလေးမှာတော့ ခွက်ပိုဆိုလို့ ဒီခွက်တစ်ခွက်ပဲ ကျန်တော့ တယ်။ ဒီလောက်ကြီးတဲ့ ခွက်ထဲက လက်ဖက်ရည်တွေကို ကုန်အောင် သောက်နိုင်ပါ့မလား"

"သောက်နိုင်ပါတယ်"ဟု ပေါက်ယုကပြောလေ၏။

"မောင်ကသောက်နိုင်ပေမယ့် ဆရာလေးကမတိုက်နိုင်ဘူးနော်။ လက်ဖက်ရည်ဆိုတာ ပထမခွက်ဟာ မြည်းဖို့တဲ့၊ ဒုတိယခွက်ဟာ လူမိုက် ကို ရေငတ်ပြေစေဖို့တဲ့၊ တတိယခွက်ကတော့ နွားတစ်ကောင်ကို ရေချိုး ပေးဖို့တဲ့၊ စာဆိုရှိတယ်။ ဒီတော့ ဒီလောက်ကြီးတဲ့ ခွက်ကြီးထဲက လက် ဖက်ရည်တွေကို မောင်သောက်တယ်ဆိုတော့ မောင်ဘယ်ဘဝ ရောက် သွားမလဲ စဉ်းစားကြည့်ပေါ့"၊

ပေါက်ယုနှင့် မိန်းကလေးနှစ်ယောက်က ရယ်လိုက်ကြ၏။ ဆရာ လေးမြောင်ယုသည် လက်ဖက်ရည်ကရားကိုယူကာ ပေါက်ယု၏ ခွက်ကြီး

ထဲသို့ ခွက်ကလေးတစ်ခွက်စာ ငှဲ့ပေးလိုက်လေ၏။ ပေါက်ယုသည် လက်ဖက်ရည်ကိုသောက်၍မြည်းကြည့်လိုက်ရာ အရသာကောင်းလှသဖြင့် မချီးမွမ်းပဲ မနေနိုင်အောင်ဖြစ်လျက်ရှိ၏။

"ဒီလက်ဖက်ရည်ကိုသောက်ရတာ မောင့်အစ်မဘွေ့ကို ကျေးဇူးတင်နော်။ မောင်တစ်ယောက်တည်းလာယင် ဆရာလေးက ကျိုတိုက်မှာ မဟုတ်ဘူး"

"ဟုတ်ပါတယ်၊ ဒါကြောင့် ဆရာလေးကို ကျေးဇူးမတင်ဘဲ သူတို့ကိုကျေးဇူးတင်ရမှာပေါ့။ သူတို့ကြောင့် ဒီလောက်ကောင်းတဲ့ လက်ဖက်ရည်ကို ကျွန်တော်သောက်ရတာ"

"ဟုတ်တယ်၊ သူတို့ပဲကျေးဇူးတင်ရမှာ"

"ဒီလက်ဖက်ရည်ကကော မနှစ်ကမိုးရေနဲ့ ကျိုတာပဲလား" ဟု ထိုက်ယုကမေးလိုက်၏။ ဆရာလေးမြောင်ယုက

"မလေးတို့က ဒီလောက်ကွဲပြားနေတာကိုတောင် မခွဲခြားတတ်သေးပဲကိုး။ မိုးရေမဟုတ်ဘူး မလေးရေ့၊ လွန်ခဲ့တဲ့ ငါးနှစ်သောက်တုန်းက ဆွမ်မူဘောင်ပေါ်မှာရှိတဲ့ နံ့သာနီ သိသရင်ကျောင်းတိုက်မှာ ဆရာလေးစာလိုက်ခဲ့တုန်းက ဆီးတော်ပွင့်တွေပေါ်မှာ တင်နေတဲ့ နှင်းရေကို စုဆောင်းပြီး လှောင်ထားတာ။ ခုဟာက အဲဒီနှင်းရေနဲ့ကျိုတဲ့ လက်ဖက်ရည်။ အဲဒီတုန်းက နှင်းရည်တွေကို ဟောဟိုက ကြွေအိုးအပြာကလေးနဲ့ စုလှောင်ပြီး မြေကြီးထဲမြှုပ်ထားခဲ့တယ်၊ နှမြောတာနဲ့ ဖွင့်ကိုမဖွင့်ဘူး။ ခုနှစ်နွေကျ ပြန်ဖော်ထားတာ။ တစ်လောကတစ်ခါကျိုပြီးပြီ၊ ခု ဒုတိယအကြိမ်ကျိုတာပဲ။ အရသာမတူဘူးမဟုတ်လား။ မနှစ်က မိုးရေဆိုယင် ဒီလောက်ဘယ်ကြည်နေပါ့မလဲ"

ထိုက်ယုမှာ သိသရင်ဆရာလေး အလွန် အသန့်အပြန့်ကြိုက်တတ်ကြောင်းကိုသိသည့်အတွက် ဤနေရာတွင် ကြာကြာလည်း မနေချင်၊ စကားလည်းများများမပြောချင်ဘဲပြန်ချင်နေလေပြီ။ထို့ကြောင့် ပေါက်ယုကိုမျက်ရိပ်ပြကာ နှုတ်ဆက်၍ ထွက်လာကြသည်တွင် ပေါက်ယုလည်း သူတို့နှင့်အတူ ပြန်လိုက်လာခဲ့လေ၏။





အပေါက်ဝသို့အရောက်၌ ပေါက်ယုက

"ဆရာလေးရေ။ ခုတွင်က အပြင်ကို ထုတ်ထားတဲ့ ခွက်ကြီးဟာ သန့်ချင်မှတော့ သန့်တော့မယ်ပေါ့သေ။ ဒါပေမယ့် ဒီခွက်ကို လွှင့်ပစ်မယ်ဆိုယင် နှမြောစရာကြီး ဆရာလေးရယ်။ အဘွားလူကို ပေးလိုက်ပါလား။ အဘွားကြီး ဒီခွက်ကို ရောင်းစားယင် တော်တော်ကြာကြာအထိ စားရေး သောက်ရေး ချောင်လည်သွားမှာ၊ ဘယ့်နှယ်လဲ"

ဆရာလေး မြောင်ယုသည် အတန်ကြာမျှ စဉ်းစား နေလေ၏။ နောက် ခေါင်းညိတ်ပြလိုက်ရင်း

"ကောင်းသားပဲ။ ဆရာလေးလဲ နောက် ဒီခွက်ကို သုံးတော့မှာ မဟုတ်ပါဘူး။ ရိုက်ခွဲပစ်လိုက်မလို့တောင် စိတ်ကူးထားတာ။ပေးချင်တယ်ဆိုယင် ပေးလိုက်လေ။ ယူသွားပါလား"

"ကောင်းတယ်၊ ကောင်းတယ်၊ ဒီခွက်ကိုသုံးနေယင် ဆရာလေးပါ မသန့်မရှင်းဖြစ်လိမ့်မယ်။ ကျွန်တော် ကိုပေးလိုက်"

သိသရင် မြောင်ယုသည် ခွက်ကိုယူပြီး ပေါက်ယုကို ပေးလိုက်လေ၏။

"ပြီးတော့ ကျွန်တော်တို့လာလို့ ဆရာလေး နေရာမှာ ညစ်ညမ်းသွားတယ်ဆိုယင်လဲ သူငယ်တော်တချို့ကို လွှတ်ပြီး ကြမ်းတွေကို ရေအဆေးခိုင်းလိုက်မယ်လေ"

"ကောင်းသားပဲ။ ဒါပေမယ့် သူတို့ကိုလဲ အယဲအဝင်မခိုင်းနဲ့နော်။ ရေပုံးတွေကို ကျောင်းတံတိုင်း အပြင်ဘက်မှာပဲ ထားပစ်ခဲ့ပေ့စေ"

"ဟုတ်ပါတယ်။ အဝင်မခိုင်းဘူးပါဘူး"

ပေါက်ယုသည် လက်ဖက်ရည်ပန်းကန်လုံးကို အင်္ကျီလက်ထဲတွင် ထည့်လိုက်ပြီးလျှင် မယ်မယ်၏အဖော် တစ်ယောက်ကိုပေးကာ "ရော့ ဒီခွက်ကို မနက်ဖြန် အဘွားလူအပြန်မှာ ပေးလိုက်" ဟုပြောလေ၏။

ထိုအချိန်၌ကား မယ်မယ်တို့မှာလည်း ပြန်ရန် အဆင်သင့်ဖြစ်နေလေပြီ။ ဆရာလေးမြောက်ယုကလည်းတားဆီးခြင်းမပြုတော့ဘဲ ကျောင်း

ပေါက်ဝအထိ လိုက်ပို့ကာ သူတို့ထွက်လာခဲ့သည်နှင့် ကျောင်းဝင်းတံခါးကြီးကို ပိတ်လိုက်လေ၏။

မယ်မယ်မှာ အဘန်ငယ်ပင်ပန်းနေပြီဖြစ်သည့်အလျောက် သခင်မဝမ်အား ဒေါ်လေးဆွဲ့နှင့်အတူ လက်ဖက်ရည်သောက်ရင်း စကားစမြည်ပြောနေရန် မှာခဲ့ပြီးလျှင် စပါးချီတဲသို့သွားကာ အနားယူမည်ကို ပြောလေ၏။ ထို့ကြောင့် နတ်ငှက်မယ်သည် သံလျင်းငယ်တစ်စင်းဟု အယူခိုင်းလိုက်၏။ မယ်မယ်သည် အစေတော်မိန်းမကြီးနှစ်ယောက်ထမ်းသည့် သံလျင်းပေါ်သို့ တက်ထိုင်လိုက်၏။ နတ်ငှက်မယ်၊ လီဝမ်းနှင့် မယ်မယ်၏အစေတော်များ၊ အခိုင်းတော်များသည် နောက်မှ လိုက်ပါလာခဲ့ကြလေ၏။

ထိုအချိန်တွင် ဒေါ်လေးဆွဲ့မှာလည်း နှုတ်ဆက်ပြန်သွားပြီဖြစ်သည့်အတွက် သခင်မဝမ်သည် ကချေသည်များကို ပြန်လွှတ်လိုက်ကာ ယွန်းအစ်ထဲတွင်ကြွင်းကျန်သည့် စားဖွယ်သောက်ဖွယ်တို့ကိုလည်း အစေတော်များအား ခွဲဝေပေးလိုက်ပြီးနောက် ယောက္ခမဖြစ်သူ မယ်မယ်ထိုင်ခဲ့သည့် ထိုင်ဖုံပေါ်တွင် လဲလျောင်းနေမိလေ၏။ သခင်မဝမ်သည် ခန်းဆီးကန့်လန့်ကာကိုချရန် ပြောလိုက်ပြီးနောက် အစေတော်တစ်ယောက်ကိုခေါ်ကာ ခြေထောက်များကို အနှိပ်ခိုင်းလျက်ရှိလေ၏။

"အဘွားကြီးနိုးယင် ငါ့ကို လာပြောလှည့်ကြ"ဟုဆိုကာ သခင်မဝမ်သည် တရေးတမောအိပ်လျက်ရှိသည်တွင် လူစုကွဲသွားကြလေ၏။

ပေါက်ယု၊ ရှိစမ်းယင်နှင့် အခြားမိန်းကလေးများသည် ကျောက်ဆောင်များပေါ်တွင် စားစရာ သေတ္တာကလေးများကို တင်နေသည့် အစေတော်များကို ကြည့်နေကြလေ၏။ အချို့က ကျောက်ဆောင်ပေါ်တွင်ထိုင်လျက်၊ အချို့က သစ်ပင်များကိုမှီလျက်၊ အချို့က ကန်တောတွင် လမ်းလျှောက်လျက်ဖြင့် သူတို့အားလုံး ပျော်မြူးလျက်ရှိကြလေ၏။

ယုန်ယွမ်းသည် အဘွားလူအား ဥယျာဉ်ထဲသို့ လိုက်ပြရန် ခေါ်သွားလေ၏။ အချို့မှာမူ ဝိုင်းဖွဲ့ကျန်ရစ်ခဲ့ကြလေ၏။ အချို့မှာနောက်မှ အုပ်ဖွဲ့၍ လိုက်ပါလာကြလေ၏။ မြက်နန်းမိဖုရား စံအိမ်သို့လာရောက်စဉ်က ဆောက်ခဲ့သည့်မုခ်ဦးကြီးကို မြင်သည့်အခါတွင် အဘွားလူက





"အလို တယ်ကြီးတဲ့ဝတ်ကျောင်းကြီးပါလား"ဟုဆိုကာ ထိုင်၍ ရှိခိုးမည်ပြုသဖြင့် အားလုံး တဝါးဝါးဖြစ်လျက်ရှိကြလေ၏။

"ဘာလို့တော် ဘာဖြစ်လို့ရယ်ကြတာလဲ။ ဒီမုခ်ဦးကြီးပေါ်က စာတွေကို အကျွန်ုပ်ဖတ်တတ်ပါတယ်တော့။ အကျွန်ုပ်တို့ရွာမှာလဲ ဒီလို ဘုရားကျောင်းတွေ အများကြီးရှိပါတယ်။ မုခ်ဦးကလဲ ဒီလိုမုခ်ဦး ကြီးတွေပဲ။ မုခ်ဦးပေါ်က စာလုံးတွေက ဘုရားဝတ်ကျောင်းရဲ့ အမည် မဟုတ်ဘူးလား"

"ဒါဖြင့် ဘာဝတ်ကျောင်းတဲ့လဲ"

အဘွားလူက စာတန်းကို လက်ညှိုးထိုးပြလိုက်ကာ

"ကျောက်စိမ်းသခင် ဝတ်ကျောင်းတော် မဟုတ်ဘူးလား"

အားလုံးမှာ လက်ခုပ်တက်ဝါးတီးကာ အဘွားလူကိုကြည့်၍ နောက်ပြောင်ကျီစယ်ကြမည်ပြုစဉ် အဘွားလူမှာ ဝမ်းဗိုက်ထဲမှ ဂိုးဂိုးဂွဂွဖြစ်လာသည့်အတွက် ကျွေတောင်းကာ အခင်းကြီးသွားရန် ဖြင်ဆင်နေသဖြင့် အားလုံးမှာ နောက်ပြောင်ခြင်းမပြုနိုင်ခဲ့တော့ဘဲ အလန့်တကြားဖြစ်သွားကာ "အို အဘွား ဒီနားမှာမလုပ်နဲ့လေ၊ အမယ်လေး ဒုက္ခပါပဲ" ဟု အော်ကြလေ၏။

သို့ဖြင့် အဘွားလူကို အရှေ့မြောက်ဖျားရှိ ရေအိမ်သို့ လိုက်ပို့ပေးရန် အစေတော် အဘွားကြီးတစ်ယောက်အား အပ်ခိုင်းလိုက်ရလေ၏။ အဘွားကြီးမှာလည်း အဘွားလူကို လိုက်ပို့လိုရာရောက်အောင် လိုက်ပို့ပြီးနောက် ကိုယ့်နေရာသို့ကိုယ်လာကာ နားနေလေ၏။

အဘွားလူမှာ အဝါရောင်အရက်ချိုနှင့် ကောင်းကောင်းမတည့်ချေ။ ထို့ပြင် အဆီအစိမ့်ကို အဝအပြဲစားသောက်ပြီးနောက် လက်ဖက်ရည်တို့ကို အဝသောက်ထားသဖြင့် ဝမ်းဗိုက်မှာ ကသိကအောက်ဖြစ်လျက်ရှိလေပြီ။ အဘွားလူသည် ရေအိမ်ထဲတွင် အတန်ကြာမျှ ထိုင်နေလေ၏။ ကိစ္စပြီးသည့်အခါတွင်မူ သောက်ထားသည့်အရက်ချိုမှာ ခေါင်းထဲသို့ ရောက်လျက်ရှိနေပြီ။ ထို့ပြင် ရေအိမ်ထဲတွင် အချိန်ကြာကြာ ထိုင်လိုက်သည့်အတွက်လည်း ခေါင်းထဲတွင် မူးနောက်လျက်ရှိကာ လာသည့်လမ်းကို မမှတ်မိနိုင်သောက်အောင် ဖြစ်လျက်ရှိလေ၏။

အဘွားလူသည် အနီးပတ်ဝန်းကျင်ကို လှမ်းကြည့်လိုက်၏။ သစ်ပင်များ၊ ကျောက်ဆောင်ကျောက်ခက်များ၊ မျှော်စင်များ၊ လေသာဆောင်များကို မြင်နေရလေ၏။ သို့ဖြင့် ကျောက်စရစ်ခင်းသည့်လမ်းကလေး အတိုင်း လိုက်လာခဲ့ရာ အဆောက်အအုံတစ်ခုရှေ့သို့ ရောက်သွားလေ၏။ ဝင်းပေါက်ကိုလိုက်ရှာသည်တွင် ဝါးခြံစည်းရိုးကလေးတစ်ခုကို လှမ်းမြင်လိုက်ရလေ၏။ 'ဪ သူတို့ဆီမှာလဲ တို့ဆီမှာလို ပဲစင်တွေဘာတွေရှိပါကလား' ဟု အောင်းမေ့မိ၏။ အဘွားလူသည် ခြံစည်းရိုးအတိုင်းပတ်လာခဲ့ရာ မလွယ်ပေါက်ကလေးတစ်ပေါက်ကို တွေ့သဖြင့် ထိုတံခါးပေါက်အတိုင်း ခြံဝင်းထဲသို့ ဝင်လာခဲ့လေ၏။ ရှေ့တွင် အနက်ငါးပေ ခြောက်ပေခန့်ရှိသည့် ကန်ငယ်တစ်ခုကို တွေ့ရလေ၏။ ကန်ပေါင်ကို ကျောက်တုံးများစီထားလေ၏။ ကြည်လင်သော စမ်းချောင်းကလေးတစ်ခုသည် ထိုအနီးတွင် ဖြတ်သန်း စီးဆင်းလျက်ရှိသေး၏။ ထိုစမ်းချောင်းကလေးကို ကျောက်ဖြူတံတားကလေးတစ်ခုဖြင့် ဖြတ်ကူးထားလေ၏။ အဘွားလူသည် ထိုတံတားဖြူကလေးကို ဖြတ်လာခဲ့ရာ ဒီလုံးကျောက်ခဲကလေးများခင်းထားသည့် လမ်းကလေးတစ်ခုသို့ ရောက်လာခဲ့လေ၏။ ကွေ့ကောက်လျက်ရှိသည့် လူသွားလမ်းကလေးအတိုင်း လိုက်ခဲ့သည်တွင် နောက်ဆုံး၌ အဆောက်အအုံတစ်ခုကို တွေ့ရလေ၏။ တံခါးကိုတွန်းဖွင့်၍ ဝင်လာခဲ့သည့်အခါ မိမိအားပြုံး၍ နှုတ်ဆက်နေသည့် မိန်းမပျိုတစ်ယောက်ကို မြင်လိုက်ရလေ၏။

'အဘွားကို တစ်ယောက်တည်းပစ်ထားခဲ့လို့ အဘွားကိုယ်တိုင် ဒီနေရာကို ရှာလာရတာ' ဟု အဘွားလူက ပြောလိုက်၏။

မိန်းမပျိုက မည်သို့မျှ ပြန်လည်ပြောဆိုခြင်း မရှိသည့်အခါတွင် အဘွားလူသည် ရှေ့သို့တိုးလာပြီး လက်ဖြင့်ကိုင်ကြည့်လိုက်သည်တွင် ပိုးခနဲမြည်ကာ သစ်သားနံရံကြီးနှင့် ဝင်ဆောင့်မိလေ၏။ သေချာစွာ ကြည့်လိုက်သည့်အခါတွင် ထိုအရာမှာ တကယ့်လူအစစ်မဟုတ်ဘဲ ပန်းချီကားတစ်ကားဖြစ်ကြောင်း တွေ့ရလေ၏။ မည်မျှထူးဆန်းသနည်း။ လူအလုံးအထည်နှင့်တူအောင် ရေးထုထားသည်မှာ အံ့သြဖွယ် ကောင်းလေစွဟု အဘွားအောက်မေ့မိလေ၏။ ထို့ကြောင့် လက်ဖြင့် စမ်းသပ်ကြည့်လိုက်





သည့်အခါတွင် လူ့အလုံးအထည်ကို မတွေ့ရဘဲ သစ်သားပြားပေါ်တွင် ရေးဆွဲထားကြောင်းကို တွေ့ရလေ၏။ အဘွားလူသည် ခေါင်းညိတ်ကာ တအံ့တသြဖြင့် သက်ပြင်းချလိုက်ပြီးလျှင် အစိမ်းနုရောင်ပန်းရိုက် ခန်းဆီးတပ်ထားသည့် တံခါးငယ်ကလေးတစ်ခုဆီသို့ လာခဲ့လေ၏။ အဘွားလူသည် ခန်းဆီးကိုမကာ အထဲသို့ဝင်လာခဲ့ပြီးနောက် ပတ်ပတ်လည်ကိုလှည့်ကြည့်လိုက်သေး၏။

နံရံလေးဘက်စလုံးမှာ အဆန်းတကြယ် ပန်းပု ထွင်းထားသည့် စင်ကြီးများရှိပြီး ထိုစင်ကြီးများပေါ်တွင် စောင်းများ၊ ဓားလွယ်များ၊ ပန်းအိုးများနှင့် အမွှေးတိုင်ထွန်းခုံများ တင်ထားလေ၏။ ထိုပစ္စည်းများကို ရွှေခြည်ထိုးကန့်လန့်ကာများ၊ ရွှေရောင်နှင့်ပုလဲရောင်တို့ တောက်ပနေသည့် ကတ္တီပါစများဖြင့်ဖုံးအုပ်ထားလေ၏။ ကြမ်းပြင်တွင်ခင်းထားသည့် အစိမ်းရောင် အုတ်ကျွတ်ပြားများ ပေါ်တွင်ပင် ပန်းပွင့်များ ရေးချယ်ထားသည်ကို တွေ့ရလေ၏။ အဘွားလူသည် တအံ့တသြဖြင့်ပြန်ထွက်ရန် လှည့်လိုက်၏။ သို့ရာတွင် တံခါးပေါက်ကို ရှာမတွေ့တော့ချေ။ လက်ဝဲဘက်တွင် စာအုပ်စင်ကြီးတစ်ခုရှိပြီး လက်ယာဘက်တွင် ခန်းဆီးလိုက်ကာကြီး တစ်ခုရှိလေ၏။ ထိုခန်းဆီးနောက်တွင် တံခါးပေါက်တစ်ခုကို တွေ့သဖြင့် တံခါးဆီသို့လာခဲ့ရာ မျက်နှာချင်းဆိုင်တွင် မိမိထံသို့လာနေသည့် မိမိ၏ခမက်ဖြစ်သူကို တွေ့လိုက်ရသဖြင့် အံ့အားသင့်လျက်ရှိလေ၏။

"အလို ဘယ့်နှယ်ဒီကိုရောက်နေရတာတုန်း။ ခုတလော အကျွန့်ကို အိမ်မှာမတွေ့လို့ ဒီကို သွားမှာပဲဆိုပြီး လိုက်လာတာ ထင်တယ် ဟုတ်စ။ ဘယ်သူ့လိုက်ပို့တာတုန်း" ဟု မေးလိုက်သေး၏။

အဘွားကြီးက မည်သို့မျှမပြောဘဲ ပြုံးပြလေ၏။

"ကြည့်စမ်းတော်၊ အကျွန်တို့ဖြင့် မျက်စိရှိလို့သာ ယုံရတယ်။ ဘယ်လောက်ခမ်းနားသလဲ။ ဥယျာဉ်ထဲမှာ ပန်းပွင့်တွေကလဲ လှကလှပါဘိသနဲ့။ ဒီလောက်လှတဲ့ပန်းတွေကိုခူးပြီး ပန်လာတယ်ဆိုတော့ နှမြောစရာကြီး"

ဤတွင်လည်း ထိုအဘွားကြီးက မည်သို့မျှပြန်မပြောချေ။

ထိုသို့ပြောနေစဉ် လူချမ်းသာများ၏ စံအိမ်ကြီးများတွင် ကိုယ်လုံးပေါ် မှန်ကြီးများ ရှိသည်ဟု ကြားဖူးကြောင်းကို အဘွားလူ ချက်ချင်း အမှတ်ရလိုက်လေ၏။ ထိုအခါတွင်မှ မျက်နှာချင်းဆိုင်တွင် ရပ်နေသည့် အဘွားကြီးမှာ မိမိကိုယ်တိုင်ဖြစ်နေကြောင်းကို အဘွားလူ သတိရလိုက်လေ၏။ အဘွားလူသည် မှန်ကိုလက်ဖြင့်သေချာစွာစမ်းသပ်ကြည့်နေလေ၏။ မှန်ပေ၏။ မိမိကိုင်တွယ် စမ်းသပ်ကြည့်နေသည့် ပစ္စည်းမှာ ပန်းခက်ပန်းနွယ်တို့ဖော်ထားသော နံ့သာနီသား ဘောင်ကြီးလေးဘက်တပ်ထားသော ကိုယ်လုံးပေါ်မှန်တစ်ချပ်ဖြစ်ကြောင်းကို သိရလေ၏။

"အင်း ငါ့ရှေ့မှာ မှန်ကြီးပိတ်နေတော့ ဘယ်ကနေပြီး ထွက်ရမှန်းတောင်မသိတော့ပါဘူး" ဟု ညည်းလိုက်မိသည်။

သို့ဖြင့် အဘွားလူသည် မှန်ကိုစမ်းသပ်ကြည့်လျက်ရှိရာ သူ့လက်ချောင်းများသည် ပတ္တာတစ်ခုကို သွားထိမိပြီး ကသစ်ဟူသော မြည်သံနှင့်အတူ မှန်သည် ခေါက်၍ပွင့်လေ၏။ ဖြစ်ပုံမှာ အဘွားလူသည် ပတ္တာတပ်ထားသည့် စပရိန်ကို သွား၍နှိပ်လိုက်မိသဖြင့် မှန်သည် ခေါက်သွားကာ တံခါးပွင့်သွားခြင်းဖြစ်လေ၏။

အဘွားလူသည် ကျေနပ်အားရစွာဖြင့် နောက်ခန်းဆောင် တစ်ခုထဲသို့ဝင်လာခဲ့သည်တွင် လှပသည့်အိပ်ရာကန့်လန့်ကာကြီးတစ်ခုကို မြင်လိုက်လေ၏။ ထိုအချိန်၌ကား အဘွားလူမှာ အရက်ရှိန်ကလည်း တက်၊ လမ်းလျှောက်ခဲ့ရသဖြင့် အဘန်ငယ်သည်း ပင်ပန်းလျက်ရှိလေပြီ။ သို့ဖြင့် အဘွားလူသည် အိပ်ရာပေါ်သို့မောမောဖြင့် မှီချလိုက်လေ၏။ အဘွားလူသည် ခေါင်းထဲတွင်တရိပ်ရိပ်မူးလျက်ရှိရာမှ မျက်လုံးလည်း ဖွင့်၍မရတော့ဘဲ ချက်ချင်းအိပ်ပျော်ခြင်းသို့ရောက်သွားလေသတည်း။

ထိုအတောအတွင်း၌ကား ကျန်ရစ်ခဲ့သူတို့သည် အဘွားလူ ပြန်မလာနိုင်သဖြင့် တစောင့်စောင့်နှင့်ဖြစ်နေကြလေ၏။ မြေးဖြစ်သူ ပန်း၏မှာ သူ့အဘွားပြန်မလာသဖြင့် တစာစာအော်ဟစ်ငိုယိုလျက် ရှိလေပြီ။

"အိမ်သာကျင်းထဲများ ကျနေပလားမသိဘူး။ သွားကြည့်ချင်ပါလား" ဟု တစ်ယောက်ကပြော၏။





သို့ဖြင့် အခိုင်းမိန်းမကြီး နှစ်ယောက်ကိုလွှတ်၍ အကြည့်ခိုင်းလေရာ ဘာမျှမတွေ့ခဲ့ကြောင်းဖြင့်ပြောပြလေ၏။ ဥယျာဉ်အနှံ့ လိုက်ရှာကြသော်လည်း အဘွားလူကိုရှာ၍မတွေ့ဘဲဖြစ်နေကြလေ၏။

"အင်း အဘွားလူတော့ မူးမူးနဲ့မျက်စိလည်လမ်းမှားသွားပြီထင်တယ်" ဟု မာလာတွေးလိုက်မိလေ၏။ "ဧအိမ်ကအထွက်မှာ တို့နေတဲ့ နီမောင်းပျော်ဖွယ်ရိပ်သာ နောက်ကို ရောက်သွားဟန်တူရဲ့။ ခြံစည်းရိုးပေါက်ဝင်ပြီး နောက်ဖေးအတိုင်းထွက်လာယင်လဲ သူ့ကို တစ်ယောက်ယောက်က တွေ့မယ်။ တကယ်လို့အဲဒီနားကိုမရောက်ဘဲ အနောက်ဆောင်ဘက်ကို ထွက်သွားယင်လဲ လမ်းတွေ့မှာပဲ။ အဲဒီကိုမရောက်သေးဘူးဆိုယင်တော့ နီမောင်းပျော်ဖွယ်ရိပ်သာထဲ ဝိုက်မှာပဲရှိနေဦးမှာပဲ။ ငါသွားကြည့်လိုက်ဦးမယ်" ဟု တွေးမိလေ၏။ မာလာသည် ထိုသို့တွေးကာ လက်အောက် အစေတော်ကလေးများကို ခေါ်၍ နီမောင်းပျော်ဖွယ်ရိပ်သာဘက်သို့ထွက်ခဲ့လေ၏။ တချို့ကိုလည်း အနောက်တောင်ဘက်သို့ ရှာရန်လွှတ်လိုက်လေ၏။ သို့ရာတွင် အစေတော်သူငယ်မကလေးများမှာ လိုက်ရှာခြင်းမပြုဘဲ ဥယျာဉ်ထဲတွင် ပြေးလွှားဆော့နေလေ၏။ မာလာသည် နီမောင်းပျော်ဖွယ်ခန်းဆောင် ကြက်တူရွေးကွက်လိုက်နာ အနီးမှ ဖြတ်ထန်းလာခဲ့စဉ် မိုးခြိမ်းသံတမျှကျယ်လောင်လှသော ဟောက်သံကိုကြားရသဖြင့် အိပ်ခန်းဆောင်ထဲသို့ ကသောကမျောဝင်လာခဲ့ရာ ခန်းဆောင်တစ်ခုလုံးမှာ အရက်နံ့၊ လေလည်သည့်အနံ့ဖြင့် မွန်ထူလျက် ရှိသည်ကိုတွေ့ရလေ၏။ ခုတင်ပေါ်တွင်မူကား အဘွားလူသည် စန့်စန့်ကြီး အိပ်ပျော်လျက်ရှိလေ၏။ မာလာမှာ ထိုရှုခင်းကို မြင်လိုက်ရသဖြင့် အကြီးအကျယ်ထိတ်လန့်တုန်လှုပ်သွားလေ၏။ မာလာသည် ခန်းဆောင်ထဲသို့ ပြေးဝင်လာကာ အဘွားလူကို အတင်းလှုပ်နှိုးသည်တွင်မှ အဘွားလူမှာအိပ်ရာမှ နိုးလာခဲ့လေ၏။ မာလာကို မြင်သည့်အခါတွင် အဘွားလူသည် ရုတ်တရက်ထထိုင်လိုက်လေ၏။ အဘွားလူသည် အလန့်တကြားဖြင့်

"အကျွန်မှားပါတယ် မလေးရယ်။ ဒါပေမယ့် အကျွန်ကောင်းကောင်းမွန်မွန်အိပ်တာပါ။ အကျွန်ကြောင့်အိပ်ရာညစ်ပတ်သွားပါဘူး"

ဟု ဆိုကာ အဘွားလူသည် တွန့်ကြေနေသော အိပ်ရာခင်းကို လက်ဖြင့် သပ်၍ ဖြန့်နေလေ၏။

ထိုသတင်းကို ပေါက်ယုကြားလျှင် စိတ်ဆိုးမည်စိုးသည့်အတွက် အဘွားလူအား တိတ်တိတ်နေရန် အချက်ပြလိုက်လေ၏။ မာလာသည် သုံးချောင်းထောက် ကြေးအုပ်ကြီး ထဲသို့ အမွေးတိုင်များကို ထည့်လိုက်ပြီးလျှင် အဖုံးကိုပြန်ပိတ်လိုက်လေ၏။ ထိုနောက်အခန်းထဲတွင် အမွှေးအထားပျက်နေသည်တို့ကိုသည်း အနည်းငယ် သပ်ရပ်အောင် လိုက်ပြင်နေ၏။ အဘွားလူတွင် ရောဂါမရှိဘဲ ကျန်းကျန်းမာမာ ရှိနေသေး၍ မတော်ပေတော့သည်။

မာလာက လေသံကလေးဖြင့်

"ကိစ္စမရှိပါဘူးအဘွားလူရယ်။ မာလာ ကြည့်စီစဉ်ပါ့မယ်။ ပိုရောက်ယင်သာ နည်းနည်းမူးဘာနဲ့ ဥယျာဉ်ထဲက ကျောက်ဆောင်ကြီးတစ်ခု အရိပ်မှာ အိပ်ပျော်နေတယ်လို့ပြော ကြားလား။ ကဲ လာလာ မာလာနဲ့လိုက်ခဲ့"

မာလာသည် အဘွားလူအား နောက်ဖေးရှိ သူ့အခန်းကလေးထဲသို့ ခေါ်လာခဲ့ရာ အဘွားလူမှာလည်း နောက်မှခပ်သုတ်သုတ်လိုက်ပါလာခဲ့လေ၏။ မာလာ၏ အခန်းထဲသို့ရောက်၍ လက်ဖက်ရည် နှစ်ခွက်လောက် သောက်လိုက်သည့် အခါတွင်မှ အဘွားလူမှာ စိတ်တည်ငြိမ်သွားကာ

"ဘယ်သခင်မလေးရဲ့အခန်းလဲဟင်၊ လှလဲ လှ။ ခမ်းလဲ ခမ်းနားလိုက်တာနော်။ မပြောပါနဲ့တော့။လှလိုက်တာကလဲ အိပ်ရက်စရာတောင် မရှိဘူး။ နတ်ပြည်ရောက်နေသလားလို့တောင် အောက်မေ့ရတယ်"

မာလာက ပြုံးလိုက်လျက်

"သခင်လေး၊ သခင်လေးပေါက်ယုရဲ့အခန်းဆောင်အဘွားလူရဲ့"

အဘွားလူမှာ အံ့သြလွန်းသဖြင့်စကားကိုပင်မပြောနိုင်တော့ချေ။ ခဏကြာလျှင် မာလာသည် အဘွားလူကို နဂိုလူစုရှိရာသို့ ပြန်ခေါ်လာခဲ့လေ၏။





"အဘွားလူက မြက်ခင်းပေါ်မှာ အိပ်ပျော်နေလို့ နိုးလာခဲ့ရတယ်" ဟုသာ မာလာကပြောလေ၏။

ဤတွင် အခြားလူများကလည်း ဘာမျှ မမေးကြတော့သည့်အတွက် ထိုကိစ္စမှာ စခန်းရပ်၍ သွားလေ၏။ နောက်မည်သို့ဖြစ်သည်ကို သိလိုလျှင် နောက်တစ်ခန်းကိုဆက်၍ ဖတ်ပါလေ။

## အခန်း ၄၂

### သခင်မြိုင်သခင်မကလေးက စာပေအရသာခံနည်းကို ရှင်းပြခြင်း ဝေဠုဝတီ မင်းသမီးက အများပျော်ရွှင်စေရန် နောက်ပြောင် ပြောဆိုခြင်း။

မယ်မယ်နိုးလာသည့်အခါ၌ ညစာကို စပါးချိုတဲဘွင် တည်ခင်းကျွေးမွေးလေ၏။ မယ်မယ်မှာ ကိုယ်သက်မအီမသာ ဖြစ်နေသည့်အတွက် စားသောက်ခြင်းမပြုနိုင်တော့ဘဲ သံလျင်းဘစ်စင်းဖြင့် သူ့အခန်းဆောင်သို့ ပြန်သွားလေ၏။ သို့ရာတွင် နတ်ငှက်မယ်နှင့်တကွ ကျန်လူများအားလုံးဆက်လက်စားသောက်ကြ၍ အဘင်းနေခိုင်းခဲ့သဖြင့် သူတို့ တစ်သိုက်သည် မယ်မယ်ကို ဥယျာဉ်ဝသို့ အရောက်သိုက်ပို့ပြီးနောက် စပါးချိုတဲသို့ပြန်လာခဲ့ကြလေ၏၊ စားသောက်ပြီးလျှင် အသီးသီး ကိုယ့် အခန်းဆောင်သို့ ကိုယ်ပြန်သာခဲ့ကြလေ၏။

အဘွားလူသည် နတ်ငှက်မယ်ကိုတွေ့ရန် ပန်းအဲ့ကို ခေါ်လာခဲ့လေ၏။

''မနက်ဖြန်ဆိုယင် အကျွန်ုပ် တောပြန်တော့မယ်မလေးငှက်မယ်။ အကျွန်ုပ်ဒီလာတာ နှစ်ရက်သုံးရက်ပေမယ့် မစားဖူးတာလဲ စားခဲ့ရပေါ့။ မမြင်ဖူးတာတွေကိုမြင်ခဲ့ရပေါ့။ လူ့ပြည်မှာရှိမယ်လို့ မထင်တာတွေလဲတွေ့





ရပေါ့။မယ်မယ်ရော၊ သခင်မကြီးတွေရော၊ သခင်မလေးတွေရော၊ အစေတော်တွေရောအားလုံး အကျွန်ုပ်လို ဆင်းရဲသားအပေါ်မှာ ကောင်းကြပါပေတယ်။ သနားတတ်ကြပါပေဘယ်။ အကျွန်ုပ်တို့ကတော့ ပြန်ပြီးကျေးဇူးဆပ်စရာမရှိဘူး။ နေ့တိုင်း ဘုရားမှာ ဆိမီးပူဇော်ပြီး သခင်မလေးတို့ကတော့ အသက်တစ်ရာအထိ ကျန်းကျန်းမာမာ၊ ချမ်းချမ်း သာသာ နေနိုင်ပါစေလို့ ဆုတောင်းရုံပဲ တတ်နိုင်တယ်''

နတ်ငှက်မယ်က ပြုံးလိုက်ကာ

''ဒီလောက်လဲ ပီတိတွေဖြစ်မနေနဲ့ဦး အဘွားလူရဲ့။ ခုအဘွားလူကြောင့် မယ်မယ်အအေးမိပြီး နေထိုင်မကောင်း ဖြစ်နေပြီ။ ငှက်မယ်တို့သမီးလေးလဲ အအေးမိလို့ ဖျားနေတယ်''

အဘွားလူက သက်ပြင်းကြီးချလိုက်လျက်

''မယ်မယ်က အသက်လဲကြီးပြီလေ။ ပြီးတော့ အကြမ်းပတမ်းတိုကိုလဲ ခံနေကျမရှိဘူး မဟုတ်လား''

နတ်ငှက်မယ်က

''အလကား ပြောတာပါ အဘွားလူရယ်။ မယ်မယ် မနေ့က လောက်ပျော်တာ ငှက်မယ် တစ်ခါမှမမြင်ဖူးသေးဘူး။ ခါတိုင်းဆိုယင် တစ်နေရာနှစ်နေရာလောက်ဆောက်ယင် ပြန်တာပဲ။ မနေ့ကတော့ အဘွားလူကို လိုက်ပြရင်း ဥယျာဉ်ထဲကိုလျှောက်ကြည့်လိုက်တာ ဥယျာဉ်တဝက်လောက် နှံ့လို့ပါပဲလား။ သမီးလေးဆိုယင်လဲ ငှက်မယ်ကို ပူဆာနေလို့ ဒေါ်လေးဝမ်ကချော့ပြီး မုန့်ဘစ်ခုကျွေးလိုက်တာရယ်၊ လေစိမ်းမိသွားတာရယ်ကြောင့် ဖျားတာပါ။ ကိစ္စမရှိပါဘူး''

''မလေးငှက်မယ်တို့ သမီးလေးက ဥယျာဉ်ထဲမှာလဲ သိပ်မသွားလိုက်ပါဘူး။ ပြီးတော့ ကိုယ်မရောက်ဖူးတဲ့နေရာကိုလဲ သွားတာမဟုတ်ပါဘူး။ အကျွန်ုပ်တို့တောက ကလေးတွေမှာသာ ပေါက်လွတ်ပဲစား သွားချင်ရာ သွားနေကြတာပါ။ သချိုင်းပုံတွေပေါ်မှာလဲ ဆော့ကြတာပဲ။ ကြည့်ရတာကလေ့ လေစိမ်းတိုက်တာပဲ ဖြစ်မှာပါ။ လေစိမ်းတိုက်တာ မဟုတ်ယင်တော့ တစ္ဆေပါသလား၊ နတ်ကိုင်သလား၊ တစ်ခုခု ဖြစ်မယ်

ထင်တာပဲ။ စိတ်ချရအောင် အစွဲချွတ်ကျမ်းတို့ဘာတို့ကို ကြည့်စမ်းပါလား သခင်မလေးရဲ့"

အဘွားလူ အကြံပေးသည့်အတွက် နတ်ငှက်မယ်သည် ဆိုင်မင်းကိုခေါ်ကာ "ကျောက်စိမ်းကြုတ်မှတ်တမ်း" စာအုပ်ကို အရှာခိုင်းလိုက်ပြီးလျှင် သက်ဆိုင်ရာအခန်းတွင် လှန်လှော ရှာဖွေ ကြည့်ခိုင်းလေ၏။ ဆိုင်မင်းသည် သက်ဆိုင်ရာအခန်းကို လိုက်ရှာကာ

"'အင္ဂမဂ ပြည်၊ ကျော် ဆယ်ရက်နေ့တွင် အရှေ့တောင်အရပ်သို့ သွားက ပန်းနှတ်ကိုင်ဇာတ်သည်။ ကုသရန်မှာ ရောင်စုံစက္ကူ ဒင်္ဂါးလေး ဆယ်ကို အရှေ့တောင်အရပ်သို့ အလှမ်းလေးဆယ် ယူသွားပြီးလျှင် တစ်လမ်းလျှင် စက္ကူဒင်္ဂါး ဇစ်ပြားစီချခဲ့အံ့ ရောဂါ ပျောက်သောဟူ၏'လို့ ပါတယ် သခင်မလေး"ဟု ဖတ်ပြလေ၏။

နတ်ငှက်မယ်က

"ဟုတ်တာပေါ့။ ဥယျာဉ်ထဲမှာ ပန်းနှတ်ရှိတယ်ထင်တယ်။ မယ်မယ် နေထိုင်မကောင်းဖြစ်တာလဲ ပန်းနှတ်ကိုင်တာပဲ ဖြစ်မှာပဲ"

နတ်ငှက်မယ်သည် စက္ကူဒင်္ဂါးနှစ်ထုပ်ကို အယူခိုင်းလိုက်ပြီးလျှင် မိမိ၏သမီးငယ်နှင့် မယ်မယ်တို့နှစ်ယောက်အတွက် ထိုနတ်များကိုနှင်ထုတ်ရန် အစေခံနှစ်ယောက်အား ခိုင်းလိုက်လေ၏။ ထိုနောက်တွင်မူ နတ်ငှက်မယ်၏သမီးငယ် တချို့မှာ ဇအိအိလုပ်ခြင်းမရှိတော့ဘဲ နှစ်ခြိုက်စွာ အိပ်ပျော်သွားလေ၏။

နတ်ငှက်မယ်က

"ဘာပဲပြောပြော အသက်ကြီးတဲ့လူများကျမှပဲ အတွေ့အကြုံဗဟုသုတ ကြွယ်ဝတာပဲနော်။ ပြောစမ်းပါဦး အဘွားလူရယ်။ ငှက်မယ်တို့သမီးလေး တချို့ဟာ ဘာဖြစ်လို့ဒီလောက်တောင် ချူချာနေရသလဲ မသိဘူး။ ငှက်မယ်တို့ကို ပြောပြစမ်းပါဦး"

"ဒါကတော့ ဒီလိုပါပဲ သခင်မလေးရယ်။ လူချမ်းသာရဲ့ သားသမီးများဟာ နုနယ်ကြလေတော့ ဒုက္ခပင်ပန်းကို မခံနိုင်ကြဘူး မဟုတ်လား။ တကယ်ကတော့ ကလေးတွေကို သိပ်ယုယလွန်းတာလဲ





မကောင်းပါဘူး သခင်မလေးရယ်။ ဒီတော့ သခင်မလေးရဲ့ သမီးလေးကို သိပ်အလိုမလိုက်နဲ့။ ဒီလိုဆိုယင် မကြာခင် ကျန်းမာလာမှာပဲ"

နတ်ငှက်မယ်က

"ဟုတ်တယ်၊ ငှက်မယ်လဲ အဘွားလူ ပြောတာကို သဘောတူတယ်။ စကားမစပ် ပြောလိုက်ရဦးမယ်။ ငှက်မယ်တို့ သမီးလေးမှာ နာမည်မမှည့်ရသေးဘူး အဘွားလူရဲ့။ ဒီတော့ အဘွားလူလိုကျန်းမာပြီးအသက်ရှည်ရှည်နေနိုင်ဖို့အတွက် အဘွားလူက နာမည်တစ်ခုလောက် မှည့်ပေးခဲ့ပါလား။ ပြီးတော့ စိတ်လဲမရှိနဲ့၊ ပြောတော့ ပြောလိုက်ရဦးမယ်။ အဘွားလူတို့ တောသူတောင်သားဆိုတော့ များသောအားဖြင့် ဆင်းရဲသားတွေ မဟုတ်လား။ ဒီတော့ အဘွားလူလိုဆင်းရဲပါးတဲ့ လူတစ်ယောက်က နာမည်ပေးလိုက်ယင် နည်းနည်းမျှမျှတတ ဖြစ်သွားတာပေါ့"

အဘွားလူက အတန်ကြာ စဉ်းစားနေပြီးနောက်

"ကလေးက ဘယ်နေ့ဖွားလဲ"

"အဲဒါကြောင့် ခက်နေတာပေါ့ အဘွားလူရဲ့။ ခုနစ်လ၊ လဆန်း ခုနစ်ရက်ဖွား ဖြစ်နေတယ်"

"အံမယ်လေး မခက်ပေါင်တော်။ ကောင်းပါ့။ ဒီလိုဆိုယင် သူ့ကို ချောကို့လို့မှည့်။ ဗေဒင်ယတြာအလိုအရ အဆိပ်ကို အဆိပ်နဲ့ သတ်ရာ၏၊ မီးကို မီးနှင့်သတ်ရာ၏လို့ဆိုတော့ ဒီနာမည်နဲ့သင့်တယ်။ ဒီနာမည်ကို မှည့်ယင် သခင်မလေးသမီး အသက်ရှည်မယ်။ ချောဆိုတာက ချမ်းသာသော တိုက်ဆိုင်မှုလို့ အနက်ရတယ်။ ကို့ဆိုတာက သူငယ်ကလေးတဲ့။ ယောကျ်ားကလေးတဲ့။ ဒီတော့ ခက်စီးအောင် မှည့်ရတာ။ အဆိပ်ကို အဆိပ်ဖြင့် သတ်ရာ၏၊ မီးကို မီးဖြင့်သတ်ရာ၏ဆိုတဲ့ စကားရှိတယ်။ ဒီအတိုင်းသာ မှည့်ယင် မလေးရဲ့သမီး အသက်ရှည်မယ်။ အနာကင်းမယ်။ အနာဂတ်၌ ကြီးပြင်းလာလို့ ကိုယ့်မိသားစုနဲ့ ကိုယ်ဖြစ်ပြီး ကံဇာတာ နိမ့်တာမျိုးတစ်ခုခု တွေ့တောင်မှ သူ့နာမည်မှာ ချော ဆိုတဲ့ နာမည်ပါနေတဲ့အတွက် အဆိုးဟာ အကောင်းကိုမတိုးနိုင်ဘဲ ဖြစ်နေလိမ့်မယ်"

နတ်ငှက်မယ်မှာ ကျေနပ်သွားကာ

"အဘွားလူ ပြောတဲ့အတိုင်း ဖြစ်ပါစေလို့ ဆုတောင်းရတာပဲ အဘွားလူရေ"

ထိုနောက် နတ်ငှက်မယ်သည် အစေတော်ပင်အဲကိုခေါ်ကာ

"မနက်ဖြန်ကျယင် မလေးငှက်မယ်တို့ အလုပ်များလိမ့်မယ်။ ခု အားနေတုန်းမှာ အဘွားလူကို လက်ဆောင်ပေးမည့်ပစ္စည်းတွေကို ရွေးထားလိုက်ပါ။ ဒီနေ့ ကြိုကြိုတင်တင် ရွေးထားတော့ မနက်ဖြန် အဘွားလူတို့ ကြိုက်တဲ့အချိန် ပြန်နိုင်တာပေါ့"

"အို အချိန်ကို လက်ဆောင် ကောင်းကောင်းမွန်မွန်တွေ လုပ်မနေပါနဲ့ မလေးရယ်။ ခုဒီလောက် ရက်ရှည် လာစားသောက်နေတာ သောင် လွန်လှပြီ။ ဒီအထဲမှာ လက်ဆောင်တွေ ဘာတွေယူဦးမယ် ဆိုတော့ ဘယ်ကောင်းတော့မလဲ"

နတ်ငှက်မယ်က

"များလဲ မများပါဘူး။ ထူးပြီးလဲ ပေးရတာ မဟုတ်ပါဘူး။ ကောင်းကောင်းဆိုးဆိုး ပေးတဲ့လက်ဆောင်ကိုတော့ လက်ခံရလိမ့်မယ်။ လက်ဆောင်လေးဘာလေးပါလာတော့ အိမ်နီးနားချင်းလဲပြလို့ ကောင်းတာပေါ့။ ရွာက လူတွေကို မြို့ပြန်လက်ဆောင်ပြရတာပေါ့"

ထိုအခိုက် ပင်အဲ ပြန်ရောက်လာကာ "လာ အဘွားလူ၊ လိုက်ကြည့်လှည့်ဦး" ဟု ခေါ်သဖြင့် အဘွားလူမှာ ပင်အဲနောက်သို့ လိုက်သွားရလေ၏။

အဘွားလူသည် ပင်အဲခေါ်ရာသို့လိုက်လာခဲ့သည်တွင် ခုတင်မီးဖိုကြီးတစ်ခုလုံးပေါ်တွင် လက်ဆောင်ပစ္စည်းတွေ ပြန့်ကြဲလျက်ရှိလေ၏။ ပင်အဲသည် လက်ဆောင်ပစ္စည်းများကို တစ်ခုပြီးတစ်ခု ကောက်ပြနေ၏။

"ဟောဒါက မနေ့က အဘွားကြိုက်တယ်လို့ပြောတဲ့ အစိမ်းနုရောင်ဇာအုပ်၊ ဟောဒါက အကျႌချုပ်ယင် အတွင်းကင်းခြေလိုက်တဲ့ မီးခိုးရောင်ဇာနု။ အဲဒါက ကျွန်မတို့သခင်မလေးငှက်မယ်က ပေးလိုက်တာ။ ဟောဒါက သင်တိုင်းအကျႌရှည်တို့၊ ထဘီတို့ချုပ်ဝတ်လို့ကောင်းတဲ့ ပိုးဖျင်အကောင်းစားနှစ်အုပ်၊ ဟောဒီထဲမှာလဲ နှစ်သစ်ကူးပွဲမှာ ချုပ်ဝတ်ရ





အောင် ပိုးစနှစ်ဝတ်စာပေးလိုက်သေးတယ်။ ဟောဒါက ရွှေနန်းတော်ကြီးစားဖို့ဆောင်က စီအိမ်ကိုပို့လိုက်တဲ့ မုန့်မျိုးစုံ အစ်တစ်အစ်၊ အပြင်မှာမရှိဘူး။ အချို့ကိုတော့ အဘွားလူမြည်းဖူးပြီး တစ်ချို့ကို မမြည်းဖူးသေးဘူး။ အပြင်မှာဝယ်လို့ရတာမဟုတ်ဘူး၊ ကြုံတုန်းဆုံတုန်းမို့ရတာ။ အိမ်ကို ဧည့်သောင်းစောင်ကောင်းလာယင်ဧည့်ခံရတာပေါ့။ အဘွားလူတို့ ဟင်းသီးဟင်းရွက်တွေထည့်ယူလာခဲ့တဲ့ အိတ်ထဲမှာလဲ ဆန်အကောင်းစားတွေထည့်ပေးလိုက်တယ်။ အဲဒါလဲ ဘုရင့်လယ်တော်ကထွက်တဲ့ ဆန်တွေ။ ဆန်ဟာလေ တွေ့ကနဲ့ပြီး ဆန်ပြုတ်ပြုတ်လို့သိပ်ကောင်းတာ။ အိတ်ထဲမှာတော့ ကျွန်မတို့ဥယျာဉ်ကထွက်တဲ့ အသီးအနှံတွေ ပေးလိုက်တယ်။ ဟောဒီအိတ်ကလေးထဲမှာ ငွေစင်ရှစ်ကျပ်သားထည့်ပေးလိုက်တယ်။ အဲဒါတွေအားလုံးကို နတ်ငှက်မယ်သခင်မလေးက ပေးလိုက်တာ။ ဟောဒီအိတ်ကလေးထဲကတော့ ငွေစင် ငါးဆယ်ကျပ်သားစီ ပါတယ်။ အားလုံးပေါင်းယင်တော့ ငွေငါးဆယ်ပိသာပေါ့၊ သခင်မကြီးဝမ်က ပေးလိုက်တာ။ ရင်းနှီးစားသောက်ဖို့တဲ့။ မြို့ကအလေးဘာလေးဝယ်ချင်လဲဝယ်တဲ့။ နောင်မှာ သူများဆီ လက်ဖြန့်ပြီး အကူအညီ တောင်းရတယ်ဆိုတော့ မကောင်းဘူးတဲ့"

ထိုနောက် ပင်အဲသည်ပြုံးလျက် လေသံတိုးတိုးဖြင့်

"ဟောဒီမှာ သင်တိုင်းအကျႌရှည်နှစ်ထည်ရယ်၊ ထဘီရယ်၊ ခေါင်းစည်းပဝါလေးထည်ရယ်၊ ရွှေခြည်ထိုးပိုးစတွေရယ်က အဘွားကို ကျွန်မပေးလိုက်တာ။ ဝတ်အစားတွေက အသစ်စက်စက်ကြီးတွေတော့ မဟုတ်ဘူး၊ ဒါပေမယ့် သိပ်မဝတ်ရသေးပါဘူး။ တစ်နှစ်ခါပဲ ဝတ်ရသေးတယ်။ သိပ်မသတိဘူးဆိုယင်တော့လဲ သဘောပေါ့လေ"

အဘွားလူသည် ပစ္စည်းတစ်ခုအမည်ကိုပြောလိုက်တိုင်း "ဘုရားရေ" ဟုရွတ်ကာ ဟအံ့သြဖြစ်လျက်ရှိလေရာ အဘွားလူဘုရားရွတ်သည်မှာ အကြိမ်တစ်ရာထက်နည်းမည်မဟုတ်တော့ချေ။ ပင်အဲမှာ ရက်ရောသည့်တိုင် သူ့လက်ဆောင်ပစ္စည်းအတွက် များစွာနှိမ့်ချတတ်သူဖြစ်သည့်အတွက် အဘွားလူမှာ အားနာလျက်ရှိကာ

"အိမ်မယ်လေးတော်၊ ဒီလိုမပြောပါနဲ့၊ ဘယ့်နှယ် မသတိဖြစ်ရမှာလဲ။ အကျန့်မှာ ပိုက်ဆံရှိယင်တောင် ဒီလိုပစ္စည်းတွေကို ဝယ်လို့ရမှာမဟုတ်ဘူး။ အကျန့်မှာ ဒီလောက်များတဲ့ပစ္စည်းတွေယူရမှာ ရှက်တောင်ရှက်နေပြီ။ ဒါပေမယ့် တူမတို့ကိုက အတင်းပေးနေတော့လဲ ယူရတော့မှာပေါ့"

ပင်အဲက ရယ်လိုက်လျက်

"တစ်မိမ်းလိုစကားမျိုးတွေ မပြောစမ်းပါနဲ့အဘွားလူရယ်။ ကျွန်မတို့အချင်းချင်း ဒီလောက်ခင်လို့ ဒီလိုလက်ဆောင်တွေ ပေးတာပေါ့။ မခင်ယင်ဘယ်ပေးပါ့မလဲ၊ မိတ်ဆွေရောင်းရင်းတွေမို့လို့ ပေးတာပေါ့၊ ဒီတော့ ရှက်မနေပါနဲ့၊ လက်ခံပါ။ ကျွန်မတို့ကလဲ တောင်းစရာရှိပါတယ်။ နှစ်သစ်ကူးလို့ရှိယင် အဘွားလူဘို့တောင်ယာကထွက်တဲ့ မုန်လာဥခြောက်တို့၊ ပဲတောင့်ရှည်ခြောက်တို့၊ ပဲရာဇာတို့၊ ခရမ်းသီးတို့၊ ဘူးသီးတို့သာ ယူခဲ့စမ်းပါ။ စံအိမ်မှာ အဲဒီလိုအသီးအနှံဆိုယင် လူတိုင်းကြိုက်ကြတယ်။ ဒါလောက်ပဲယူခဲ့နော်၊ ဒီထက်များများစားစားယူမလာခဲ့နဲ့"

အဘွားလူက ကျေးဇူးတင်ကြောင်းပြောဆိုကာ မှာလိုက်သည့်ပစ္စည်းများကို ယူလာခဲ့မည်ဖြစ်ကြောင်းဖြင့် ပြောဆိုလေ၏။

"ကဲ ဒီတော့ အဘွားလူအိပ်တော့။ အဘွားလူကိုပေးလိုက်မယ့် ပစ္စည်းတွေကို ကျွန်မ အဆင်သင့်ထုပ်ပိုးပြီး ပြင်ဆင်ပေးထားမယ်၊ မနက်ဖြန်မနက်စောစောကျတော့ သူငယ်တော်ကလေးတွေကို ရထားတစ်စီးအခေါ်ခိုင်းလိုက်ပြီး အဲဒီရထားပေါ်ကို တင်ပေးလိုက်မယ်။ အဘွားလူဘာမှစိတ်မပူနဲ့"

အဘွားလူသည်ပို၍ကျေးဇူးတင်ကာ နတ်ငှက်မယ်ထံသို့ နောက်တစ်ခေါက်သွား၍နှုတ်ဆက်ပြီးနောက် အိပ်ရာသို့ဝင်ခဲ့လေ၏။ အဘွားလူသည် နောက်တစ်နေ့မနက်လင်းသည်နှင့် မယ်မယ်ကိုနှုတ်ဆက်ရန် အသင့်စောင့်ဆိုင်းနှုတ်ဆက်နိုင်ရန်အတွက် မယ်မယ်၏အဆောင်ထဲတွင် သွား၍အိပ်လေ၏။

သို့ရာတွင် မယ်မယ်မှာ နေထိုင်မကောင်း ဖြစ်နေသည့်အတွက် နောက်တစ်နေ့မနက်လင်းသည်နှင့် စံအိမ်ရှိဆွေမျိုးများသည် မယ်မယ်၏





အခြေအနေကို မေးမြန်းရန် ရောက်လာကြပြီးနောက် သမားတော် တစ်ယောက်ကိုလည်း ပင့်ထားလေ၏။ ခဏကြာလျှင် အစေတော်တစ်ယောက်ရောက်လာကာ သမားတော်ကြွလာပြီဖြစ်ကြောင်းပြောဆိုသဖြင့် အခိုင်းအစေမိန်းမကြီးတစ်ယောက်က ခုတင်အနီးသို့ တိုးလာကာ အိပ်ရာကန့်လန့်ကာကိုဆွဲ၍ ဖုံးပေးလိုက်လေ၏။

"ငါကကြီးပါပြီအေ၊ သမားတော်က ငါ့သားအရွယ်လောက်ပဲရှိပါသေးတယ်။ အပျိုကလေးမှမဟုတ်တာ ဘာရှက်စရာရှိသလဲ၊ ကန့်လန့်ကာကို ဆွဲစေ မနေပါနဲ့၊ ဒီအတိုင်းသာထားလိုက်ပါ"

အစေတော်တစ်ယောက်သည် စားပွဲသေးသေးတစ်လုံးကို အိပ်ရာနားသို့ယူလာကာ ထိုင်ခုံကလေးတစ်ခုကို အိပ်ရာနားသို့ယူလာပြီးလျှင် ထိုခုံပေါ်တွင် ဖုံကလေးတစ်ခုကိုချပေးပြီးနောက် သမားတော်ကို ထိုနေရာသို့ကြွရန် ပင့်လေ၏။ ကျိချန်၊ ကျိလျှံနှင့် ကျိယုန်တို့သည် သမားတော်ဝမ်ကို ခန်းဆောင်ထဲသို့ ပင့်လာခဲ့ကြလေ၏။ သမားတော်ဝမ်သည် အလည်စင်ပေါ်သို့ တက်မလာပဲ ခုတင်ဘေး ကျိချိန်နောက်ဘက်ရှိ ခုံတစ်လုံးတွင် ဝင်ထိုင်လေ၏။ အခိုင်း မိန်းမနှစ်ယောက်က ကန့်လန့်ကာကိုဖွင့်ပေးပြီး အခြားနှစ်ယောက်က သမားတော်ကို ခုတင်နားသို့ခေါ်သွားရာ ပေါက်ယုသည် သမားတော်ကို ဆီးကြိုနှုတ်ဆက်လေ၏။

သိုးရေ ကွပ်ထားသည့် ပိုးပျော့ သင်တိုင်းကို ဝတ်ထားသည့် မယ်မယ်သည် ညောင်စောင်းပေါ်တွင် ထိုင်လျက်ရှိလေ၏။ ဘေးတစ်ဘက်တစ်ချက်တွင် ဆံလေးတို့နှင့် အစေတော်နှစ်ယောက်စီ ရပ်လျက်ရှိပြီး ယပ်တောင်များ၊ ထွေးအန်များကို ကိုင်ထားကြလေ၏။ သူတို့အနီးတွင်လည်း အထိန်းတော်မိန်းမကြီး ခြောက်ယောက်တို့ အဆင်သင့်ရပ်လျက်ရှိကြပြီး ထိုနောက် မလှမ်းမကမ်း ပိုးဇာခန်းဆီး နောက်ကွယ်တွင်မူ တောက်ပသစ်လွင်သည့် ပိုးအင်္ကျီ၊ ကျောက်မျက်ရတနာတို့ စီခြယ်ထားသည့် လက်ဝတ်လက်စားတို့ကို ဝတ်ထားသည့် မိန်းမပျိုများ ရပ်နေသည်ကို မြင်ရလေ၏။ သမားတော်မှာ ဆင္ဌမဆင့် ဝတ်လုံကို ဝတ်ထားသည့်အတွက် ရွှေနန်းတော်သုံး ဘုရင့်သမားတော်တစ်ဦးဖြစ်ကြောင်းကို မယ်မယ်သတိထားလိုက်မိလေ၏။

မယ်မယ်သည် သမားတော်ကိုပြုံး၍နှုတ်ဆက်လိုက်ပြီးလျှင် ကျိချိန်ဘက်သို့လှည့်၍

"သမားတော်ကြီးရဲ့နာမယ်က ဘယ်လိုခေါ်သတုန်းဟဲ့"

"သမားတော်ဝမ်ပါ"

"ဟိုတုန်းကတော့ ဘုရင့်သမားတော်ကြီးများအဖွဲ့ နာယကလုပ်ခဲ့တဲ့ သမားတော်ကြီး ဝမ်ချန်ရှောက်ဆိုတာ ရှိတယ်။ ရောဂါကို ခွဲခြားတဲ့နေရာမှာတော့ အင်မတန်တော်သတဲ့"

သမားတော်ဝမ်က ပြုံး၍ဦးညွှတ်၍ ပြုံးပြလိုက်ပြီးလျှင်

"သမားတော်ကြီး ဝမ်ချန်ရှောက်ဟာ ကျွန်တော့်ရဲ့ အဘိုးလေးတော်ပါတယ်"

"ဪ် လက်စသတ်တော့ မိတ်ဟောင်းဆွေဟောင်းတွေ ဖြစ်နေကြတာကိုး" ဟု ပြောကာ မယ်မယ်သည် လက်တစ်ဘက်ကို ထိုင်ဖုံပေါ်သို့ အသာတင်ပေးလိုက်လေ၏။ အစေခံတစ်ယောက်သည် ထိုင်ဖုံနှိမ့်နှိမ့်လေးတစ်ခုကို စားပွဲခုံနိမ့်ကလေးဘေးသို့ အသာ ရွှေ့လာကာ သမားတော်ဝမ်သည် ဖုံနိမ့်ကလေးပေါ်တွင် ရိုသေစွာဝင်ထိုင်လိုက်ရင်း ဒူးတစ်ဘက်ကိုထောက်ကာ ညောင်စောင်းပေါ်သို့ ကိုယ်ကိုကိုင်းလျက်ရှိလေ၏။ သမားတော်ကြီးဝမ်သည် လက်နှစ်ဘက်ရှိ သွေးကြောများကို အတန်ကြာမျှစမ်းကာ ခေါင်းကိုငုံ့ကာ စဉ်းစားလျက်ရှိလေ၏။ ထို့နောက် ထိုင်ရာမှထလိုက်၍ ဦးညွှတ်လိုက်ပြီးလျှင် ခေါင်းကိုငုံ့၍ အပါးမှထလိုက်လေ၏။

"ကျေးဇူးတင်ပါတယ် သမားတော်ကြီးရယ်။ ကျိချိန် ရှ သမားတော်ကြီးကို စာကြည့်ဆောင်ထဲ ပင့်သွားပြီး လက်ဖက်ရည်များတည်ပါဟဲ့" ဟု မယ်မယ်ကပြောလေ၏။

ကျိချန်နှင့် ကျိလျှံတို့သည် မယ်မယ်၏ ညွှန်ကြားချက်အတိုင်း သမားတော်ကြီးအား ညောခန်းဆောင်ဘက်သို့ ခေါ်သွားကြလေ၏။

စာကြည့်ခန်းသို့ရောက်လျှင် သမားတော်ကြီးဝမ်က

"နည်းနည်းအအေးမိတာကလွဲလို့ မယ်မယ့်မှာ ဘာမှ ထူးထူးထွေထွေရောဂါမရှိပါဘူး။ ဆေးဝါးလဲ မှီဝဲဖို့ မလိုပါဘူး။ အစာကြေ





လွယ်တဲ့ အစားအစာတွေကို စားပြီး နွေးနွေးထွေးထွေးနေလိုက်ယင် ကောင်းသွားမှာပါ။ သို့သော်လည်း ကျွန်တော် ဆေးညွှန်းတမယ်ရေးပေးခဲ့ပါမယ်။ မယ်မယ်မှီဝဲချင်တယ်ဆိုယင် မှီဝဲနိုင်ပါတယ်။ မသောက်ချင်ဘူးဆိုယင်လဲ ရပါတယ်"

သမားတော်ကြီးသည် လက်ဖက်ရည်ကို တစ်ကျိုက်သောက်လိုက်လိုက်ပြီးနောက် ဆေးညွှန်းကို ရေးပေးလေ၏။ သမားတော်ကြီးပြန်တော့မည်ပြုစဉ် နင်ဂုက်ယင်၏ သမီးလေးတာချဲ၏ အထိန်းတော်သည် ကလေးငယ်ကိုချီ၍ ရောက်လာကာ

"ဟောဒီကလေးကိုလဲကြည့်ပေးပါဦး သမားတော်ကြီးရယ်"

သမားတော်သည် ထိုင်ရာမှရပ်လိုက်၏။ ထို့နောက် ကလေးကို ဘယ်ဘက်လက်ဖြင့် ယူလိုက်ပြီးနောက် ညာဘက်လက်ဖြင့် သွေးစမ်းလျက်ရှိလေ၏။ တစ်ဖန် နဖူးကိုစမ်းပြီး လျှာကိုကြည့်ပြန်လေ၏။

သမားတော်က သူတို့ဘက်သို့လှည့်၍ ပြုံးလိုက်ရင်း

"ကျွန်တော်ပြောတဲ့စကားကို ကြားရယင် လူမမာရှင်ကတော့ သိပ်ကျေနပ်မယ်မထင်ဘူးခင်ဗျ။ ကလေးကို အစာမကျွေးဘဲထားလိုက်ယင် ချက်ချင်းကောင်းသွားမှာပါ။ ဘာဆေးမှတိုက်ဖို့လဲမလိုပါဘူး။ ဆေးလုံးလေးတွေတော့ ပို့လိုက်မယ်လေ။ မအိပ်ခင်မှာ ဂျင်းရေလေးနဲ့ သောက်လိုက်ပါ"

သမားတော်သည် နှုတ်ဆက်၍ပြန်သွားရာ ကျိချန်တို့ကလည်း တံခါးဝအထိ လိုက်ပို့ကြလေ၏။ သူတို့သည် သမားတော်ပြောသည့်စကားများကို မယ်မယ်ထံသွားပြောကြပြီး ဆေးညွှန်းစာရွက်ကို မယ်မယ့်ညောင်စောင်းဘေးစားပွဲခုံကလေးပေါ်သို့တင်ထားလိုက်လေ၏။ သမားတော်ပြန်သွားသည့်အခါ၌ ဇာခန်းဆီးနောက်တွင် ရပ်နေကြသည့်သခင်မဝမ်နှင့် မိန်းမပျိုတစ်သိုက်တို့သည်လည်း မယ်မယ့်အနားသို့ ရောက်လာကြလေ၏။ သခင်မဝမ်သည် ထိုနေရာတွင် အတန်ကြာမျှ ထိုင်နေပြီးနောက် မိမိအဆောင်သို့ ပြန်လာခဲ့လေ၏။

အနီးတစ်ဝိုက်တွင် လူရှင်းသွားသည့်အခါ၌ အဘွားလူသည် မယ်မယ်ကို လာရောက်နှုတ်ဆက်လေ၏။ မယ်မယ်က အဘွားလူအား နောက်တစ်ခေါက် အလည်လာရန် ပြောပြီးနောက် ယန်ယွမ်းဘက်သို့လှည့်၍

"ကဲ အဘွားလူကို အပြင်ရောက်အောင်လိုက်ပို့လိုက်ကြပါအေ။ ငါကတော့ နေထိုင်မကောင်းတာနဲ့ မပို့နိုင်တော့ဘူး"

အဘွားလူသည် နောက်ဆုံးအကြိမ် ကျေးဇူးစကားဆိုကာ ယန်ယွမ်းနှင့်အတူ အစေခံမျာ းအဆောင်ဘက်သို့ ထွက်လာခဲ့လေ၏။ ယန်ယွမ်းက ခုတင်မီးဖိုပေါ်တွင် တင်ထားသည့် အထုပ်ကြီးတစ်ခုကို လက်ညှိုးထိုးပြကာ

"အဲဒီအထုပ်ထဲကပစ္စည်းတွေက မယ်မယ့်ရဲ့ဒတ်စုံတွေ။ အယင်နှစ်တွေတုန်းက ကန်တော့လို့ရထားတာ၊ ဒါပေမယ့် မယ်မယ်တစ်ခါမှမဝတ်ရသေးဘူး။ မယ်မယ်က စံအိမ်ပြင်ဘက်ကချုပ်တဲ့ အထည်တွေဆိုယင် ဘယ်တော့မှမဝတ်ဘူး။ ဒါတွေကို ဒီတိုင်းသိမ်းထားယင်လဲ မကြာခင်မှာ ပျက်စီးကုန်တော့မှာ။ မနေ့ကဘင် ကျွန်မကိုအရှာခိုင်းထားပြီး အဲဒါတွေကို အဘွားလူကိုပေးလိုက်တဲ့။ အိမ်မှာနေရင်း ဝတ်ချင်ယင်လဲဝတ်၊ မဝတ်ချင်ဘူး ဆိုယင်လဲ တစ်ယောက်ယောက်ကိုပေးလိုက်ပါတဲ့။ ဟောဒီအစ်ထဲမှာက အဘွားလူကြိုက်ဘတ်တဲ့မုန့်တွေ၊ ဟောဒီအထုပ်ထဲမှာကဆေးတွေ။ ဆီးတော်ပွင့်မှုန့်ရယ်၊ ရွှေခရန်နဲ့ သက်ခေတင့်အားတိုးဆေးပြားရယ်၊ သွေးအားကောင်းပြီး အားရှိတယ်တဲ့။ အထုပ်ထဲမှာလဲ ဆေးညွှန်းပါတယ်။ ဟောဒါက အဘွားကိုချင်ယင်ကိုင်ရအောင်လို့တဲ့။ ရွှေခြည်ထိုးလက်ကိုင်အိတ်နှစ်လုံး"ဟု ဆိုကာ ယန်ယွမ်းသည် လက်ဆွဲအိတ်၏ ကြိုးများကို ဖြေလိုက်ပြီးနောက် အထဲမှ ငွေချောင်းနှစ်ချောင်းကို ထုတ်လိုက်လေ၏။ ငွေချောင်းပေါ်တွင် "လိုရာဆန္ဒ ပြည့်ပါစေ"ဟု စာတန်းထိုးထားလေ၏။ ထို့နောက် ယန်ယွမ်းကပြုံးကာ

"အဲဒီတော့ ရွှေခြည်ထိုး လက်ကိုင်အိတ်ကိုတော့ အဘွားလူ ယူသွားပေါ့။ ငွေချောင်းနှစ်ချောင်းကတော့ကျွန်မကိုပေးချင်ပေးပစ်ခဲ့လေ"

အဘွားလူသည် အကြိမ်ပေါင်းများစွာ ဘုရားကို တလျက်ရှိပြီးနောက်





"ယူချင်ယင် ယူလိုက်ပါတော်၊ ရပါတယ်"ဟု ပြောလေ၏။

အဘွားလူသည် သူ့စကားကိုအဟုတ်ထင်ပြီးတကယ်ပြောနေခြင်းဖြစ်ကြောင်း သိလိုက်သည့်အခါတွင် ယန်ယွမ်းကပြုံးကာ

"အလကားပြောတာပါ အဘွားလူရယ်၊ ကျွန်မမှာ ရှိပါတယ်။ နှစ်သစ်ကူးတို့ ဘာတို့မှာ ကလေးတွေ လာကန်တော့ယင်ပေးဖို့ အဘွားလူသာ ယူပါ"

ထိုစဉ်အစေခံတစ်ယောက်သည် သူတို့အနားသို့ရောက်လာကာ ချိန်ဟွာမင်းခေတ်တွင် လုပ်သည့် ကြွေလက်ဖက်ရည်အုပ် တစ်လုံးကို ပေးလေ၏။

"သခင်လေး ပေါက်ယုရဲ့ လက်ဆောင်ပါ"ဟု အစေခံက ပြောလေ၏။

အဘွားလူက လက်ဖက်ရည်အုပ်ကိုယူလိုက်ပြီးလျှင်

"အံမယ်လေး အဖိုးတန်ကြီးပါလားတော်။ ဘွားလူတို့ အယင်တုန်းက ကုသိုလ်ကောင်းမှုပြုခဲ့လို့ ဒီနေ့လိုနေ့မျိုးတွေ ရတာပဲထင်ပါရဲ့"

ယန်ယွမ်းက

"ဟိုတစ်နေ့ အဘွားလူ ရောက်တဲ့နေ့က ရေမိုးချိုးပြီး အဝတ်အစား အလဲခိုင်းတယ် မဟုတ်လား၊ အဲဒီ အဝတ်အစားတွေက ကျွန်မရဲ့ အဝတ်အစားတွေ။ အဲဒါတွေကိုအဘွားလူပဲယူသွားတော့လေ။ ပြီးတော့ နောက်ထပ်သိုချင်သေးယင်လဲ ယူသွားဦး"

အဘွားလူက ကျေးဇူးတင်စကား ပြောဆိုလျက်ရှိစဉ် ယန်ယွမ်းသည် နောက်ထပ် အဝတ်နှစ်စုံကို ယူလာကာ ထုတ်၍ ပေးနေလေ၏။ အဘွားလူက သခင်မဝမ်၊ ပေါက်ယုနှင့် မိန်းမပျိုများကို နှုတ်ဆက်ရန် ဥယျာဉ်ထဲသို့သွားချင်၏။ သို့ရာတွင် ယန်ယွမ်းက

"ကိစ္စမရှိပါဘူး အဘွားလူရယ်၊ မသွားပါနဲ့တော့။ ဒီအချိန်ဆိုယင် သူတို့ ညီသည်တို့ဘာတို့ကို လက်ခံတွေ့လေ့မရှိဘူး။ ကျွန်မပြောလိုက်ပါ့မယ်။ နောင်မှာ အဘွားလူအားယင်လဲ အလည်လာခဲ့ဦးနော်"

အဘွားလူ၏ ပစ္စည်းများကို သယ်ပိုးရန်အတွက် အတွင်းဆောင်ထဲမှသူငယ်ကလေးတစ်ယောက်ကိုခေါ်ရန် အခိုင်းမိန်းမကြီးတစ်ယောက်

ကို လွှတ်လိုက်လေ၏။ ထိုနောက် လက်ဆောင်ထုပ်များကို ယူရန်အတွက် နတ်ငှက်မယ်၏အဆောင်သို့ လာခဲ့ကြလေ၏။ သူငယ်တော် တစ်ယောက်သည် အထုပ်များကို ဘေး မလှယ်ပေါက်မှ သယ်လာကာ အပြင်တွင် အသင့်ဖြစ်နေသည့် ရထားပေါ်သို့ တင်လျက်ရှိလေ၏။ နောက်ဆုံးတွင် အခိုင်းမိန်းမကြီးတစ်ယောက်သည် အဘွားလူကို ရထားအထိလိုက်ပို့ကာ နှုတ်ဆက်လေ၏။

နေ့လယ်စာစားပြီးနောက် ပေါက်ယုနှင့် မိန်းမပျိုများသည် မယ်မယ်ကို လာရောက်ကန်တော့ကြပြီးလျှင် ဥယျာဉ်ထဲရှိ အဆောင်များသို့ပြန်လာခဲ့ကြလေ၏။ ခွဲကာနီးတွင် ပေါက်ကြည်က ထိုက်ယုအား

"မလေး၊ ပေါက်ကြည်နဲ့ ဖောလိုက်ခဲ့ပါလား။ စကားကလေး ပြောစရာရှိလို့"

သို့ဖြင့် ထိုက်ယုသည် သဇင်မြိုင်ရိပ်သာသို့ လိုက်လာခဲ့လေ၏။ အဆောင်သို့ရောက်လျှင် ပေါက်ကြည်က နောက်သလိုလိုဖြင့်

"ကဲ မရွှေယု၊ မရွှေယုကို စစ်ဆေးစရာရှိတယ်။ ရှေ့တော်ကို ဒူး ထောက် ခစားစမ်း"

ထိုက်ယုက တအံ့တသြဖြင့်

"မလေးဘာအရူးထတာလဲ။ ထိုက်ယုမှာဘာစစ်ဆေးစရာရှိလို့လဲ"

"မလေး ထိုက်ယုက ဘာမှမသိရှာဘူးပေါ့။ ဇာလွန်'အပြစ်မဲ့တဲ့ သူငယ်မလေးပေါ့ဟုတ်လား။ကိုယ်ဘာတွေပြောခဲ့ဆိုခဲ့ဘယ်ဆိုတာ မေ့ချင် ပြီထင်တယ်။ ယီးတီးယားတား လုပ်မနေနဲ့ မြန်မြန် ဖြောင့်ချက်ပေးနော်"

ထိုက်ယုသည် ခပ်စောစောကမည်သို့မျှမဖြစ်သော်လည်းသူ့စကား ကြောင့် စိတ်ရှုပ်စပြုလာ၏။

"မလေး ဘာများပြောမိလို့လဲ၊ မလေးကိုအပြစ်ရှာနေတာလား။ ပြောလေ၊ မလေး ဘာပြောလို့လဲ"

ပေါက်ကြည်က ပြုံးလိုက်ကာ





"ခုထက်ထိမသိချင်ယောင်ဆောင်နေတာပေါ့လေ။ ပေါက်ကြည်တို့ မနေ့က အရက်ချိုသောက်ရင်း စာစပ်ကြတော့ မလေး ရွတ်သွားတဲ့ စာက ဘာတဲ့လဲ၊ ဘယ်ထဲမှာပါတဲ့စာလဲ"

မနေ့က အရက်ချိုသောက်ရင်း စာစပ်ကြစဉ် မိမိသည် 'ခေါင်ရန်းဆောင်' နှင့် 'အနောက်ဆောင်' ဆိုသည့်ပြဇာတ်ထဲမှ စ နှစ်ကြောင်းကို အမှတ်တမဲ့ ရွတ်လိုက်မိသည်ကို ထိုက်ယု သတိရလာလေ၏။ ထိုက်ယုသည် မျက်နှာနီရဲသွားရာမှ ပေါက်ကြည်၏ လည်ပင်းကို ဖက်လိုက်ရင်း ရယ်လိုက်လျက်

"ဟုတ်တယ်ကွယ်။ အမှတ်တမဲ့ ဒီစာကြောင်းတွေ ခေါင်းထဲ ရောက်လာတယ်။ ဟုတ်တယ်။ ထိုက်ယု မှားသွားတယ်။ နောင်ဆိုယင် ဒီစာကြောင်းတွေကို မရွတ်တော့ပါဘူးနော်"

"ပေါက်ကြည်တော့ ဒီစာကို တစ်ခါမှ မတွေ့ဖူးဘူး။ ဘယ်ထဲက ပါလာတဲ့စာလဲဆိုတာ သိပ်သိချင်နေတာပါ"

"ဘယ်သူ့မှမပြောပါနဲ့နော်။ နောင်မှာ ထိုက်ယု ဒီစာကို မရွတ်တော့ပါဘူး"

ထိုက်ယုမှာ ရှက်သွေးဖြာ လျက်ရှိကာ သူ့ကို တဖွဖွတောင်းပန်နေသည့်အတွက် ပေါက်ကြည်မှာ ထပ်မေးရမည်ကို မမေးရက်လောက်အောင် ဖြစ်သွားလေ၏။ ပေါက်ကြည်သည် ထိုက်ယုကို အထိုင်ခိုင်းပြီး လက်ဖက်ရည်တည်ခင်းလေ၏။

ပေါက်ကြည်က ခပ်တိုးတိုးဖြင့်

"မလေးကတော့ ယုံချင်မှယုံမယ်။ ပေါက်ကြည်ကလဲ တော်တော်ဆိုးတယ်။ ခုနစ်နှစ်၊ ရှစ်နှစ်သမီးလောက်တုန်းကဆိုယင် သိပ်ပြီး စိတ်ကောက်တတ်တာပဲ။ ပေါက်ကြည်တို့မိသားစုဟာ ပညာတတ်မိသားစုလို့ ပြောနိုင်ပါတယ်။ ပေါက်ကြည်တို့အဘိုးဆိုယင် စာအုပ်စာတန်းစုတာကို သိပ်ဝါသနာပါတာ။ အဲဒီတုန်းက ပေါက်ကြည်တို့ဆွေမျိုးသားချင်းတွေကလဲ မနည်းဘူး။ ပေါက်ကြည်တို့လူတွေကတော့ လေးနက်တဲ့ စာအုပ်တွေဆိုယင် သိပ်မုန်းတာပဲ။ ပေါက်ကြည်ရဲ့ မောင်တစ်ဝမ်းကွဲ တချို့ကတော့ ကဗျာတို့၊ သီချင်းတို့ကို ဝါသနာပါတယ်။ 'အနောက်

ဆောင်’တို့၊ ‘ဓာငြင်းအိုရှင်’တို့၊ ‘ယွန်ခေတ်ပြဇာတ်ဆရာ’တို့ဆိုတဲ့ စာအုပ်တွေရှိတယ်။ အဲဒီစာအုပ်တွေကို လူကြီးတွေ မသိအောင် တိတ်တိတ်ဖတ်ကြရတယ်။ လူကြီးတွေမိသွားယင် အဆူအရိုက်ခံရတယ်။ ဒါမှမဟုတ်ယင်လဲ စာအုပ်တွေကို မီးရှို့ပစ်တယ်’’

‘‘ဒီတော့ ဟိုတုန်းက မိန်းကလေးဆိုယင် စာမဖတ်ရဘူး၊ ဝတ္ထု မဖတ်ရဘူး။ ယောကျ်ားကလေးတွေဆိုယင်လဲ စာကောင်းပေကောင်းကို မဖတ်မယ့်အတူတူ ဘယ်စာကိုမှ မသင်တာက ပိုကောင်းတယ်ဆိုပြီး သင်မပေးကြဘူး။ ပေါက်ကြည်တို့လို မိန်းကလေးတွေကျတော့ ပိုဆိုးသေးတာပေါ့။ လက်ရေး ပန်းချီတို့၊ ကဗျာတို့ ကိုလဲ မရေးရဘူး။ ယောကျ်ားလေးတွေဆိုယင် ရာဇဝင်ဒါကို သင်လို့ အစိုးရအုပ်ချုပ်ရေးမှာဝင်ပြီး လူထုတွေကို အုပ်ချုပ်တတ်ဘယ်ဆိုယင်တော့ ဘာမှ မပြောစရာ မရှိဘူးပေါ့လေ။ ခုတော့ ဒီလိုစာကောင်းပေကောင်းတွေ မှေးမှိန်ပြီး တိုင်းပြည်အတွက် အကျိုးမရှိတဲ့ စာတွေကများနေတယ်။ ပညာသင်ပြီး သင်တာက တခြား၊ ဖြစ်သွားတာ တခြားဖြစ်နေတော့ မသင်တာတဲ့ကောင်းတယ်လို့ လူတွေက ယူဆလာကြတယ်။ ပြီးတော့ သူတို့ဖတ်ကြတဲ့ စာပေတွေကလဲ အဆင့်အတန်းနိမ့်တဲ့ စာပေတွေ ဖြစ်နေတယ်။ ဒီတော့ လူတွေက ဘယ်လို ယူဆလာကြသလဲ။ ပညာသင်တာဟာ အလကားပဲ။ စိုက်ပျိုးရေးလုပ်တာတို့၊ ကုန်အရောင်းအဝယ် လုပ်တာတို့ကမှ တော်သေးတယ်လို့ ယူဆလာကြတယ်။ မိန်းကလေးဆိုသင်လဲ ပညာတွေ သင်နေမယ့်အစား အချုပ်အလုပ်ကိုကိုသင်တာနဲ့ ဟုတ်တုတ်တုတ် ရှိသေးတယ်ဆိုပြီး ပစ်ပယ်လာကြတယ်။ ဒီတော့ ပေါက်ကြည်တို့လို စာနည်းနည်းပါးပါးတတ်တဲ့ မိန်းကလေးတွေဟာ စာအုပ်ကောင်းတွေကိုရွေးပြီး ဖတ်သင့်တယ်လို့ထင်တယ်။ မကောင်းတဲ့စာပေတွေရဲ့ ဩဇာ အရှိန်အဝါ အောက်ကိုရောက်သွားယင် ပေါက်ကြည်တို့ရဲ့ဘဝဟာ မျှော်လင့်ချက်မရှိတဲ့ဘဝကို ရောက်သွားနိုင်တယ်’’

ထိုက်ယုသည် ခေါင်းကိုငုံ့ကာ လက်ဖက်ရည်သောက်ရင်း ပေါက်ကြည်၏ စကားများကို နားထောင်လျက် ရှိလေ၏။ ပေါက်ကြည်၏





စကားများမှာ မှန်သည်ဟု သဘောပေါက်ကာ ‘‘ဟုတ်တာပေါ့’’ဟု ထောက်ခံ ပြောဆိုမိလေ၏။

ထိုစဉ် စုယွန် ပေါက်လာကာ

‘‘မလေးငှက်မယ်က အရေးကြီးတဲ့ကိစ္စ ပြောစရာရှိလို့ လာခဲ့ပါတဲ့။ ဒိပြင် သခင်မလေးတွေလဲ သခင်လေးပေါက်ယုအခန်းမှာ ရောက်နေကြတယ်’’

‘‘ဘာကိစ္စများလဲ မဆိုနိုင်ဘူး’’ဟု ပေါက်ကြည်က ပြောလေ၏။

‘‘ဟိုရောက်တော့ သိမှာပေါ့ကွယ်’’

သူတို့ နှစ်ယောက်သည် စပါးချိုတဲဘက်သို့ ထွက်လာခဲ့ကြရာ အခြားသူများ အစုံအညီ ရောက်နေကြသည်ကို တွေ့ရလေ၏။

လီဝမ်းက ဝမ်းသာအားရဖြင့်

‘‘ကိုယ်တို့ဂမုန်းနွယ်ကဗျာအဖွဲ့က ထောင်မှ မထောင်ရသေးဘူး။ အသင်းဝင်တစ်ယောက် လျော့တော့မယ်။ ဆီချွန်းက ဒီနှစ် တစ်နှစ်လုံး အတွက် ခွင့်တောင်းနေတယ်’’

‘‘မနေ့ကသူ့ကို မယ်မယ်က ဥယျာဉ်ပုံ ပန်းချီအဆွဲခိုင်းနေတယ် မဟုတ်လား။ ခုတော့ အဖွဲ့သဲကို မပါချင်တုန်း အကြောင်းပြချက်ကောင်းကောင်း ရသွားတာပေါ့’’ဟု ထိုက်ယုက ပြောလေ၏။

တန်ချွန်းက

‘‘မယ်မယ်ကြောင့် မဟုတ်ပါဘူး မလေးရယ်။ ဒီကိစ္စကိုစ,တာက အဘွားလူရယ်’’

‘‘ဟုတ်တယ်၊ ဟုတ်တယ်၊ အဲ့ဒီအဘွားလူ ဂြိုဟ်မွှာ။ အဘွားလူဆိုလို့သာ ခေါ်ရတယ်။ ဘယ်သူ့အဘွားမှန်းလဲမသိပါဘူး။ အမှန်ကတော့ အဘွားလူလို့ ခေါ်ဖို့မကောင်းဘူး။ အဘွားနံ့ဖျက်ပိုးလို့ ခေါ်ဖို့ပဲ ကောင်းတယ်’’

ထိုက်ယု၏စကားကြောင့် အားလုံး ဝိုင်းရယ်သိုက်ကြလေ၏။

ပေါက်ကြည်က

‘‘မလေးငှက်မယ်က နူတ်သီးကောင်းတယ်သိုသာ နာမည်ကြီးနေတာ။ သူက စာတို့ဘာတို့သိပ်မတတ်တော့ သူပြောတဲ့စကားက အပြော

မတတ် ဆဲသလိုဆိုတာမျိုး ဖြစ်နေတယ်။ အမှန်ကတော့ ဟောဒီက မလေးထိုက်ယုကို မမီဘူး။ ကွန်ဖြူဇီရဲ့ သမိုင်းကျမ်းထဲကလို ပြောလိုက်ယင်လဲ ဒိုးခနဲ ဒေါက်ခနဲ၊ ဥာမာ ဥပဒေမဲ့ယျကလဲ ကောင်းတော့ မလေးငှက်မယ်ပြောတာထက် ပိုထိတယ်။ ကြည့်စမ်း၊ မနေ့က အဘွားလွှကြောင့် ပေါက်ကြည်တို့တတွေ စ တွေ့ပေ်ကြ၊ အရက်ကလေး တစ်မြဖြစ်ကြတာတွေကို အဘွားနှံဖျက်ပိုးကြောင့်လို့ တစ်လုံးတည်းနဲ့ ပြောချလိုက်တော့ ရှင်းရောပေါ့။ သူမို့လို့ ရှာရှာဖွေဖွေ ပြောတတ်ပေလေ"

"ဟုတ်တယ်၊ ဟုတ်တယ်။ မလေးထိုက်ယုအကြောင်းကို မလေးပေါက်ကြည်ပြောလိုက်မှပဲ သရုပ်ပေါ်တော့တယ်"ဟု အားလုံးက ပြောကြလေ၏။

လိဝမ်းက

"ကဲ၊ ဒီတော့ ဆီချွန်းကို ခွင့်ဘယ်လောက်ပေးမလဲ စဉ်းစားကြဦး။ ကိုယ်က တစ်လလောက်ပဲ ပေးချင်တာ။ သူကတော့ နည်းလွန်းတယ်တဲ့။ ဘယ်လိုသဘောရသလဲ"

ထိုက်ယုက

"တစ်နှစ်ဆိုတာ သိပ်တော့ မများပါဘူး။ ဒီဥယျာဉ်ကြီးကို ဆောက်တာက တစ်နှစ်ကြာတယ်မဟုတ်လား။ ဒီတော့ ဒီဥယျာဉ်ကြီးကို ပန်းချီရေးယင်လဲ နှစ်နှစ်လောက်တော့ ကြာမှာပေါ့၊ မင်ဖျော်ရတာ၊ စက္ကူကိုဖြန့်ရတာ၊ စုတ်တံကို မင်တဲနှစ်ရတာနဲ့ဆိုတော့"

အခြားသူများမှာ ထိုက်ယုသည် ဆီချွန်းကိုစတော့မည်ဟုသိလိုက်သည့်အတွက် အခြားသူများက စကားသုံးအောင် မစောင့်နိုင်တော့ဘဲ

"ပြီးတော့ကော"

ပေါက်ယုကရယ်လိုက်ရင်း

"ဩော်၊ ပြီးတော့လဲဥယျာဉ်ကြီးကို တအိအိနဲ့ဆွဲရမယ်ဆိုတော့ နှစ်နှစ်လောက်တော့ ကြာမှာပေါ့လို့ ပြောချင်တာပါ"

ထိုစကားကြောင့် ပွဲကျသွားကြပြန်လေ၏။ ပေါက်ကြည်က

"ဟုတ်တယ်၊ တအိအိနဲ့ ဆွဲနေတယ်ဆိုတဲ့ စကားက သိပ်မှန်တာပဲ။ ဒီမှာ ပန်းချီဆွဲတာက အဓိကမဟုတ်လား။ မနေ့ကပြောခဲ့တဲ့ဖြက်လုံး





တွေက အဲဒီအခိုက်အတန့်မှာ ရယ်စရာ ကောင်းချင်ကောင်းနေပေမယ့် ပြန်စဉ်းစားကြည့်ယင်၊ သိပ်မရယ်ရတော့ဘူး။ ဒါပေမယ့် သူ့စကားကတော့ ခုလဲရယ်ရတယ်၊ နောင် ပြန်စဉ်းစားယင်လဲ ရယ်နေရဦးမှာပဲ။ ဒါကြောင့် ပေါက်ကြည်ကတော့ တကယ်အဘော်ကျတယ်"

"ဘာလဲ မလေးက သူ့ကိုမြှောက်ပေးပြီး ဆီချွန်းကို ရယ်စရာဖြစ်အောင် လုပ်နေတာပေါ့၊ ဟုတ်လား"

ထိုက်ယုက ဆီချွန်း၏လက်မောင်းကို လှမ်းဖက်လိုက်ကာ

"တကယ်ပြောတာပါ။ ခု ပန်းချီရေးမှာက ဥယျာဉ်ကြီးတွင်ပဲလား။ မလေးတို့ပုံတွေကိုကော မဆွဲတော့ဘူးလား"

"အစတုန်းကတော့ ဥယျာဉ်ပုံကိုဆွဲဖို့ စိတ်ကူးတာပါပဲ၊ ဒါပေမယ့် ဒီအတိုင်းကြီးဆွဲယင် ပုံက ပန်းချီနဲ့တူဘဲ ဗိသုကာပုံစံထုတ်ထားတဲ့ပုံကြီးနဲ့တူနေလိမ့်မယ်လို့ မယ်မယ်ကပြောနေတယ်။ အဲဒီထဲမှာ ပျော်ပွဲစားထွက်တဲ့ပုံမျိုး လူတွေရဲ့ပုံပါထည့်ဆွဲယင်ကောင်းကောင်းမယ်တဲ့။ ခက်တာက ဆီချွန်းကလဲ အဆောက်အအုံတို့လူတို့ကို အသေးစိတ်သိပ်ဆွဲတတ်တာ မဟုတ်ဘူး။ ခု မယ်မယ်ကခိုင်းနေတော့ ဒုက္ခရောက်နေတာပေါ့"

"လူပုံကိုဆွဲရတာက လုပ်ပါတယ်ကွယ်။ ပိုးကောင်တို့ဘာတို့ပုံကိုကော မဆွဲတတ်တော့ဘူးလား"ဟု ထိုက်ယုကမေးလိုက်၏။

"ထိုက်ယုတို့ကတော့လုပ်ပြီ၊ လူဆွဲတတ်ယင်တော်ရောပေါ့။ ပိုးကောင် မွှားကောင်က ဘာဖြစ်လို့ထည့်ဦးမှာလဲ။ အလွန်ဆုံးထည့်ချင်ယင် ငှက်ကလေး တစ်ကောင်နှစ်ကောင်လောက်ထည့်ပေါ့"

"တခြားပိုးကောင်နဲ့ကောင်တွေ မထည့်ယင်နေလေ၊ ဒါပေမယ့် မနေ့က နှံဖျက်ပိုးကောင်ကြီး မပါယင်တော့ ပန်းချီကားက ဘယ့်နှယ် လုပ်မှ မကောင်းနိုင်ဘူး"

ဤတွင် ရယ်ကြပြန်လေ၏။ ထိုက်ယုက ရင်ကိုလက်ဖြင့်ဖိလိုက်ရင်း

"ဆွဲယင်လဲ မြန်မြန်ဆွဲပါ၊ ဒီက ပန်းချီကားကိုနာမည်ပေးချင်လှပြီ။ ပြီးယင် 'နှံဖျက်ပိုးနှင့်အတူ အပင်းဆို့ကြခြင်း'လို့ နာမည်ပေးရမယ်"

ဤတွင် သူတို့တစ်သိုက်မှာ သောသောလှုပ်လှုပ်ရယ်မောကြလေရာ ကြမ်းပြင်ပေါ်သို့တစ်စုံခုလဲကျသည့်အသံတစ်သံကိုကြားတော့မှအရယ်ရပ်

သွားကြလေ၏။ ထို့ကြောင့် သူတို့သည် အသံလာရာသို့ ကြည့်လိုက်မိကြလေ၏။ ရှိစမ်းယဉ်မှာ ကုလားထိုင် နောက်မှီကိုမှီ၍ ခွက်ထိုးခွက်လန်ရယ်လျက်ရှိသည်တွင် မဟန်နိုင်တော့ဘဲ နောက်ပြန် လန်ကျသွား လေ ရာ နေဇက်မှ နံရံကြီးရှိ၍သာ မြေကြီးပေါ်အထိပက်လက်လန်ကျမသွားခြင်းဖြစ်ပေ၏။ ဤတွင် ခြေနှစ်ချောင်း ထောင်ကာ ပက်လက်လန်နေသည့် ရှိစမ်းယဉ်၏အဖြစ်ကိုကြည့်၍ တဝါးဝါးဖြစ်လျက်ရှိပြန်သေး၏။ နောက်ဆုံးတွင် ပေါက်ယုက သူ့ကိုသွား၍ထူပေးရလေ၏။

အတန်ကြာမှ အသီးသီး ကူခွေဆည်နိုင်ကြလေ၏။

ပေါက်ယုသည် ထိုက်ယုကို လှမ်းကြည့်လိုက်၏။ ဤတွင် ထိုက်ယုကလည်း မိမိကို တစ်စုံတစ်ရာ အရိပ်ပြသည်ဟု ထင်လိုက်မိသဖြင့် အိပ်ခန်းဆောင်ထဲသို့ဝင်လာကာ မှန်ရှေ့တွင်ရပ်၍ သူ့ကိုယ်သူပြန်ကြည့်လိုက်သည်တွင် သူ့ဆံပင်များ ဖရိုဖရဲဖြစ်နေသည်ကို တွေ့ရသဖြင့် မှန်တင်ခုံပေါ်မှ လီဝမ်း၏ဘီးကိုယူကာ ဆံပင်တို့ကို သပ်ရပ်စေပြီးနောက် အပြင်သို့ပြန်ထွက်လာခဲ့လေ၏။

ထိုက်ယုက လီဝမ်းအား လက်ညှိုးထောင်ပြလိုက်ကာ

"ဘယ်လိုလဲ မမ၊ ထိုက်ယုတို့ကို အချုပ်အလုပ် သင်ပေးမှာလား။ ပညာတွေ သင်ပေးမှာလား။ ဒါမှမဟုတ်ယင်လဲ ဒီမှာလာပြီး ဟားတိုက်ခိုင်းနေတာလား"

လီဝမ်းက

"သူပြောတာကို ကြည့်ကြနော်၊ ဟားတိုက်ရအောင် လုပ်တာက သူ။ အပြစ်ပုံချတော့ကိုယ့်အပေါ်ပုံချတယ်၊ ထိုက်ယုကတကယ်ကြောက်ဖို့ကောင်းတယ်။ ကြည့်ပါ၊ သူ ယောကျ်ားရယင် ယောက္ခမဆိုးဆိုးနဲ့ယင်လဲတွေ့မှာပါ၊ ဒါမှမဟုတ်ယင်လဲ ယောင်းမ ခပ်စွာစွာတွေနဲ့တွေ့မှာပါ။ အဲဒီအခါကျတော့ သူ ဒီလောက် နှုတ်သီးကောင်းနိုင်ဦးမလား ကြည့်ရသေးတာပေါ့"

ထိုက်ယုက ပေါက်ကြည်၏လက်ကို လှမ်းကိုင်လိုက်ပြီးလျှင်

"ကဲပါ ဒီလောက်တောင်ခွင့်လိုချင်ယင်လဲ သူတောင်းတဲ့အတိုင်း တစ်နှစ်သာပေးလိုက်ပါ"





ပေါက်ကြည်က

"ပေါက်ကြည် မျက်နှာမလိုက်ဘဲ ပြောမယ်၊ နားထောင်ကြ။ ဆိချွန်းက ပန်းချီရေးကောင်းတယ်ဆိုတာက စိတ်ကူးထဲမှာပေါ်တဲ့ပန်းချီကို အဆွဲကောင်းတာ။ ခုလို ဥယျာဉ်ကြီးတစ်ခုလုံးကို အသေးစိတ်ပုံဘွဲ့ဆွဲရမယ်ဆိုတော့ ဒီဥယျာဉ်ကြီးကို မျက်စိထဲမှာ သေသေချာချာမြင်နေဖို့လိုတာပေါ့။ တကယ်ကတော့ ဒီဥယျာဉ်ကြီးထဲမှာ ကျောက်ခက်ကျောက်ဆောင်က မရေတွက်နိုင်ဘူး။ သစ်ပင်တွေ၊ အဆောင်တွေ၊ လေသာဆောင်တွေ၊ လေညင်းဆောင်တွေက အများကြီး။ တစ်ချို့ကခပ်နီးနီး၊ တစ်ချို့က ခပ်ဝေးဝေး၊ ဒီလောက်များပြီး ဒီလောက်ကျယ်တဲ့ ဥယျာဉ်ကြီးကို စက္ကူလေးတစ်ချပ်ပေါ်မှာ ဆံ့အောင် ဆွဲရမယ်ဆိုတော့ သိပ်မလွယ်ဘူးပေါ့။ စက္ကူပေါ်မှာရှိတဲ့ကွက်လပ်ကိုကြည့်ရဦးမယ်၊ နောက်ခံအားကို ဘယ်လိုထည့်မလဲ၊ ရှေ့အနီးရှုခင်းကို ဘယ်လိုပေးမလဲ၊ ဘယ်အရာတွေကိုမှန်ပြီး ဘယ်အရာတွေကို အသားပေးမလဲဆိုတာကို စဉ်းစားရမယ်။ တစ်ချို့အရာတွေကို ကြည့်ကောင်းအောင် ထပ်ဖြည့်ထည့်ရမယ်။ တစ်ချို့အရာတွေကို နှုတ်ပစ်ရမယ်၊ တစ်ချို့ကိုဖော်ပြီး တစ်ချို့ကိုဖုံးပစ်ရမယ်။ ပန်းချီကားကို ဒေးကြမ်းဆွဲပြီး ဖွဲ့စည်းပုံအနေအထား ကောင်းမကောင်း ကြည့်ရဦးမယ်၊

"ဒုတိယအချက်က အဆောက်အအုံတွေကိုရေးတဲ့အခါမှာ အချိုးမှန်ဖို့အတွက် ပေတံကိုသုံးရမယ်၊ တစ်ချက်ချော်လိုက်တာနဲ့ လှေကားလက်ရန်းက ကောက်နေတာ၊ တိုင်ကယိုင်နေတာ၊ ပြတင်းပေါက်ကရွဲ့နေတာ၊ လှေကားထစ်ကစောင်းနေတာ၊ စားပွဲက နံရံထဲဝင်နေတာ၊ ပန်းအိုးအ လိုက်ကာထိပ်မှာ ဘင်နေတာတို့ ဖြစ်သိမ့်မယ်။ ဒီအတိုင်းဆိုယင် ပန်းချီကားက လူရယ်စရာကြီးဖြစ်နေမှာပေါ့၊

"ပန်းချီဆွဲရာမှာ နောက်အရေးကြီးတဲ့ တတိယအချက်တစ်ခုက ကိုယ်ရေးထည့်လိုက်တဲ့ပစ္စည်းဟာ နေရာမှန်ရဲ့လား၊ လူရုပ်ဟာ အကွာအဝေးမှန်ဖို့၊ အနိမ့်အမြင့်ကွဲပြားဖို့လိုတယ်။ လူတွေဝတ်ထားတဲ့ အဝတ်အစားတွေ တွန့်နေပုံ၊ ခါးစည်းကြိုးတွေ၊ လက်ချောင်းတွေနဲ့ လမ်းလျှောက်ပုံတွေက အထူးအရေးကြီးတယ်။ စုတ်တစ်ချက်ချော်သွားတာနဲ့

လက်ချောင်းကြီးတွေကဖောင်းပြီး ပုပ်ပွနေတဲ့လက် ချောင်းကြီးတွေလို ဖြစ်နေတတ်တယ်၊ ခြေထောက်တွေကလဲ ပုံပျက်နေတတ်တယ်။ လက်ချောင်းနဲ့ ခြေထောက်တွေပုံပျက်တာက မျက်နှာမလှတာ၊ ဆံပင်ဖရိုဖရဲဖြစ်နေတာထက် အကြည့်ရဆိုးတယ်၊

"ဒါကြောင့်ဥယျာဉ်ကိုလဲ ဆွဲရမယ်၊ လူတွေကိုလဲဆွဲရမယ်ဆိုယင် သိပ်မလွယ်လှဘူး။ ပုံဆွဲ ကျင့်ဖို့ တစ်နှစ်ဆိုတာလဲ များလွန်းတယ်။ တစ်လဆိုပြန်တော့လဲ နည်းလွန်းတယ်။ ဒီတော့ ခြောက်လဆိုယင်တော်ပါပြီ၊ ဒီအတွင်းမှာ မောင်လေးပေါက်ယုက သူ့ကိုကူပေါ့။ ကူတယ်ဆိုတာက ပေါက်ယုက ပန်းချီသင်ပေးနိုင်လို့ ပန်းချီဘတ်လို့ မဟုတ်ဘူး။ တခြားအကူအညီမျိုးကိုပြောတာ။ ဥပမာအားဖြင့်အခဲ့တွေနေရယင် မောင်လေးက အပြင်က ပန်းချီဘတ်ကျွမ်းသူများဆီမှာ အကြံဉာဏ် တောင်းပေးနိုင်တယ်။ တိုင်ပင်နိုင်တယ်"

"ကောင်းတယ်။ ချန်ဇူလုံဆိုယင် ခန်းဆောင်တွေ ဘာတွေကို ရေးတဲ့နေရာမှာ အသေးစိတ်ရေးနိုင်တယ်။ ချန့်ဂျိရှန်ဆိုယင် မိန်းကလေးရုပ်တွေကိုဆွဲရာမှာ တော်တော်လက်ရာမြောက်တယ်။ မောင်သူတို့ဆီကိုသွားပြီး အကြံဉာဏ်တောင်းမယ်လေ"

ပေါက်ကြည်က

"အံမယ်လေး၊ ဒီလောက်ပျာယာခတ်မနေစမ်းပါနဲ့။ ဒီမှာ သေသေချာချာစဉ်းစားပြီး လိုအပ်မှ သွားတောင်းပါ။ အရေးကြီးတာက ပန်းချီဆွဲဖို့ ဘယ်ပစ္စည်းတွေလိုမလဲဆိုတာကို စဉ်းစားပါဦး"

"မောင်တို့စံအိမ်မှာ ပန်းချီရေးလို့ကောင်းတဲ့ ဆွဲ့လန်း စက္ကူတွေရှိတယ်လေ။ မင်စုတ်တော့ပန်းချီရေးလို့ကောင်းတာပေါ့"

ပေါက်ကြည်က နှိမ်သလိုလိုဖြင့်

"မောင့်စက္ကူတွေက ဘာသုံးလို့ရမှာလဲ။ ဆွဲ့လန်း စက္ကူက မင်သိပ်စုတ်တော့ လက်ရေးပန်းချီဘိုဘာတို့ရေးယင်ကောင်းချင်ကောင်းတယ်။ ပြီးတော့ဘောင်ပိုင်းပန်းချီဂိုဏ်းကဆွဲတဲ့ ရှုခင်းပုံလိုမင်ရေးပန်းချီဆွဲ သင်ကောင်းတယ်။ ဒါပေမယ့် ခုလိုရောင်စုံဆေးနဲ့ဆွဲယင်တော့ကောင်း





မှာမဟုတ်ဘူး။ ဆေးလဲစုတ်မှာမဟုတ်ဘူး။ချက်ချင်းဆေးတွေပျံ့ကုန်မှာ။ ပန်းချီကားပျက်ပြီးစက္ကူကုန်တာပဲအဖတ်တင်မှာပဲ"

"ဒီတော့ ပေါက်ကြည်အကြံတစ်ခုပေးမယ်။ ဒီဥယျာဉ်ကြီးကို ဆောက်တုန်းက အသေးစိတ်ဆွဲထားတဲ့ ဗိသုကာပုံစံတစ်ခု ရှိတယ်။ ဆွဲတာက ပုံဆွဲဆရာတွေဆွဲတာပေမယ့် အတိုင်းအတာတို့၊ အရှေ့အနောက်တို့ဆွဲတာတိကျတယ်။ အဲဒီပုံစံကို ဒေါ်လေးဝမ်ဆီမှာ တောင်းကြည့်။ အဲဒီပုံစံကားချပ်နဲ့တရွယ်တည်း ပိုးသားထူထူတစ်စကို မလေးငှက်မယ်ဆီမှာတောင်း။ စာရေးတော်ကြီးတွေဆီကို အဲဒီပိုးစကိုပေးလိုက်ပြီးဖုံကြမ်းကိုအဆွဲခိုင်းလိုက်။ တချို့ဖြုတ်တန်တာဖြုတ်၊ ထပ်ထည့် တန်တာကို ထပ်ထည့်ခိုင်းပေါ့။ ပြီးတော့ အဲဒီပုံကြမ်းပေါ်မှာ လူရုပ်တွေထည့်ရေးလိုက်ယင် ပန်းချီကားဖြစ်ရောပေါ့။ စာရေးတော်ကြီးတွေကိုပဲ အစိမ်းရောင်နဲ့ အပြာရောင်ကို အစပ်ခိုင်းလိုက်။ ရွှေမင်နဲ့ ငွေမင်လဲ သူတို့ကိုပဲ အစပ်ခိုင်းလိုက်။ ပြီးတော့ ကော်ကျိုတို့နဲ့စုတ်တံတွေကို ဆေးဖို့ ရေနွေးတည်ဖို့အတွက် လက်ဆွဲမီးဖိုကလေးတစ်လုံးလဲ လိုသေးတယ်။ အရောင်သွင်းတဲ့အခါမှာ အောက်ကပန်းချီကားဖြန့်ဖို့ သက္ကလပ်ခင်းတဲ့ စားပွဲတစ်လုံးလဲ လိုတယ်။မောင့်မှာ ဆေးစပ်ပန်းကန်ပြားနဲ့စုတ်တံတွေလဲကောင်းကောင်း မရှိသေးဘူးမဟုတ်လား။ ဒီတော့ သူတို့ကိုလဲအသစ်ဝယ်ရမယ်"

"ဟင် ဆီချွန်းမှာ ဒီပစ္စည်းတွေ တစ်ခုမှမရှိဘူး။ ဆီချွန်းပန်းချီဆွဲယင် စာရေးတဲ့ စုတ်တံတွေနဲ့ပဲ ဆွဲတာပဲ။ ပြီးတော့ ဆေးဆိုလို့လဲ အနီရင့်ရယ်၊ အပြာရယ်၊ မြေနီဝါရယ်၊ ပန်းရောင်ရယ် ဒါပဲရှိတယ်။ ဒါကလွဲယင် ဆီချွန်းမှာ ဆေးရောင်စုံဆွဲတဲ့ စုတ်တံနှစ်ချောင်းပဲရှိတယ်"

ပေါက်ကြည်က

"ဘာဖြစ်လို့ စောစောက မပြောတာလဲ။ ပေါက်ကြည်ဆီမှာ ပန်းချီဆွဲတဲ့ ပစ္စည်းတော်တော်စုံစုံရှိတယ်။ ဆီချွန်းဆွဲချင်တယ်ဆိုယင် ယူစမ်းပါ။ ဆွဲလို့ကောင်း ကုန်မှာမဟုတ်ဘူး။ ဆီချွန်းအတွက် သိမ်းထားပါ့မယ်။ လိုယင် လာယူလှည့်ပေါ့။ဒါပေမယ့် ပေါက်ကြည်ဆီမှာရှိတဲ့ ပန်းချီစုတ်တံတွေက ယပ်တောင်တွေပေါ်မှာပဲ ရေးလို့ကောင်းမှာ။ ဒီလောက်ကြီးတဲ့ ပန်းချီကားကြီးကိုတော့ ဆွဲလို့ရမှာမဟုတ်ဘူး။ ဒီတော့ ဆီချွန်းအတွက်

လိုအပ်မယ့် ပန်းချီစုတ်စည်းတွေကို ပေါက်ကြည် စာရင်းလုပ်ပေးမယ်လေ။ အဲဒီစာရင်းကို မယ်မယ်က ပြပေါ့။ ကဲ စာရင်းရွတ်ပြမယ်လေ။ မောင်လေးက လိုက်ရေးပေးလိုက်”

ပေါက်ယုက စုတ်တံနှင့် မှင်ခံကိုယူလိုက်၏။ ပေါက်ကြည်၏စကားကို ကြားသည့်အခါတွင် စုတ်တံကိုကောက်ကိုင်ကာ လိုက်ရေးရန် အသင့်ဖြစ်ထားလေ၏။

“ပုံကြမ်းကောက်ဖို့ စုတ်ပြားကြီးလေးချောင်း၊ စုတ်အလတ်လေးချောင်း၊ စုတ်အသေးလေးချောင်း”

ပေါက်ကြည်က ပါးစပ်မှပြော၏။

“ဆေးရောင်တင်ဖို့ စုတ်ပြားကြီးလေးချောင်း၊ စုတ်အလတ်လေးချောင်း၊ အသေးလေးချောင်း။ အသေးစိတ်ကောက်ကြောင်းတွေကိုရေးဖို့အတွက် စုတ်ဇာန်အကြီးဆယ်ချောင်းနဲ့ အသေးဆယ်ချောင်း။ မုတ်ဆိတ်နဲ့ မျက်ခုံးမွေးဆွဲတဲ့ စုတ်တံဆယ်ချောင်း။ ရေဆေးတင်ဖို့အတွက် စုတ်တံကြီး အချောင်းနှစ်ဆယ်နဲ့ အသေးအချောင်းနှစ်ဆယ်။ လူရုပ်ရေးဖို့ စုတ်တံဆယ်ချောင်းနဲ့ မိုးမပေါင်ဆွဲတဲ့ စုတ်တံဆယ်ချောင်း။

“ပြီးတော့ မြားခေါင်းတံဆိပ် ဟသ်ပြဒါးရောင် ဆေးလေးအောင်စ၊ အဝါနုရယ်၊ အဝါရင့်ရယ်၊ အပြာနုရယ် အစိမ်းနုရယ်၊ မြေနီအဝါရယ်က လေးအောင်စစီ၊ အပြာက ရှစ်အောင်စ၊ ခဲဖြူရောင်ကလေးဘူး။ ပန်းနုရောင်စက္ကူက ဆယ်ချပ်။ အနီရောင်ရွှေပြားစက္ကူနဲ့ အစိမ်းရောင်ရွှေပြားစက္ကူက အချပ်နှစ်ရာစီ။ ကော်စေးနဲ့ ကျောက်ချဉ်စစ်စစ်က လေးအောင်စစီ။ ဒါတွေက ပန်းချီရေးမယ့် ပိုးစကိုသုတ်ဖို့ မပါသေးဘူးနော်။ အဲဒီကိစ္စတွေကိုတော့ ကိုယ်တိုင်လုပ်မနေပါနဲ့လေ။ စာရေးတော်ကြီးတွေကို အလုပ်ခိုင်းလိုက်ပေါ့။ အဲဒီဆေးတွေကို သန့်သန့်ဖျော်။ တချို့ကို အမှုန့်ကြိတ်ပြီးစပ်၊ ကော်နဲ့ ရောကျိုလိုက်ပြီးယင် စိဘ်ကြိုက်ဆွဲပေတော့။ တစ်သက်လုံးအရောင်မပျက်တော့ဘူး။

“ပြီးတော့ ပိုးသားနဲ့ယက်ထားတဲ့ ဆန်ကာနုနုက လေးချပ်။ ဆန်ကာကြဲကြဲ လေးချပ်။ ငှက်မွေးပုံ စုတ်တံလေးချောင်း။ ဆေးမှုန့်ကြိတ်ဖို့ ဆုံအကြီးအငယ်လေးလုံး။ စဉ့်ခွက်ခပ်ကြမ်းကြမ်းအလုံးနှစ်ဆယ်၊ ငါး





လက်မပတ်လည် ကြေးစပ်ပန်းကန်ပြားဆယ်ချပ်၊ သုံးလက်မပတ်လည် အဖြူရောင် ပန်းကန်ပြားကြမ်း ဆယ်လုံးနှစ်ဆယ်။ လက်ဆွဲမီးဖိုအလေးနှစ်လုံး။ ဟင်းအိုးအရွယ် ဟင်းချက်တဲ့ မြေအိုးအကြီးအသေးလေးလုံး။ ကြေအိုးအသစ်နှစ်လုံး။ ရေဆွဲပုံးသစ်နှစ်လုံး။ တစ်ပေစီရှည်တဲ့ အဝတ်ဖြူအိတ်လေးလုံး။ ကျောက်မီးသွေး အကောင်းစားဆယ်ပိဿာ။ အံဆွဲသုံးလုံးပါတဲ့ ဗီရိုတစ်လုံး။ ပြောင်ဇာခ ဆယ်ပေ။ ဂျ ရည်နှစ်အောင်စ။ ပဲပိစပ်အရည်က နှစ်ကျပ်ခွဲသား”

“ဒယ်အိုးတစ်လုံးနဲ့ သံယောင်းမ တစ်ချောင်း” ဟု ထိုက်ယုက ဝင်ပြောလိုက်၏။

“အဲဒါတွေဘာလုပ်ဖို့လဲ”

“မလေးက ဂျင်းရေနဲ့ ပဲပိစပ်ရေတွေထည့်တော့ အဲဒီအေးတွေကို ကြော်စားဖို့ ဒယ်အိုးတို့ ဘာတို့များ လိုမလားလို့ပါ”

အားလုံးက ဝိုင်းရယ်လိုက်ကြ၏။ ပေါက်ကြည်တပ်ုံးလိုက်ရင်း

“ဒါတွေကို မလေးနားမလည်ပါဘူးကွယ်။ အဲဒီပန်းကန်ကြမ်းတွေက သိပ်အပူမခံနိုင်ဘူးမဟုတ်လား။ ဒီတော့ ဆေးကျိုတော့မယ်ဆိုယင် မီးအပူကိုခံနိုင်အောင် ပန်းကန်တွေမှာ အောက်က ဂျင်းရည်နဲ့ ပဲပိစပ်ရည်ကို သုတ်ပေးရတယ်။ နို့မဟုတ်ယင် ချက်ချင်းကွဲသွားမှာပေါ့”

“ဟုတ်တယ်၊ ဟုတ်တယ်” ဟု အခြားသူများက ထောက်ခံကြလေ၏။

ထိုက်ယုသည် စာရင်းကို ငုံ့ကြည့်ပြီးလျှင် တန်ချွန်းကို တစ်တောင်ဖြင့် တွက်၍

“ပန်းချီအားလေး တအားဆွဲဖို့အတွက် ပန်းကန်ခွက်ယောက်တွေ၊ ဗီရိုတွေကိုလဲ ကြည့်ဦးမှပါဦး။ ပန်းချီဆွဲတဲ့ပစ္စည်းနဲ့ သူမင်္ဂလာ ဆောင်ယင် ဝယ်မယ့် ခန်းဝင်ပစ္စည်းတွေကို ရောပြီး ငါးစ်ခါတည်း စာရင်းမှတ်နေပြီထင်တယ်” ဟု တိုးတိုးပြောလေ၏။

တန်ချွန်းက မအောင့်နိုင်တော့ဘဲ အားရပါးရရယ်လေ၏။

“မလေးပေါက်ကြည်။ ဟောဒီမှာ မလေးထိုက်ယု ရယ်ပြောနေတယ်။ ဘာပြောသလဲဆိုတာကိုတော့ သူ့ကိုပဲမေးကြည့်တော့”

"သူ့ကို မေးစရာမလိုပါဘူး တန်ချွန်းရယ်။ ခွေးပါးစပ်ဟကြည့်ယင် ခွေးစွယ်ပဲတွေ့မှာပေါ့။ ဆင်စွယ်ကိုဘယ်တွေ့ပါမလဲ"

ပေါက်ကြည်သည် ထိုသို့ပြောအာ ထိုက်ယုကိုခုတင်မီးဖိုကြီးပေါ်သို့ တွန်းချလိုက်ပြီးနောက် ပါးကို လိမ်ဆွဲလိုက်လေ၏။ ထိုက်ယုကတစ်ခစ်ခစ်ရယ်ရင်း

"တောင်းပန်ပါတယ် မလေးရယ်။ ထိုက်ယုက မသေးထက်ငယ်တော့ မလိမ်မိုးမလိမ်မာပဲရှိသေးတယ်မဟုတ်သား။ ဒီတော့ ကိုယ့်ညီမလေးကို ဆုံးမမှပေါ့နော်။ မသေးကမှ ထိုက်ယုကို ပွေ့သူနေယင် ထိုက်ယုမှာ ဘယ်သူ့ကိုသွားပြီး အားကိုးရတော့မှာလဲ"

သူတို့နှစ်ယောက် စကားနောက်ကွယ်တွင် သူတို့နှစ်ဦးချင်းသာ သိသည့် အနက်အဓိပ္ပာယ်များ ပါနေကြောင်းကိုမူ အခြားသူများမသိကြချေ။

'အံမယ်လေး သနားစရာကောင်းလိုက်တာနော်။ ဟုတ်ပါတယ် မလေးပေါက်ကြည်ရယ်၊ ပွေ့ယူပါနဲ့သနားပါတယ်" ဟုအခြားသူများက ဝိုင်းနောက်ကြလေ၏။

ပေါက်ကြည်သည် နောက်ပြောင်နေခြင်း ဖြစ်၏။ သို့ရာတွင် မကောင်းသည့်စာပေများကို ဖတ်သည့်ကိစ္စနှင့်ပတ်သက်၍ မိမိပြောဆိုခဲ့သည့်စကားများကို အမှတ်ရလာသည့်အတွက် နောက်ပြောင်ခြင်း မပြုတော့ပဲ အရှိန်သပ်၍နေလိုက်လေ၏။ ထိုက်ယုက

'မသေး ပေါက်ကြည်ဟာ သိပ်သဘောကောင်းတယ် နော်။ ထိုက်ယုသာဆိုယင် ဒီလောက်ခွင့်လွှတ်ဘတ်မှာမဟုတ်ဘူး"

ပေါက်ကြည်သည် ထိုက်ယုကို လက်ညှိုးထောင်၍ ပြလိုက်လျက်

"မယ်မယ်ကရော လူတွေကရော ထိုက်ယုကို ချစ်နေကြတာလဲ မပြောနဲ့လေ။ ခု ပေါက်ကြည်တောင် မလေးကိုချစ်စပြုလာပြီ။ ကဲသာ မလေးရဲ့ ဆံပင်ကို ပေါက်ကြည်ဖြင်ပေးပါရစေ"

ထိုက်ယုက သူ့စကားကိုနားထောင်ကာ အနားသို့ ရောက်လာသည့်အခါ၌ ပေါက်ကြည်သည်ဖရိုဖရဲဖြစ်နေသည့် ထိုက်ယု၏ဆံပင်များကို ဖြင်ပေးလျက်ရှိလေ၏။ ပေါက်ယုသည် သူတို့နှစ်ယောက်ကိုငေးကြည့်





နေလေ၏။ ပေါက်ကြည်ဆံပင်ထုံးပေးပုံမှာ များစွာလှပသည်ကို တွေ့ရသည့်အတွက် ယခင်တစ်ခေါက်တုန်းကဘည်းကပင်လျှင် သူ့ကို အထုံးခိုင်းရလျှင် ကောင်းလေစွဟု အောက်မေ့မိလေ၏။ ထိုသို့ တွေးနေစဉ် ပေါက်ကြည်က

"အဲဒီစရချင်းရေးပြီးလို့ရှိယင် မယ်မယ်ကိုပြလိုက်လေ။ တချို့လဲ စံအိမ်မှာရှိမှာပေါ့။ မရှိတဲ့ပစ္စည်းကိုတော့ ဝယ်ရမှာပေါ့။ ဆေးစပ်တဲ့အခါမှာ ပေါက်ကြည်လဲ ကူညပဲပေးမယ်လေ"

ပေါက်ယုသည် စာရင်းကိုယူလာခဲ့လေသည်တွင် သူတို့နှစ်ယောက်လည်း စကားပြော၍ ကျန်ရစ်ခဲ့လေ၏။ ထိုနေ့ည ညစာစားပြီးသည့်အခါ၌ သူတို့သည်ထုံးစံအတိုင်းမယ်မယ်ကိုသွား၍ ကန်တော့ကြလေ၏။ မယ်မယ်မှာ ပင်ပန်းနေစဉ်တွင် အအေးပတ်သွားခြင်းမျှသာ ဖြစ်သည့်အတွက် အိပ်ရာထဲတွင် တစ်ရက်လောက်နားပြီး ဆေးတစ်ခွက် သောက်လိုက်သည်ဆိုလျှင်ပင် ညနေပိုင်း၌ အသော်နေကောင်းနေလေပြီ။

ထိုနောက်တစ်နေ့၌ မည်သို့ဖြစ်ပျက်သည်ကိုမူ နောက်အခန်းတွင် ဖော်ပြထားပေ၏။

## အခန်း ၄၃

အချိန်မြန်း၍ မွေးနေ့ပွဲကျင်းပရန် ရန်ပုံငွေကောက်ခြင်း မပျက်ပြုန်းနိုင်သောအချစ်အတွက် မြေပြင်တွင်ဆိမ်းထွန်းဆုတောင်းခြင်း

မယ်မယ်မှာ နေထိုင်မကောင်းဖြစ်ခြင်းမဟုတ်ဘဲ ထိုနေ့ကညယျာဉ်ထဲသို့ လျှောက်လည်စဉ် အနည်းငယ် အအေးမိသွားခြင်းမျှသာ ဖြစ်၏။ သမားတော်ကြီးလာလည်ပြီး ဆေးပေးသွားလျှင် ပျောက်ကင်းသွားမည်ဖြစ်ကြောင်းကိုသိပြီးသည့်အခါ သခင်မဝမ်သည် အထူးအထွေ စိတ်သောကရောက်ခြင်းမရှိတော့ဘဲ နတ်ငှက်မယ်ကို အခေါ် လွှတ်လိုက်ပြီးနောက် ကျိချိန်ထံ စားသောက်ဖွယ်တစ်ခုခုပို့ဖို့ အစီအစဉ်ခိုင်းလိုက်လေ၏။ ထိုသို့တိုင်ပင်နေကြစဉ် မယ်မယ်က သူတို့နှစ်ယောက်ကို အခေါ်ခိုင်းလိုက်သည်နှင့် သူတို့နှစ်ယောက်သည် ခပ်သုတ်သုတ် ထလိုက်လာခဲ့ကြလေ၏။

"တော်တော် နေလို ထိုင်လို ကောင်းသွားပြီးလား မယ်မယ်"ဟု သခင်မဝမ်က မေးလိုက်၏၊

"အင်း တော်တော်လေး ကောင်းသွားပါပြီ။ ခုတင် ညည်းတို့ပို့လိုက်တဲ့ ငုံးသားဟင်းချိုကလေးကို သောက်ပြီးသွားတယ်။ အရသာရှိ







လိုက်တာအေ။ အသားလဲ နည်းနည်း စားလိုက်တယ်။ အသားကလဲ ကောင်းပါ့"

"နတ်ငှက်က မယ်မယ်ကိုကန်တော့ဖို့ဆိုပြီး ကိုယ်တိုင်စီမံတာလေ မယ်မယ်ရဲ့။ သူ့အပေါ်မှာ ကြင်နာသနားတော့ သူကလဲ လူကြီးမိဘတွေကို ရိုသေကိုင်းရှိုင်းပြီး ကျေးဇူးတင်တာပေါ့လေ"

မယ်မယ်က ခေါင်းတဆတ်ဆတ်ညိတ်ကာ

"အင်း လိမ္မာပါပေတယ်။ သိတတ်ပါပေတယ်။ ငုံးသားကိုအကုန်ပြုတ်ပစ်လိုက်ပြီလား။ ကျန်သေးယင် ခပ်လေးလေး ကလေးကြော်ပြီး ဆန်ပြုတ်နဲ့သောက်ရယင် တယ်အရသာရှိတာပဲ။ ငုံးသားပြုတ်က ကောင်းတော့ ကောင်းပါရဲ့။ ဒါပေမယ့် ဆန်ပြုတ်ကလေးနဲ့သောက်ရတာလောက် ကောင်းမှာမဟုတ်ဘူး"

နတ်ငှက်မယ်က လုပ်ပေးမည်ဟု ပြောကာ မီးဖိုထဲသို့ အမိန့်ပေးလိုက်သည်။

ထိုအတောအတွင်းတွင် မယ်မယ်ကသခင်မဝမ်အား ပြောသည်မှာ

"ညည်းကို အခေါ်လွှတ်လိုက်ရတာ တခြားကြောင့် မဟုတ်ဘူးအေ့။ နောက်လ လဆန်း နှစ်ရက်နေ့က ငှက်မယ်ရဲ့မွေးနေ့ ကျတယ်။ မနှစ်တမြန်နှစ်လောက် ကတည်းက သူ့မွေးနေ့ကို လုပ်ဖို့ပဲ စံအိမ်မှာလဲ လူစုံဘယ်၊ အရေးတကြီးကိစ္စလဲ ပေါ်စရာမရှိတော့ သူ့မွေးနေ့ကို လုပ်မလို့ စိတ်ကူးတယ်"

"ဟုတ်တယ်၊ ကျွန်မလဲ စိတ်ကူးထားမယ်။ မယ်မယ် လုပ်ချင်တယ်ဆိုယင် လုပ်တာပေါ့ မယ်မယ်"ဟု သခင်မဝမ်က ပြောလေ၏။

"အယင်တုန်းကတော့ မွေးနေ့ကျင်းပတယ်ဆိုယင် တို့ကလဲလက်ဆောင်တွေဘာတွေပို့ပြီး ထုံးစံအတိုင်းသမရိုးကျ လုပ်လိုက်တာပဲအေ့။ ခုတော့ သမရိုးကျမလုပ်ဘဲ ထူးထူးဆန်းဆန်းလဲ ဖြစ်အောင် ပျော်လဲပျော်ရအောင် လုပ်မလို့ စိတ်ကူးထားတယ်"

"လုပ်ပါ၊ မယ်မယ်စိတ်တိုင်းကျလုပ်ပါ"

"မယ်မယ်စိတ်ကူးတာက ဆင်းရဲသားများလုပ်ကြသလို လူတိုင်း တပိုက်ဆံထည့်၊ ပြီးတော့ စားသောက်ကြ။ အဲဒီလိုလုပ်မလို့စိတ်ကူးထား တယ်။ ဘယ့်နှယ်လဲ။ မကောင်းဘူးလား"

"ကောင်းပါတယ် မယ်မယ်။ ဘယ်လိုလုပ်ချင်ပါသလဲ"

မယ်မယ်သည် အထူး စိတ်သက်ရှင်လန်းလျက်ရှိကာ ဒေါ်လေး ဆွေ့၊ ဒေါ်လေးဆင့်နှင့် မိန်းမပျိုများအပြင် ပေါက်ယုနှင့် ကျီချန်၏ မိန်းမ မမယုနှင့် လိုင်တော့ စသည့် ပစ္စည်းထိန်းတို့၏ ဇနီးများကိုပါ အခေါ်လွှတ်လိုက်လေ၏။ အစေခံတော်များမှာလည်း မယ်မယ်၏ ဝတ်ကူးသွားကာ အထူးပျော်မြူးကာ သူတို့တစ်တွေကိုသိုက်၍ ခေါ်လေ၏။ ထမင်းတစ်ဝိုင်းစာမျှကြာသည့်အခါ၌ကား မယ်မယ်၏ ခန်းဆောင်ထဲတွင် သခင်မများနှင့်အစေခံတော်များအထိ လူကြီးလူငယ်အားလုံး စုံလင်လျက် ရှိလေပြီ။

ဒေါ်လေးဆွေ့နှင့်မယ်မယ်တို့က အထူးသီးသန့်နေရာ ဖြစ်သည့် ထိပ်ဆုံးနေရာတွင်ထိုင်ကြလေ၏၊ ဒေါ်လေးဆင့်နှင့် သခင်မ ဝမ်တို့က တံခါးပေါက်အနီးရှိ ကုလားထိုင်များတွင် ထိုင်ကြသည်။ ပေါက်ကြည် နှင့် အခြားမိန်းမပျိုလေးငါးယောက်က ခုတင်မီးဖိုကြီးပေါ်တွင်ထိုင်ကြ လေ၏၊ ပေါက်ယုမှာ မယ်မယ့်အနီးတွင် ထိုင်ပြီး အခြားလူများမှာ ကြမ်းပြင်တွင် မတ်တတ်ရပ်လျက်ရှိကြလေ၏။

မယ်မယ်သည် လိုင်တာ၏ အမေအိုကြီးနှင့် အခြား အထိန်းတော် အဘွားကြီးများထိုင်ရန်အတွက် ခွေးခြေများကို အယူခိုင်းလိုက်လေ၏။ မိမိတို့သားသမီးများထက် မိဘတို့ ယက်ထက်လုပ်ကိုင်လာခဲ့သည့် အစေ တော်၊ အထိန်းတော်များကို နေရာထိုင်ခင်းဦးစားပေးခြင်းမှာ မိမိတို့ စံအိမ်၏ထုံးစံဖြစ်လေ၏။ သို့ဖြင့် နတ်ငှက်မယ်နှင့် မမယုမှာကြမ်းပြင်တွင် ရပ်လျက်ရှိကြပြီး လိုင်တာ၏ အမေအိုကြီးနှင့် အခြား အသက်ကြီးသည့် အထိန်းတော်၊ အစေတော်တို့မှာငြင်းဆန်နေကြသေးသည့်တိုင်နောက်ဆုံး တွင် ခွေးခြေများပေါ်တွင် ထိုင်ကြရလေ၏။

ထိုနောက် မယ်မယ်သည် သူ့အစီအစဉ်ကို ပြောပြလေ၏။ အား လုံးကလည်းဆန်းသစ်သော မယ်မယ်၏ အကြံကို သဘောကျကြလေ၏။





နတ်ငှက်မယ် ကိုချစ်သူများကလည်း ထိုအကြံအစည်ကိုသဘောကျလျက် သူ့ကိုကြောက်သူများကလည်း မျက်နှာလိုအားရ လုပ်သည့် အနေဖြင့် ထိုအကြံအစည်ကို လက်ခံကြလေ၏။ ထို့ပြင် ပါဝင်ရမည့် ငွေကလည်း မများလှသဖြင့် အားလုံးကပင် အားတက်သရောထည့်ဝင်ကြလေ၏။

မယ်မယ်က ငွေစင်နှစ်ဆယ်ကျပ်သားထည့်လေ၏။

"ကျွန်မကလဲ ငွေစင်နှစ်ဆယ်ကျပ်သားထည့်ပါ့မယ်" ဟု ဒေါ် လေးဆွေ့က ပြော၏။

သခင်မဝမ်နှင့် သခင်မဆင့်တို့ကမူ

"ကျွန်မတို့ကတော့ မယ်မယ်တို့နဲ့ပြိုင်ပြီး ထည့်လို့ မကောင်းဘူး။ ကျွန်မတို့က မယ်မယ်တို့ထက် အဆင့်နိမ့်တော့ ဆယ့်ခြောက်ကျပ်သားစီ ဆိုယင် တော်ရောပေါ့"

မမယုနှင့် လီဝမ်းတို့က

"ကျွန်မတို့က ဒီထက် တစ်ဆင့်နိမ့်နေတော့ ဆယ့်နှစ်ကျပ်သားစီ ပေါ့"

မယ်မယ်က လီဝမ်းဘက်သို့လှည့်ကာ

"ညည်းကတော့ မုဆိုးမဆိုတော့ ဒီလောက် မထည့်ပါနဲ့အေ။ ညည်းကို ညှစ်ထုတ်သလိုဖြစ်နေပါ့မယ်။ ဒီတော့ ညည်းဝေစုကို ငါကပဲ ထည့်လိုက်ပါ့မယ်"

နတ်ငှက်မယ်က ရယ်လိုက်လျက်

"အရမ်းလဲလျှော့မနေနဲ့ဦး မယ်မယ်ရဲ့။ ဘယ်လောက်ကုန်ကျမလဲ ဆိုတာကို တွက်ကြည့်လိုက်ဦး။ မယ်မယ်မှာ နောက်ထပ် စိုက်ထည့်ရမယ့် အစုနှစ်စုလောက် ကျန်သေးတယ်။ ဒီတော့ သူ့ကို ဆယ့်နှစ်ကျပ်သား ထည့်မယ်လို့ ချက်ချင်းပြောလို့မဖြစ်သေးဘူးထင်တယ်။ ခုသာ မယ်မယ်က စိတ်ကောင်းဝင်နေလို့ ရက်ရက်ရောရော ထည့်နေတာ။ နောက်ကျယင် အင်း ဟိုပျံလွှာမငှက်မယ်အတွက် ငါမှာငွေတွေတော်တော်ကုန်သွားပြီ လို့ နောင်တရနေဦးမယ်။ ပြီးတော့ တစ်ခုလဲရှိသေးတယ်။ မယ်မယ်တို့က စိုက်တာတော့ဟုတ်ပါရဲ့။ တော်တော်ကြာ အကုန်အကျတွေသိပ်များနေ

ပြီး ငှက်မယ်က အဲဒါတွေထက်နှစ်ဆသုံးဆလောက်စိုက်နေရယင်လဲမဖြစ်သေးဘူး''

အားလုံးက ဝိုင်းရယ်လိုက်သည်။ မယ်မယ်က

''ဒီတော့ ညည်းက ဘယ်လိုလုပ်ချင်လို့လဲ''

''ငှက်မယ်ရဲ့ မွေးနေ့က လုံတော့ လုံပါသေးတယ်။ ဒါပေမယ့် ငှက်မယ်ဆာတော့ တော်တော်ပျော်နေပြီ။ ခုပဲကြည့်လေ၊ ငှက်မယ်ဆာ တစ်ပြားတစ်ချပ်မှမကုန်ရဘဲ မွေးနေ့ပွဲလုပ်ဖြစ်တော့မယ်။ဒီတော့ ငှက်မယ် အားနာပါတယ်။ ဒါကြောင့် မလေးကို ထိုက်ယုအစား ငှက်မယ်ကစိုက်ထည့်ပါ့မယ်။ အဲဒီနေ့ကျယင် စားစရာရှိတာကိုတော့ ငှက်မယ်က သူ့အတွက် ပိုစားလိုက်မှာပေါ့၊ မဟုတ်ဖူးလား''

ဒေါ်လေးဝမ်နှင့် အခြားသူများက သဘောတူကျသဖြင့်မယ်မယ်ကလည်း သဘောတူလိုက်လေ၏။ နတ်ငှက်မယ်ကဆက်၍

''ပြီးတော့ နောက်တစ်ခုလဲ ပြောစရာရှိသေးတယ်။ မယ်မယ်မှာ သူကိုယ်တိုင်က ငွေနှစ်ကျပ်သားလဲထည့်တယ်၊ ထိုက်ယုနဲ့ပေါက်ယုအတွက်လဲထည့်တယ်။ ဒေါ်လေးဆွေ့ဆိုယင်လဲ သူ့ကိုယ်တိုင်အတွက်နှစ်ဆယ်ကျပ်သားအပြင် ပေါက်ကြည်အတွက် ထည့်ရသေးတယ်။ ဒါကြောင့် တရားပါတယ်။ ဒါပေမယ့် ဒေါ်လေးဝမ်နဲ့ ဒေါ်လေးဆင့်တို့ဆာတော့ သူတို့အတွက် ဆယ့်ခြောက်ကျပ်သားစီလောက်နဲ့ပဲ ပြီးသွားတာကတော့ မတရားဘူးထင်တယ်။ မယ်မယ့်ဘက်ကနေပြီး ကြည့်ယင် နာတာပေါ့၊ မဟုတ်ဖူးလား''

မယ်မယ်က အားရပါးရ ရယ်လိုက်လျက်

''ဒီပျံလွှားမ ဒီတစ်ခါတော့ ငါ့ဘက်က ပါသွားပဲ။ ဟုတ်တယ်၊ ဟုတ်တယ်၊ ဒီတစ်ခါ သူတို့ ငါ့ကိုညာချသွားကြတာ''

''ဒီတော့ မယ်မယ်က ပေါက်ယုနဲ့ထိုက်ယုကို သူတို့ ခွဲပေးလိုက်ပေါ့ မယ်မယ်ရဲ့၊ သူတို့နှစ်ယောက် အတွက်ကို စိုက်ပေ့စေပေါ့''ဟု ငှက်မယ်က ပြောလေ၏။ မယ်မယ်က

''ဟုတ်တယ်၊ အဲဒါတရားတယ်။ ဒီလိုဆိုယင် ညည်းတို့နှစ်ယောက်က ပေါက်ယုနဲ့ထိုက်ယုအတွက် ထည့်ကြ''





လိုင်တ၏အမေအိုကြီးက မကျေနပ်ဟန်ဆောင်ကာ

''ဒါတော့ ဘယ်တရားမလဲ မယ်မယ်ရဲ့။ သခင်မဝမ်နဲ့ သခင်မဆင့်တို့ဘက်က ကျွန်မမခံနိုင်ဘူး။ တစ်ယောက်ကဆိုယင် မလေးငှက်မယ်ရဲ့ယောက္ခမ၊ တစ်ယောက်ကဆိုယင်လဲ အဒေါ်ဖြစ်ရဲ့သားမှ။ ဒီတော့ မလေးငှက်မယ်အနေနဲ့ဘက် လိုက်ချင်း လိုက်ယင် သူတို့ဘက် လိုက်ရမှာပေါ့။ ခုတော့ သူတို့သောက်မှမနီးစပ်ဘဲ မယ်မယ့်ဘက်က လိုက်နေတော့ ဘယ်တရားပါ့မလဲ''ဟု ပြောလိုက်သဖြင့် အားလုံးပွဲကျသွားကြလေ၏။ လိုင်တ၏ အမေက ဆက်၍

''မမယုနဲ့မမလီဝမ်းတို့က ဘတ်ယောက်ကို ဆယ့်နှစ်ကျပ်သားစီတဲ့။ ကျွန်မတို့ကျတော့ ဒီထက် နည်းရမှာပေါ့''

''ဒီလိုတော့လဲ မထွက်နဲ့အေ။ ညည်းတို့က မမယုတို့ လီဝမ်းတို့ထက် တစ်ဆင့်နိမ့်တာ မှန်ပေမယ့် ညည်းတို့က သူဌေးတွေပါ။ ငါသိပါတယ်။ ညည်းတို့အာ သူတို့ထက်တောင် ချမ်းသာလိမ့်ဦးမယ်။ ဒီတော့ ညည်းတို့က တစ်ဆင့်နိမ့်နေပေမယ့် အတူတူထည့်ပေါ့''

ဤတွင် ပစ္စည်းထိန်းများ၏မိန်းမများကလည်း သဘောတူသွားကြလေ၏။

''ကလေးတွေကိုတော့ သိပ်မထည့်ပါစေနဲ့အေ။ စဘိအဖြစ် သူတို့ရတဲ့လစာ တစ်လစာလောက်ဆိုယင် တော်ပြီ။ ကဲ ယွန်ယွမ်းရေ ညည်းတို့ ဘယ်လောက်ထည့်ချင်ကြသလဲ၊ ညည်းတို့ဘာသာညည်းတို့ဘိုင်ပင်ပြီး ထည့်ကြ''ဟု မယ်မယ်က ပြောလေ၏။

ယွန်ယွမ်းသည် အပြင်သို့ထွက်သွားပြီး ခဏကြာလျှင် ပင်အဲ၊ မာလာ၊ ဆိုင်ရှုနှင့် အခြား အစေခံများနှင့်အတူ ပြန်၍ဝင်လာလေ၏။ အချို့က ငွေနှစ်ကျပ်သား၊ အချို့က တစ်ကျပ်သား ထည့်မည်ဟု ပြောကြလေ၏။

မယ်မယ်က ပင်အဲဘက်သို့လှည့်၍

''ညည်းက ဘာဖြစ်လို့ ဒီထဲမှာစုပြီး ထည့်ဘာလဲ။ ကိုယ့်သခင်မပဲဟာ။ သတ်သတ်ထည့်ပါ့လား။ ကိုယ့်သခင်မမွေးနေ့ပဲ။ အထူး လက်ဆောင်ပေးချင်ယင်လဲ ပေးပေါ့အေ''

ပင်အဲက ရှင်မြူးစွာဖြင့်

"ကျွန်မတစ်ယောက်ထဲသတ်သတ် ပေးတာလဲ ရှိပါတယ် မယ်မယ်ရဲ့။ ပြီးတော့ ခုအများထဲမှာလဲ ထည့်ချင်သေးလို့ပါ"

"အေးအေး သာခုပါတော်"ဟု မယ်မယ်က ပြောလေ၏။

နတ်ငှက်မယ်က

"ခုဒီမှာလာတဲ့ လူတိုင်းကတော့ သိပ်ပြဿနာ မရှိလှပါဘူး။ ဒါပေမယ့် ယဉ်ကျေးသမှုအနေနဲ့ ဦးကြီးကျိချိန်ရဲ့ အမြောင်နှစ်ယောက်ကိုလဲ ပါမလားလို့ မေးချင်တယ်ထင်တယ်။ တော်တော်ကြာ သူတို့ကိုတော့ စာရင်းထဲမထည့်ဘူးဆိုပြီး စိတ်မကောင်းဖြစ်နေကြလိမ့်မယ်"

"ဟုတ်တာပေါ့အေ။ ကြည့်စမ်း။ လုံးလုံးကိုမေ့နေတယ်။ မအားလို့မလာတာထင်ပါရဲ့။ ဟဲ့ တစ်ယောက် သူတို့ကိုသွားခေါ်ချည်စမ်း"

အစေတော်မိန်းကလေးတစ်ယောက် ထွက်သွားပြီး မကြာမီ ပြန်ရောက်လာကာ

"သူတို့နှစ်ယောက်က တစ်ယောက်ကို ငွေနှစ်ကျပ်သားစီထည့်မယ်လို့ပြောလိုက်ပါတယ်"ဟု ပြောလေ၏။

မယ်မယ်မှာ အားရကျေနပ်လျက် ရှိကာ

"ကဲကဲ စုတ်တံတစ်ချောင်းကိုယူပြီး ဘယ်လောက်ရသလဲဆိုတာ ပေါင်းကြည့်ကြစမ်း"

မမယုက နတ်ငှက်မယ်၏အနားသို့ကပ်ကာ လေသံကလေးဖြင့်

"ငှက်မယ်တို့များ တယ်လဲ တတ်နိုင်ပါးပရဲ့နော်။ သူ့မွေးနေ့အတွက် ယောက္ခမတော့ရော၊ အထိန်းတော်တွေဆီကရော လိုးထုတ်ရိုတင်မကသေးဘူး။ ဘာမရှိတဲ့အမြောင် နှစ်ယောက်ဆီကတောင် ပါးပါးလှာမိအောင် လှူလိုက်သေးတယ်"

"အံမယ်လေး မမယုက ဘာသိလို့လဲ၊ သူတို့လား ဆင်းရဲတာ။ တခြားလူတွေကို ပေးကမ်းနေတာမှ မမယု မသိဘဲကိုး။ ခုတော့ တခြားလူတော့ ပေးကမ်းပစ်မယ့်အတူ ဖိတ်ချင်းဖိတ် အိတ်ထဲဖိတ်တော့ ကောင်းတာပေါ့"





ထိုအချိန်၌ကား ထည့်ဝင်သည့်စာရင်းကိုပေါင်းပြီးလေပြီ။ စုစုပေါင်း ငွေစင် ဆယ်ပိဿာနှင့် ငါးဆယ်ကျပ်သား ရှိလေ၏။

"အင်း တစ်နေ့စာ စားသောက်ပွဲခင်းဖို့နဲ့ ဇာတ်ကဖို့တော့ လုံလောက်ပါတယ်အေ့။ ပိုတောင် နေသေးတယ်"ဟု မယ်မယ်က ပြောလေ၏။

မမယုက

"ကျွန်မတို့က အပြင်လူသိပ်ဖိတ်မှာမဟုတ်တော့ အစားအသောက်အတွက် သိပ်ကုန်စရာမရှိပါဘူး မယ်မယ်။ နှစ်ရက်သုံးရက်တောင်လုပ်လို့ရပါတယ်။ ပြီးတော့ ဇာတ်ပွဲတွေအတွက်ကလဲ ဘာကုန်ရောရှိတာမှတ်လို့။ စံအိမ်မှာ ငှားထားတဲ့ကချေသည်တွေရှိပြီးသားပဲ ဥစ္စာ"

"ငှက်မယ်ကြိုက်တဲ့ ဇာတ်ငှားပါစေအေ"ဟု မယ်မယ်က ပြောလေ၏။

နတ်ငှက်မယ်က

"ငှက်မယ်တို့ဆီမှာရှိတဲ့ ကချေသည်တွေကိုတော့ ခဏခဏကြည့်ဖူးကြားဖူးနေပြီမဟုတ်လား။ ဒီတော့ ငွေနည်းနည်းအကုန်ခံပြီး အပြင်က ကချေသည်တွေကို ငှားတာပေါ့"

"ဒီကိစ္စတွေအားလုံးအတွက် မမယုက စီစဉ်လိုက်အေ။ ငှက်မယ်ကို ဒီတစ်ခါ အနားပေးလိုက်၊ အဲဒီနေ့မှ ငှက်မယ် စိတ်ရှိလက်ရှိ ပျော်ပါစေ"

မမယုကလည်း စီစဉ်ပေးမည်ဟုသဘောတူလိုက်လေ၏။ ထိုနောက် သူတို့အသိုက်သည် စကားပြောဆိုလျက်ရှိကြရာ မယ်မယ်ပင်ပန်းလာသည့်အခါတွင်မှ တဖြည်းဖြည်း လူစုခွဲခဲ့ကြလေ၏။

မမယုသည် သခင်မဝမ်နှင့် သခင်မဆင့်တို့ကိုတွေ့ပြီးနောက် နတ်ငှက်မယ်ထံသို့ရောက်လာကာ မွေးနေ့အတွက် အစီအစဉ်များကို လာရောက်တိုင်ပင်လေ၏။ နတ်ငှက်မယ်က

"ငှက်မယ်ကိုတော့ မေးမနေနဲ့လေ။ မယ်မယ်သဘောကျသလိုသာ လုပ်ပါစေ။ သူ့စိတ်ကြိုက်လုပ်ပေးလိုက်ပါ"

"ဟောဒီ ပျံလွှားမငှက်မယ်ဟာ တကယ်ကိုကံကောင်းတယ်။ မယ်မယ်ကနေခါ တယ်ဆိုတော့ ဘာကိစ္စများရှိလို့ပါလိမ့်လို့ တထင့်ထင့်နဲ့။ ယက်စသတ်တော့မှ ဒီကိစ္စဖြစ်နေတာကိုး။ ကြည့်ပါဦး၊ ခုတော့ ပိုက်ဆံထည့်ရုံနဲ့ ကိစ္စမပြီးသေးဘူး။ မွေးနေ့ပွဲလုပ်ဖို့ကိစ္စတွေကိုလဲ လိုက်ပြီး စီစဉ်ရဦးမတဲ့၊ ကဲ ပြောစမ်း၊ လိုက်လုပ်ပေးရတဲ့အတွက် မမယုကို ဘယ်လိုများကျေးဇူးဆပ်မှာလဲ"

နတ်ငှက်မယ်က ရယ်သွမ်းသွေးလိုက်လျက်

"တော်ပါစမ်းပါ။ ဘာဖြစ်လို့ ကျေးဇူးဆပ်ရမှာလဲ။ ငှက်မယ်ကမှ အလုပ်ခိုင်းတာမဟုတ်ဘာ။ ပင်ပန်းဘယ်ထင်ယင် မလုပ်နဲ့လေ။ မယ်မယ်ဆီကိုသွားပြီး ကျွန်မသော့ မလုပ်ချင်ဘူး၊ တစ်ယောက်ယောက်ကိုအလုပ်ခိုင်းပါလို့ သွားပြောချည်ပါလား"

ကြည့်စမ်း ကြည့်စမ်း မမယုကို သက်သက် ချောက်တွန်းနေတာပေါ့လေ။ ငှက်မယ် သိပ်မထန်နဲ့နော်။ ကောင်းကောင်းသတိထား။ ယလွန်းတော့ ကျွတ်သတဲ့ သိလား"

သူတို့နှစ်ယောက်သည် အတန်ကြာစကားပြောဆိုပြီးနောက် မမယုလည်း ပြန်လာခဲ့လေ၏။

နောက်တစ်နေ့မနက်၌ မမယုသည် ကိုယ်သက်သန့်စင်ပြီးနောက် အလှပြင်နေစဉ် မိမိထံသို့ ငှက်များရောက်လာလေ၏။

"ဘယ်သူလာပို့တာလဲ"

ယွန်းစံအိမ်ကြီးမှ ပစ္စည်းထိန်း လင်ချီရှောက်၏ မိန်းမလာပို့ကြောင်း အစေတော်များက ပြောလေ၏။ ဤတွင် မမယုသည် အစေတော်များက ပြောလေ၏။ ဤတွင် မမယုသည် အစေတော်များတန်းလျားတွင် စောင့်နေသည့် လင်ချီရှောက်၏မိန်းမကို အခေါ်ခိုင်းလိုက်လေ၏။ မမယုသည် သူ့ကို ခုံးခြေတစ်လုံးပေါ်တွင် အထိုင်ခိုင်းပြီးနောက် ခေါင်းဖြီးလျက်ရှိရာမှ





"အထုပ်ထဲမှာ ဘယ်လောက်ပါသလဲ"

"ကျွန်မတို့အစေခံတော်တွေစုလို့ ရတဲ့ငွေပါ။ သခင်မကြီးတွေနဲ့ သခင်မလေးတွေရဲ့ ငွေတွေမပါသေးပါဘူး"

ထိုစဉ် နောက်ထပ် အစေခံတော်များ ရောက်လာကြပြန်ကာ

"ဒေါ်သေးဆွေတို့ဆီက ပို့လိုက်တဲ့ ပိုက်ဆံတွေနဲ့ သခင်မလေးတွေ အပို့လွှတ်လိုက်တဲ့ ပိုက်ဆံတွေရောက်လာပါတယ်"

မမယုက ပြုံးလိုက်ရင်း

"ညည်းတို့ကောင်မတွေ ဘာမှနားမလည်ဘူး။ ဘာမဟုတ်တဲ့စကားတွေလောက်ကိုပဲ အမှတ်ရတယ်။ တကယ်အရေးကြီးတဲ့စကားကျတော့ အမှတ်မရဘူး။မနေ့က မယ်မယ်ပြောတာ မှတ်မိဘယ်မဟုတ်လား။ ခု မွေးနေ့ကိုလုပ်တာဟာ ဆင်းရဲသားများလုပ်သလို ရန်ပုံငွေကောက်ပြီး အပျော်သက်သက်လုပ်တာတဲ့။ ဒါပေမယ့် ညည်းတို့က ဒါကို တကယ်ထင်ပြီး ပြောနေကြတယ်၊ ကဲ ကဲ ပိုက်ဆံတွေ ငွေစတွေကို သွားယူချည်ကြ၊ သူတို့ကိုလဲ လက်ဖက်ရည်လေး ဘာလေးတိုက်ကြပါဦး"

အစေခံတော်များသည် ငွေစများထည့်ထားသည့် အထုပ်နှစ်ထုပ်ကို ယူလာကြလေ၏။ တစ်ထုပ်မှာ ပေါက်ကြည်နှင့်ဘိုက်ယုတို့၏ အတွက်ထည့်လိုက်သည့် ငွေစုများပင်ပါလေ၏။

"ဘယ်သူကျန်သေးသလဲ"

"မယ်မယ်ရယ်၊ သခင်မဆင့်ရယ်၊ သခင်မလေးတွေရယ်၊ ပြီးတော့ သူတို့အစေခံတော်တွေရယ် ကျန်ပါသေးတယ်"

"လီဝမ်းဆီကရော"

"ဟိုကျယင် မလေးငှက်မယ်က ထည့်မယ်လို့ပြောပါတယ်။သူတို့အားလုံး အဲဒီမှာ ရောက်နေကြပါပြီ"

အလှပြင်ပြီးနောက် မမယုသည် ရထားကို အထုတ်ခိုင်းကာ ယွန်းစံအိမ်ကြီးသို့ လာခဲ့လေ၏။ မမယုသည် ငွေထုပ်နှင့် အသင့်စောင့်နေသည့် နတ်ငှက်မယ်ကို ဝင်ခေါ်ခဲ့လေ၏။

"လူစုံကြပြီလား"

"ရုံပြီ။ ငွေတွေကို မြန်မြန်ယူသွားနော်။ အပျောက်အရှရှိယင် တာဝန်မယူနိုင်ဘူး"

နတ်ငှက်မယ်က ပြုံး၍ပြောလေ၏။

"ဟုတ်တယ်။ ဒီကလဲ ငှက်မယ်ကို သံသယဖြစ်တာမဟုတ်ဘူး။ နေတောင် ရည်တွက်ပြီး လက်ခံမှဖြစ်မှာ" ဟုဆိုကာ နတ်ငှက်မယ်ရှေ့တွင် အထုပ်ကို ဖြေ၍ ရည်တွက်လေရာ လီဝမ်း၏ ဝေစုမပါသည်ကို တွေ့ရလေ၏။

"ဟောကြည့် မပြောဘူးလား။ ဘယ်မှာလဲ လီဝမ်းအတွက် ငွေစု"

"ခု ရသလောက်ဆိုယင် လောက်ပြီမဟုတ်လား မမယုရဲ့။ တစ်စု လောက်လိုနေတာကို ပြောမနေပါနဲ့တော့။ နောင်လိုဘော့မှ ထုတ်ပေး ယင် မဖြစ်ဖူးလား"

"အင်း မနေ့က လူတွေရှေ့ကျတော့ တကယ့်စေတနာရှင်ကြီးကျ နေတာပဲ။ ထည့်ပါ့မယ်လေး ဘာလေးနဲ့ ပြောသွားလိုက်တာ။ ရှန်းရှန်း ကိုဝေလို့။ ခုတော့ ဝေစုတစ်စုကို လျှော့ပါဆိုပြီး ကတ်သိ ဆတ်သတ် လုပ်နေတယ်ပေါ့။ မရဘူး။ မလျှော့နိုင်ဘူး။ မထည့်ယင်တော့ မယ်မယ့် ကို တိုင်မှာပဲ"

"ကြည့် ကြည့် သူ့အလုည့်ကျတော့ ဒီလိုပေါ့လေ။ ဟုတ်လား။ တော်ပြီ။ နောင်မှာ အရေးရှိယင်. ငှက်မယ်ဆီကိုလာပြီး အကူအညီ မတောင်းနဲ့။ ပေးကိုမပေးဘူး"

"ကြည့် ကြောက်တတ်တာကလဲလွန်ပါရော။ ကောင်းပြီ ဒီလိုဆို ယင် လျှော့လိုက်မယ်"

မမယုသည် ပင်အဲအတွက် ဝေစုကို ပြန်ထုတ်ပေးလိုက်ကာ

"ပင်အဲရေ၊ ရော့ဟော ညည်းအတွက် မယူပါဘူးဟယ်။ လိုယင် တို့ဘာသာတို့စိုက်ထည့်လိုက်ပါ့မယ်"

"နေပါစေ မမယုရယ်။ ယူသာထားလိုက်ပါ။ ပေးချင်တယ် ဆို ယင်လဲ့ သုံးလို့ပိုမှပြန်ပေးပေါ့"





"အင်း ညည်းက ညည်းသခင်မ လိမ်တာ ညာတာ ကျတော့ ခံတယ်။ ငါလာဘ်ထိုးတာကျတော့ လက်မခံဘူးပေါ့ဟုတ်လား" ဟုမမယု က ပြုံး၍ပြောလေ၏။

ထို့ကြောင့် ပင်အဲမှာလည်း သူထည့်ထားသည့်ငွေစုကို ပြန်ယူ လိုက်ရလေ၏။

"ညည်းသခင်မက သိပ်ကပ်စေးနဲတာပဲ။ သူ့မှာ ပိုက်ဆံတွေ ဒီလောက်ချမ်းသာနေတာ။ ဘာများလုပ်ပစ်တယ်မသိဘူး။ ဒီပိုက်ဆံတွေ ကို ခုမသုံးယင် သေမှ တလားထဲ အတူတူယူသွားပြီး သုံးပစ်တော့မယ် ထင်ပါရဲ့"

ထိုနောက် မယ်မယ်ကိုသွားရောက်၍ ဂရဝပြု နှုတ်ဆက်လေ၏။ အတန်ကြာစကားပြောဆိုပြီးနောက် ယုန်ယွမ်း၏ အခန်းသို့ သွားကာ မွေးနေ့နှင့်ပတ်သက်၍ မည်လို့စီစဉ်ထားကြောင်းကိုမေးမြန်းလေ၏။ ထိုသို့ တိုင်ပင်ပြီးနောက် ပြန်ကာနီးတွင် မမယုသည် ယုန်ယွမ်းထည့်ထားသည့် ငွေစင်နှစ်ကျပ်သားကို ပြန်ပေးကာ

"ညည်းပိုက်ဆံမလိုတော့ပါဘူးအေ"

မမယုသည် သခင်မဝမ်၏ အဆောင်သို့သွားကာ စကားစမြည် ပြောဆိုနေပြီးလျှင် သခင်မဝမ် ဘုရားရှိခိုးဆောင်သို့ ဝင်သွားသည်နှင့် ဆိုင်ယွန်းကို ခေါ်ကာ သူ့ငွေစုကိုလည်း ပြန်ပေးလေ၏။ ထိုနောက် နတ်ငှက်မယ် မရှိသည့်အတွက် အမြှောင်နှစ်ယောက်ဖြစ်သော ချောနှင့် ချုပ်တို့၏ ဝေစုများကိုလည်း ပြန်ပေးလိုက်လေ၏။ သူတို့ နှစ်ယောက်က ပြန်မယူရဲသဖြင့် ညင်းနေသည့်အခါတွင် မမယုက

"ညည်းတို့မှာ ချောင်လည်တာမဟုတ်ပါဘူးအေ။ ငါသိပါတယ်။ ငှက်မယ်သိလို့ဆူတယ်ဆိုယင်လဲ ငါရှင်းပြပါ့မယ်"

ထိုအခါကျမှ သူတို့နှစ်ယောက်သည် ကျေးဇူးတင်စွာဖြင့် ထိုဝေစု ကို ပြန်၍ယူကြလေ၏။

ကြာမီ နဝမသ လဆန်းနှစ်ရက်နေ့သို့ ရောက်လာခဲ့လေ၏။ မမယုသည် ဇာတ်ပွဲများကိုသာမက ကျွမ်းသည်များ၊ နဝင်းသည်များ အပြင် ယောကျ်ား မိန်းမ မျက်မမြင်စာဆော်ဆရာများကိုလည်း ခေါ်ထားရာ မွေးနေ့ပွဲကို အကြီးအကျယ် ပြင်ဆင်ထားကြောင်း ဥယျာဉ်ထဲရှိသူများ အားလုံးသိရှိပြီးဖြစ်လေ၏။ ထို့ကြောင့်မွေးနေ့ကို မျှော်လင့် စောင့်စား လျက်ရှိကြလေ၏။

လိဝမ်းက မိန်းမပျိုများအား

"ဒီနေ့ဟာ ကိုယ်တို့ ဂမုန်းနွယ်ကဗျာအဖွဲ့အစည်းအဝေး ရှိတဲ့ နေ့နော်။ ပေါက်ယုကတော့ မွေးနေ့ပွဲမှာသွားပြီး ပျော်ချင်တာနဲ့ကိုယ်တို့ ကဗျာအဖွဲ့အစည်းအဝေးကို မေ့နေလိမ့်မယ်ထင်တယ်"

လိဝမ်းသည် အစေတော် တစ်ယောက်ကိုခေါ်ကာ ပေါက်ယု အားအခေါ် လွှတ်လိုက်လေ၏။

ကြာလျှင် အစေတော် ပြန်လာကာ "မနက် အစောကြီးက တည်းကထွက်သွားတယ်လို့ မာလာက ပြောလိုက်ပါတယ်" ဟု ပြော လေ၏။

"မဖြစ်နိုင်တာပဲ။ ယောင်တောင်ပေါင်တောင်နဲ့ ဘာတွေ ပြော လိုက်မှန်းမသိပါဘူး" ဟု သူတို့ကဆိုကြ၏။

ထို့ကြောင့် အစေတော် ဆွဲမိုကို နောက်တစ်ကြိမ် လွှတ်လိုက် ပြန်ရာ ပေါက်ယု မနက်အစောကြီးကထွက်သွားသည်မှာ အမှန်တကယ် ဖြစ်ကြောင်း၊ သူနှင့်ရင်းနှီးသော မိတ်ဆွေတစ်ဦး ကွယ်လွန်သည့်အတွက် သွားရောက်မေးမြန်းကြောင်းဖြင့် ပြောလေ၏။

"မဖြစ်နိုင်ဘူး။ ဒီလောက်အရေးကြီးတဲ့နေ့မှာ ဘယ်နည်းနဲ့မှ သူ အပြင်ကိုထွက်မှာမဟုတ်ဘူး။မာလာကို ငါကိုယ်တိုင်မေးကြည့်မယ်။သွား





မာလာကို ခေါ်ချည်စမ်း" ဟု တန်ချွန်းက ပြောလေ၏။ ထိုသို့ ပြောနေစဉ် မာလာရောက်လာလေ၏။

"ဘယ်လောက်အရေးကြီးတဲ့ကိစ္စရှိနေနေ ဒီနေ့ သူအပြင်ကိုသွား ဖို့မကောင်းဘူးအေ။ ပထမအချက်က ဒီနေ့ဟာ ငှက်မယ်ရဲ့ မွေးနေ့။ မယ်မယ်ကိုယ်တိုင်က စိတ်လက်ကြည်ကြည်လင်လင်နဲ့ အလုပ်ခိုင်းလို့စံအိမ် နှစ်အိမ်စလုံးမှာရှိတဲ့လူတွေအားလုံးက ပျော်ပွဲကြီးကို နွှဲလိုက်မယ်လို့အားခဲ ထားကြတာ။ နောက်တစ်ချက်က ဒီနေ့ဟာ တို့ကဗျာအဖွဲ့ရဲ့ ပထမဆုံး အစည်းအဝေးလုပ်မယ့်နေ့။ ခုတော့ ဘာမပြော ညာမပြောနဲ့ အပြင်ကို ထွက်သွားတယ်" ဟု လိဝမ်းကပြောလေ၏။

မာလာက ရှင်းပြသည်မှာ

"အရေးကြီးတဲ့ ကိစ္စရှိလို့ မနက်စောစောသွားရမယ်လို့ မနေ့ညက မာလာ့ကို ပြောတယ်။ပေ့ကျင်းကိုယ်တော်လေးရဲ့ စံအိမ်တော်ကို သွား မယ်တဲ့။ ဒါပေမယ့်ချက်ချင်းပြန်လာခဲ့မယ်လို့ပြောသွားပါတယ်။ မာလာ က မသွားဖို့ ပြောပါသေးတယ်။ ဒါပေမယ့် မသွားလို့မဖြစ်ဘူးတဲ့။ ဒီနေ့ မနက် အိပ်ရာကထတော့ မာလာ့ကို အသုဘမေးတဲ့အဝတ်အစားအထုတ် ခိုင်းတယ်။ကြည့်ရတာကတော့ပေကျင်းကိုယ်တော်လေးရဲ့ စံအိမ်တော်မှာ အရေးကြီးတဲ့ အပျိုတော်တစ်ယောက်ဆုံးတယ်လို့ထင်ရတာပဲ"

"အေးလေ၊ ဒီလိုဆိုယင်တော့သွားရမှာပေါ့ ဒါပေမယ့်ဘယ်လိုပဲ ဖြစ်ဖြစ် ခုအချိန်လောက်ဆိုယင် ပြန်ရောက်ဖို့ကောင်းပြီပေါ့" ဟု လိဝမ်း က ပြောလေ၏။

သို့ဖြင့် သူတို့တစ်သိုက်သည် ထိုကိစ္စကိုဖြေရှင်းရန်ဆွေးနွေးလျက် ရှိလေ၏။

"ဘာဖြစ်သလဲ၊ မလေးတို့ကဗျာဝိုင်းကို လုပ်မြဲလုပ်တာပေါ့။ သူ လာတော့ သူ့ကို ဒဏ်ရိုက်ပေါ့" အခြားသူများက အကြံ ပေးကြ လေ၏။

သို့ရာတွင် မယ်မယ်၏ အဆောင်မှ အခေါ် ရောက်လာသဖြင့် သူတို့အားလုံး လိုက်သွားကြရလေ၏။ ပေါက်ယု အပြင်သို့ ထွက်သွား

ကြောင်း မာလာက ပြောသည့်အခါတွင် မယ်မယ်မှာ စိတ်တိုလျက်ရှိလေ၏။ မယ်မယ်သည် ပေါက်ကြည်ကိုလှူလွှတ်၍ အခေါ်ခိုင်းလိုက်လေ၏။

ယမန်နေ့ညက ပေါက်ယုသည် စိတ်ထဲတွင် စနိုးစနောင့်ဖြစ်လျက်ရှိရာမှ သူ့သူငယ်တော်မိန်ယန်းကို ညွှန်ကြားချက်ပေးလျက် ရှိလေ၏။

"မနက်ဖြန် မနက်စောစော ငါ အပြင်ထွက်စရာ ရှိတယ်ကွ။ ဒီတော့ နောက်ဖေးဝင်းပေါက်မှာ မြင်းနှစ်စီး အသင့်ပြင်ထား။ တို့နဲ့တစ်ယောက်မှ မလိုက်ခဲ့ပေစေနဲ့။ မင်းနဲ့ငါပဲ သွားမယ်။ ပြီးတော့လဲ ပြောခဲ့၊ ပေကျင်းကိုယ်တော်လေးဆီကို အခစားသွားမယ်လို့ပြောခဲ့။ ငါ့ကိုလိုက်ရှာခိုင်းယင် မရှိဘူးလို့သာ ပြောလိုက်လို့။ ပြီးတော့ အပြင်ကို လိုက်ရှာမယ့်လူတွေကိုလဲ ထွက်ခွင့်မပေးနဲ့လို့ပြောခဲ့။ ပေကျင်းကိုယ်တော်လေးက ခေါ်ထားလို့ ကြာနေတယ်လို့။ ခဏကြာ အတတ်နိုင်ဆုံး မြန်မြန်ပြန်ရောက်အောင် လာခဲ့မယ်လို့ မှာသွားတယ်ဆိုတာလဲ ပြောခဲ့"

မိန်ယန်းသည် အကျိုးအကြောင်းကို ဘာမျှ မသိရသော်လည်း အမိန့်အတိုင်း ဆောင်ရွက်ရလေ၏၊ ထို့ကြောင့် နောက်တစ်နေ့မနက်တွင် နောက်ဖေးဝင်းပေါက်ဝတွင် မြင်းနှစ်စီးကို ကုန်းတင်၍ အသင့်ပြင်ထားရလေ၏၊

နံနက်ဝေလီဝေလင်းအချိန်၌ အသုဘဝေး အဝတ်အစားတို့ကို ဝတ်ဆင်ထားသည့် ပေါက်ယုသည် မလှယ်တံခါးမှ ထွက်လာကာအသင့်ပြင်ထားသော မြင်းပေါ်သို့ တက်လိုက်လေ၏။ စကားတစ်လုံးမျှ မပြောချေ။ ထို့နောက် မြင်းကျောပေါ်တွင် ကိုယ်ကိုရှေ့သို့ဝပ်ကာ လမ်းမတစ်လျှောက်စီးလာခဲ့လေ၏၊ မိန်ယန်းမှာ သူ့မြင်းပေါ်သို့အတင်းခုန်တက်ကာ သူ့သခင်ကိုမီရန် မြင်းကို ကြိမ်သွင်း၍ လိုက်လာခဲ့ရင်း

"ဘယ်သွားမလို့လဲ သခင်လေး"

"ဒီလမ်းက ဘယ်ကိုရောက်သလဲကွ"





"ဒါက မြောက်တံခါးကိုထွက်တဲ့ မင်းလမ်းမကြီးခင်ဗျ။ မြို့ရိုးအပြင်ဘက်မှာ ဘာမျှမရှိဘူး။ တိတ်ဆိတ်ခြောက်ကပ်နေမှာပေါ့"

ပေါက်ယုက ခေါင်းညိတ်လိုက်ရင်း

"အေး အဲဒီလို တိတ်ဆိတ်နေတဲ့နေရာမျိုးကိုပဲ သွားချင်တာ"

ပေါက်ယုသည် မြင်းကို ကြိမ်သွင်း၍ စီးလာခဲ့ရာ လမ်းများကို ချိုးကွေ့ပြီးနောက်တွင် မြောက်မြို့တံခါးကို ဖြတ်သန်းကာ မြို့ပြင် သို့ ရောက်လာခဲ့လေ၏၊ မိန်ယန်းမှာ နောက်မှလိုက်လာခဲ့ရင်း ဝေခွဲမရ ဖြစ်သည်ထက် ဖြစ်လာခဲ့လေပြီ။ သို့ဖြင့် စီးလာခဲ့ကြရာ ခုနစ်မိုင် ရှစ်မိုင်ခန့် ပေါက်လာခဲ့ပြီး လူနေအိမ်ခြေများမှာလည်း ကြဲသည်ထက် ကြဲလာခဲ့လေ၏။ ထိုစဉ် ပေါက်ယုသည် မြင်းဇက်ကို သပ်လိုက်ပြီး နောက်သို့ လှည့်၍

"ဒီနားတစ်ဝိုက်မှာ အမွှေးတိုင်တို့ဘာတို့ ဝယ်လို့ရမလား"

"ရမှာပါ။ သခင်လေးက ဘယ်လိုအမွှေးတိုင်မျိုး လိုချင်လို့လဲ"

ပေါက်ယုက အတန်ကြာ စဉ်းစားနေပြီးနောက်

"ဒီပြင်အမွှေးတိုင်ဆိုယင်တော့ သိပ်မကောင်းဘူးကွ နံ့သာဖြူအမွှေးတိုင်ဖြစ်ဖြစ်၊ ထရခက်အမွှေးတိုင်ဖြစ်ဖြစ်၊ သနပ်ခါး အမွှေးတိုင်ဖြစ်ဖြစ်"

"ဒီလောက်ကောင်းတဲ့ အမွှေးတိုင်ကတော့ ဒီနားမှာရမှာမဟုတ်ဘူး သခင်လေး"ဟု မိန်ယန်းက ပြုံးဖြီးဖြီးဖြင့် ပြောလေ၏။ ပေါက်ယု မျက်နှာ မသာမယာဖြစ်နေသည်ကို မြင်သည့်အခါတွင် မိန်ယန်းက

"ဘာဖြစ်လို့ အမွှေးတိုင်ကို ဒီလောက်အရေးတကြီး လိုနေတာလဲ သခင်လေး။ သခင်လေးရဲ့ လက်ဆွဲအိတ်ကလေးထဲမှာ အမွှေးတိုင်တွေ ပါတတ်တယ်မဟုတ်လား။ အဲဒီအိတ်ထဲကအမွှေးတိုင်တွေကိုသုံးပါလား"

ပေါက်ယုသည် ထိုအခါကျမှအမှတ်ရသွားကာ အင်္ကျီအတွင်းတွင် ထည့်လာသည့် နံ့သာအိတ်ကလေးကို ထုတ်ကြည့်လိုက်ရာ အထဲတွင် ထင်းရှူးသားအမွှေးတိုင် နှစ်ချောင်းကို အခန့်သင့်ပင် တွေ့ရလေ၏။

"အင်း၊ ထင်းရှူးသားအမွှေးတိုင်နဲ့ဆိုယင်တော့ သိပ်မကောင်းလှဘူး။ ဒါပေမယ့် ဘာမှဝယ်လို့မရတော့ ဒါနဲ့ပဲလုပ်ရမှာပဲလေ။ ဘယ်

ဝတ်နိုင်ပါ့မလဲ” ဟု တွေးလျက်ရှိလေ၏။ ထိုနောက် မိန်ယန်ဘက်သို့ လှည့်ကာ

“ဒီနားမှာ အမွေးတိုင်ထွန်းတဲ့ခုံများကောဝယ်လို့ မရဘူးလား”

“ဘာရယ် သခင်လေး။ အမွေးတိုင်ထွန်းတဲ့ခုံ ဟုတ်လား။ တောခေါင်ခေါင်မှာ ဘာဝယ်လို့ရမှာလဲ သခင်လေးရယ်။ လိုတယ်ဆိုယင် စောစောကပြောပါလား။ ကျွန်တော် ယူလာမှာပေါ့”

“ဒါတော့ပြောချိန် မရလို့ပေါ့ကွ။ ဒါတော့ကို ပြောချိန်ရနေယင် မြင်းကို ဒီလောက် တရကြမ်း စီးလာခဲ့ပါ့မလား”

မိန်ယန်းက အတန်ကြာ စဉ်းစားပြီးနောက်

“ဒီလိုဆိုယင် ဒီလိုလုပ်ပါလားသခင်လေး။ ဒီနားမှာတော့ဘာမှ ရမှာမဟုတ်ဘူး။ သခင်လေးကလဲ တော်တော်ကြာ ဟိုလာလိုဒီဟာလိုဖြစ်ဦးမှာ။ ဒီတော့ရှေ့နည်းနည်းဆက်စီးသွားယင် နဒီဒေဝီသီလရင်ကျောင်းတိုက်ရှိတယ်။ နောက်ထပ်နှစ်မိုင်လောက်စီးလိုက်ယင် ရောက်သွားမှာပဲ။ အဲဒီရောက်သင်တော့ သခင်လေးလိုချင်တာ အကုန်ရမှာပဲ”

“ဟုတ်လား။ နဒီဒေဝီသီလရင်ကျောင်းတိုက်က ဒီနားတွင်လား။ ဒီလိုဆိုယင် ကောင်းတာပေါ့ကွ။ လာ သွားမယ်”

ပေါက်ယုသည် ရှမ်းခနဲမြည်အောင် မြင်းကို ကြာပွတ်ဖြင့် တစ်ချက် ရိုက်လိုက်ပြီး နောက်ဘက်သို့လှည့်၍

“အဲဒီကျောင်းတိုက်ကဆရာလေးတွေက တို့စံအိမ်မှာဆန်ခံနေကျကွ၊ သူတို့ဆီမှာ မီးထွန်းခုံတစ်ခုံလောက်ငှားရမှာပဲ။ ရတာန်ကောင်းပါရဲ့”

“ကျွန်တော်တို့က သူတို့တကာတွေပဲ သခင်လေးရဲ့၊ သူတို့ကျောင်းမှာ လာပြီး အကူအညီတောင်းယင် မငြင်းတန်ကောင်းပါဘူး။ ဒါပေမယ့် ကျွန်တော်ကတော့ သခင်လေး ဒီနေ့ နဒီဒေဝီ ကျောင်းတိုက်ကို ဘာကြောင့် ဒီလောက် သွားချင်နေတယ်ဆိုတာကို ကျွန်တော် စဉ်းစားလို့မရဘူး။ ခါတိုင်းဆိုယင် ဒီကျောင်းတိုက်ကို သခင်လေး သိပ်မသွားချင်ဘူး မဟုတ်လား”

“ငါက အားအားရှိ နတ်တွေကိုကိုး၊ နတ်ကွန်းတွေ ဗိတ်ကျောင်းတွေဆောက်နေတဲ့ နလပိန်းတုံးတွေဆိုယင် သိပ်မုန်းတယ်ကွ။ ပိုက်ဆံကို





ရေလို ဖြုန်းနေကျတဲ့ မိန်းမစိုးတွေနဲ့ ဘာမှမသိတဲ့ မိန်းမကြီးတွေဟာ နတ်ဘစ်ပါးပါးရဲ့အမည်ကို မကြားလိုက်နဲ့၊ ကြားလိုက်တာနဲ့ဘစ်ပြိုင်နက် ဒီနတ်အကြောင်းကို ဘာမှမသိဘဲ နတ်ကွန်းတို့ဗိတ်ကျောင်းတို့ဆောက်လှူလိုက်တော့တာပဲ။ သူတို့မှာ အဲဒီနတ်နဲ့ပတ်သက်တဲ့ယုံတမ်းဒဏ္ဍာရီတွေပုံပြင်တွေကို အဟုတ်ကြီးထင်လို့။ ဥပမာ ဒီ နဒီဒေဝီကျောင်းတိုက်ဆိုပါတော့။ သူတို့က လို့ မြစ်ကိုစောင့်တဲ့နတ်သမီးကို ကိုးကွယ်ကြတယ်။ ဒါ့ကြောင့် အဲဒီ သီလရင်ကျောင်းတိုက်ကို နဒီဒေဝီ ကျောင်းတိုက်လို့ ခေါ်တာ။ ငါ့အထင်ကတော့ ရှေးတုန်းက အဲဒီအမည်နဲ့ နတ်သမီးဟာ တကယ်ရှိချင်မှ ရှိခဲ့မှာပါ။ အမှန်က အဲဒီနတ်သမီးက ရှေးခေတ်တုန်းက ကဗျာစာဆိုကြီး ဆောင်ဇုရဲ့ကဗျာထဲကကွ။ ဆောင်ဇု (သက္ကရာဇ် ၁၉၂-၂၃၂) က လို့ မြစ်ကို စောင့်တဲ့ နဒီဒေဝီအကြောင်းကို ကဗျာရေးခဲ့တယ်။ အဲဒီကဗျာထဲက နတ်သမီးကို နောက်လူတွေကအဟုတ်တကယ်ရှိတယ်ထင်ပြီး ရုပ်တုတွေထု၊ နတ်ကွန်းတွေဆောက်ပြီး ကိုးကွယ်ခဲ့ကြတယ်။ ဒါပေမယ့် ဘာပဲဖြစ်ဖြစ် ဒီနေ့တော့ ဒီ နဒီဒေဝီ နတ်ကွန်းနဲ့ ကျောင်းတိုက်ဟာ ငါ့အတွက်တော့ အသုံးတည့်နေတယ်ကွ။ ဒါကြောင့် အသုံးချရမယ်”

ထိုအချိန်၌ သူတို့နှစ်ယောက်မှာ သီလရင်ကျောင်းတိုက်တံခါးဝသို့ ရောက်လာခဲ့ကြလေပြီ။ တိုက်အုပ် သီလရင်ဆရာကြီးမှာ သူတို့ကိုမြင်သည့်အခါတွင် ကောင်းကင်မှ နဂါးကိုးကောင် ပျံဆင်းလာသည်ကိုမြင်ရသကဲ့သို့အံ့အားသင့်လျက်ရှိလေ၏။ ဆရာကြီးသည် သူတို့နှစ်ယောက်ကိုကောင်းမွန်စွာဆီးကြို ကာ အခိုင်းမိန်းမကြီး တစ်ယောက်ကိုလည်း မြင်းများကို အကြည့်ခိုင်းလိုက်လေ၏။ ပေါက်ယုသည် ကျောင်းတိုက်ပလ္လင်ခန်းသို့ဝင်လာကာ နဒီဒေဝီနတ်သမီးရုပ်တုကို အမြက်ဘနီးဖြင့်ကြည့်ရှုလျက်ရှိလေ၏။ ဦးချခြင်းကားမပြုချေ။ ရုပ်တုမှာ ရွှံ့ဖြင့်ပြုလုပ်ထားခြင်းဖြစ်သည့်တိုင် ရှေးစာဆို ဆောင်ဇု၏ ကဗျာထဲကကဲ့သို့ “တိမ်တင်မျောသား၊ ငွေနဂါးသို့၊ မြားချက်လန့်ပျံ၊ ငန်းရိုင်းဟန်သို့၊ ကြွက်သရေရှိပြီး၊ စိမ်းမြရေထက်၊ ကြာပွင့်တက်သို့၊ မနက်အခါ၊ မြူနှင်းလွှာမှ၊ သူရိယနေဝန်း၊ ရောင်ဝါထွန်းသို့” လှပတင့်တယ်လှပေ၏။

ပေါက်ယုသည် နဒီဒေဝီနတ်သမီး ရုပ်တုကို ငေးစိုက်ကြည့်ရင်း မျက်ရည်တွေ ဝဲကျလာလေ၏။

တိုက်အုပ်ဆရာကြီးက သူ့ကို လက်ဖက်ရည်တည်ခင်းသည့် အခါတွင် ပေါက်ယုက အမွှေးတိုင်ထွန်းခွင့်ပြုပါရန် ပြောလေ၏။ တိုက်အုပ်ဆရာကြီးသည် အမွှေးတိုင်ထွန်းခုံသာမက အမွှေးတိုင်များနှင့် မီးပူဇော်ရန် ပန်းစက္ကူများကိုလည်း ယူလာခဲ့လေ၏၊ သို့ရာတွင် ပေါက်ယုသည် ထိုပစ္စည်းများကိုမယူဘဲ အမွှေးတိုင် ထွန်းခုံကိုသာ ယူလာခဲ့ရလေ၏။ ပေါက်ယုသည် ကျောင်းတိုက်နောက်ဖေး တလင်းသန့်သန့် တစ်နေရာတွင် အမွှေးတိုင်ထွန်းခုံကို ယူသွားရန်ပြောလေ၏။ တလင်းသန့်သန့် မရှိသည့်အတွက် မိန်ယန်းသည် ပြန်လာလေ၏။

"ကျောင်းဘေးက ရေတွင်းအုတ်ခုံမှာဆိုယင်ကော သခင်လေး"

ပေါက်ယုက ခေါင်းညိတ်ပြကာ မိန်ယန်းနှင့်အတူ ရေတွင်းဆီသို့ လိုက်သွားခဲ့လေ၏။ မိန်ယန်းသည် အမွှေးတိုင်ထွန်းခုံကို ချပေးလိုက်ပြီးလျှင် နောက်သို့ဆုတ်နေလိုက်လေ၏။ ပေါက်ယုသည် နံ့သာအိတ်ထဲတွင်ထည့်လာသည့် ထင်းရှူးသားအမွှေးတိုင်နှစ်ချောင်းကို ထွန်းပြီးလျှင် မျက်လုံးတွင် မျက်ရည်တွေဝဲလျက်ရှိရာမှ ဦးခိုက်ပူဇော်လျက် ရှိလေ၏။ ထို့နောက် မိန်ယန်းဘက်သို့လှည့်ကာ အမွှေးတိုင်ထွန်းခုံကို ပြန်ပေးရန် ပြောလေ၏၊ သို့ရာတွင် မိန်ယန်းသည် အမွှေးတိုင်ထွန်းခုံကို မယူနိုင်သေးဘဲ အမွှေးတိုင်ရှေ့တွင် ဒူးတုပ်ထိုင်ချလိုက်ကာ

"ကျွန်တော်မိန်ယန်းဟာ သခင်လေးပေါက်ယုဆီမှာ နှစ်ပေါင်းများစွာ အမှုထမ်းခဲ့သူ ဖြစ်တဲ့အလျောက် သခင်လေးရဲ့ ကိစ္စအဝဝကို အကုန်အစင်သိသူဖြစ်ပါတယ်၊ နဒီဒေဝီ သခင်မခင်ဗျား။ ဒါပေမယ့်ဒီနေ့ သခင်မကို ဘာကြောင့်လာပြီး ပူဇော်ပသခြင်း ပြုတယ်ဆိုတာကိုတော့ ကျွန်တော်မိန်ယန်း လုံးဝမသိပါခင်ဗျား။ မေးလဲမမေးရဲပါ နဒီဒေဝီ သခင်မခင်ဗျား၊ ဒီနေ့ ကျွန်တော့်သခင်ပေါက်ယု လာရောက်ပူဇော်ခြင်းပြုတဲ့ နဒီဒေဝီ သခင်မခင်ဗျား။ သခင်မရဲ့အမည်နာမကို ယခင်ကကျွန်တော် ကောင်းစွာမကြားခဲ့ဖူးသော်လဲ သခင်မဟာ ကောင်းကင်မှာသော်လည်းကောင်း၊ မြေကြီးမှာသော် လည်းကောင်း စိုးပိုင်သူ မရှိတဲ့





နတ်မိမယ်တစ်ဦးဖြစ်တယ်လို့ ကျွန်တော်ထင်မိပါတယ်ဗျား။ ဒါတွင်မက အသိဉာဏ်ပညာမှာသော်လည်းကောင်း၊ အလှအပမှာသော်လည်းကောင်း တုနှိုင်းမရသူတစ်ဦးဖြစ်တယ်လို့ ကျွန်တော် ထင်မိပါတယ်။ ကျွန်တော့်သခင်လေးဟာ သူလိုချင်တဲ့ဆုကို သခင်မထံမှာ ထုတ်ဖော်တောင်းဆိုလို့ မဖြစ်တဲ့အတွက် ကျွန်တော်ကပဲ သူ့ကိုယ်စား ဆုတောင်းပါရစေဗျား"

"သခင်မဟာ ဖိုသတ္တဝါတို့နဲ့ ကင်းဝေးစွာ နေထိုင်သည့်တိုင် သခင်မရဲ့ မွှေးပျံ့တဲ့လိပ်ပြာဟာ အတွေ့အားရှိနဲ့ သနားကရုဏာတို့ ရှိခဲ့ယင် သခင်မကိုတောင့်တနေတဲ့ ကျွန်တော့်သခင်လေးဆီကို မကြာခဏ လာရောက် ကိုယ်ထင်ပြတော်မူပါ သခင်မခင်ဗျား။ ဤဘဝမှ စုတေ မနေ သေလွန်ပြီးဖြစ်လို့ နောက်ဘဝကိုရောက်တဲ့အခါမှာလဲ ကျွန်တော့်သခင်လေးကို မျက်ခုံးမွှေးမည်းညစ်ညစ် မုတ်ဆိတ်ဗရပျစ်နဲ့ ယောကျ်ားကြီးတစ်ယောက် ဖြစ်မယ့်အစား သခင်မတို့လို ချောချောလှလှ မိန်းကလေး တစ်ယောက်ဖြစ်အောင် ကူညီမှိုင်းမတော်မူပါ နဒီဒေဝီ သခင်မခင်ဗျား"

ဤသို့ဆုတောင်းကာ မိန်ယန်းသည် အကြိမ်ပေါင်းများစွာဦးချပြီးနောက် မတ်တတ်ရပ်လိုက်လေ၏။ ပေါက်ယုမှာ သူ့တပည့်ကျော်၏ ဆုတောင်းသံကြောင့် အားရပါးရရယ်လိုက်မိရာက မိန်ယန်း၏ပခုံးကို တစ်ချက်ပိတ်ကန်လိုက်ပြီးလျှင်

"သောက်ကန်းမသား၊ ဘာတွေ လျှောက်ဆုတောင်းနေတာလဲ။ ငါ့အပေါ်မှာဘဲ့လို့နားထောင်နေတာ၊ လူတွေကြားယင် ရယ်လိမ့်မယ်"

မိန်ယန်းသည် အမွှေးတိုင်ထွန်းခုံကို ကောက်ယူလိုက်၏။ ထို့နောက် ဆရာတပည့်နှစ်ယောက်သည် ကျောင်းတိုက်ဘက်သို့ပြန်လာခဲ့ကြလေ၏။

"တိုက်အုပ်ဆရာကြီးကို ကျွန်တော် ပြောခဲ့တယ်၊ သခင်လေး မနက်အစောကြီးကထွက်လာတာမို့ ဘာမှ မစားရသေးဘူးလို့။ ဒါကြောင့် တစ်ခုခုတော့ကျွေးပါလို့ ပြောခဲ့တယ်၊ ဒီတော့ သခင်လေး နည်းနည်းပါးပါးတော့စားဦးပေါ့။ ကျွန်တော်သိပါတယ်၊ ဒီနေ့ စံအိမ်မှာ စားသောက်ပွဲကြီးလုပ်ပြီး ဆူဆူညံညံလုပ်တာတွေ မကြားချင်တာနဲ့ သခင်လေးရှောင်ထွက်လာခဲ့တာမဟုတ်သား။ ဒီမှာဆိုတော့ တိတ်တိတ်

ဆိတ်ဆိတ်ရှိတော့ သမားဓိရတာပေါ့။ ဒါပေမယ့် ဗိုက်ထဲမှာအစာမရှိလို့ကတော့ ဘာကိုမှအာရုံရနိုင်မှာမဟုတ်ဘူး သခင်လေး”

“စားသောက်ပွဲကြီးတောင် ရှောင်ထွက်လာတာပဲကွာ၊ ဒီမှာ ဟင်းသီးဟင်းရွက်ဇလေးနဲ့ သက်သတ်လွတ်တစ်ခုခုရရင် တော်လောက်ပါပြီ”

“ကောင်းတယ်၊ ဒါပေမယ့် တစ်ခုတော့ရှိတယ်သခင်လေး။ မွေးနေ့ပွဲမရှိယင်တော့ ကိစ္စမရှိပါဘူး၊ ပြန်ချင်တဲ့အချိန်ကျမှပြန်လို့ရပါတယ်။ ဒါပေမယ့် ပွဲရှိနေတော့ သိပ်စိတ်ပူနေကြလိမ့်မယ်။ ဒီတော့ ကျွန်တော်တို့ မြန်မြန်ပြန်တာကောင်းတယ် သခင်လေး။ ကျွန်တော်တို့ မြန်မြန်ပြန်ယင် မယ်မယ်နဲ့ သခင်မဝမ်တို့ စိတ်အေးရမယ်။ နောက်တစ်ချက်က သခင်လေးလဲ ဒီမှာလာပြီး စိတ်ကြိုက်ပူဇော်ကန်တော့ရပြီးပြီ၊ ဒီလောက်ဆိုယင် ကျေနပ်သောက်ရောပေါ့။ တကယ်လို့ သခင်လေး အိမ်ပြန်ပြီး မွေးနေ့မှာ စားလိုသောက်လို၊ ပျော်လို့ ပါးလို့ ဆိုယင် လူကြီးမိဘစကားကိုလဲ နားထောင်ရာရောက်တယ်၊ သူတို့ကိုလဲ စိတ်ချမ်းသာမှုရအောင်လုပ်ရာရောက်တယ်။ တကယ်လို့ သခင်လေး ဒီမှာ ကြာကြာနေမယ်ဆိုယင် မယ်မယ်တို့သခင်ကြီးမင်တို့ စိတ်ဆင်းရဲအောင် လုပ်သလိုဖြစ်တဲ့အတွက် သခင်လေးလာပူဇော်တဲ့ နဒီဒေဝီလဲ စိတ်မကောင်းဖြစ်ရမယ်။ ကျွန်တော်ပြောတာ မဟုတ်ဘူးလား”

ပေါက်ယုကပြုံးလိုက်ရ၏။

“မင်း ဘာ့ကြောင့်ပြောနေတယ်ဆိုတာ ငါသိပါတယ်ကွာ။ မင်းက ငါနဲ့လိုက်လာမိတော့ စံအိမ်ရောက်ယင် အရိုက်ခံရတော့မှာကို တွေးပြီးကြောက်တာနဲ့ ငါ့ကို စကားကြီး စကားကျယ်တွေပြောပြီး အပြန်ခိုင်းနေတာမဟုတ်လား။ စိတ်ချပါကွ၊ ဒီမှာကြာကြာမနေပါဘူး။ ခဏနေယင် ပြန်ပြီး မွေးနေ့ပွဲသွားမှာပါ။ ဒီမှာ တစ်နေ့လုံးနေမယ်လို့ ငါဘယ်တုန်းကပြောလို့လဲ။ ကဲ ခု ငါ့ကိစ္စပြီးပြီ၊ အဘွားကြီးတွေ တထင့်ထင့်ဖြစ်မနေအောင် မြန်မြန်ပြန်ကြမယ်။ ကျေနပ်ဘယ်မဟုတ်လား”

“အကောင်းဆုံးပေါ့ သခင်လေး”





သူတို့နှစ်ယောက်သည် ကျောင်းတိုက်ခန်းမကြီးထဲသို့ ဝင်လာခဲ့ကြသည်တွင် တိုက်အုပ်ဆရာတော်ကြီးသည် သတ်သတ်လွတ်တစ်ပွဲကို အသင့်ပြင်ထားသည်ကို တွေ့ရလေ၏။ သူတို့နှစ်ယောက်သည် အနည်းငယ်စီသာစားသောက်ပြီးနောက် မြင်းပေါ်သို့ တက်စီးကာ မြို့သို့ပြန်လာခဲ့ကြလေ၏။

“သခင်လေး၊ သိပ်စီးနဲ့နော်၊ မြဲမြဲကိုင်ထား။ ဒီမြင်းက သိပ်မကျင့်ရသေးဘူး။ ဇက်ကိုမြဲမြဲဆုပ်ထား” ဟု မိန်းယန်းက နောက်မှတဖွဖွ သတိပေးလိုက်လာခဲ့လေ၏။

ကြာကြာလျှင် သူတို့နှစ်ယောက်သည် မြို့တွင်းသို့ဝင်လာခဲ့ကြကာ နောက်ဘက် ဝင်းတံခါးကြီးမှ ဝင်လာခဲ့ကြလေ၏။ ပေါက်ယုသည် မိမိ၏အဆောင်ဖြစ်သည့် နီမောင်းပျော်ဘွယ်ဆောင်သို့ တန်းလာခဲ့လေ၏။ အဆောင်သို့ရောက်သည့်အခါတွင် မာလာနှင့် အခြားအစေတော်များမှာ သွားနှင့်ကြပြီဖြစ်သဖြင့် အသက်ကြီးကြီး အစေတော်ကြီးများကိုသာ တွေ့ရတော့သည်။ ပေါက်ယုကိုမြင်သည်နှင့်

“အမိဒ္ဓဗုဒ္ဓမြတ်စွာဘုရား။ သခင်လေးပြန်ရောက်လာလို့ တော်သေးတာပေါ့ သခင်လေးရယ်။ မာလာဖြင့် သခင်လေးကို လိုက်ရှာလိုက်ရတာ ဖတ်ဖတ်ကို မောနေတာပဲ။ စားသောက်နေကြပြီထင်တယ်။ သွားသွား၊ သခင်လေး မြန်မြန်သွား”

ပေါက်ယုသည် ပွဲတက်ဝတ်ရုံကြီးကို ဝတ်ပြီးနောက် မည်သည့်နေရာတွင် သူတို့ စုနေကြသနည်းဟု မေးမြန်းလေ၏။

“ဥယျာဉ်ကလေးထဲက ခန်းဆောင်သစ်မှာ သခင်လေး”

ပေါက်ယုသည် ထိုနေရာသို့ထွက်လာခဲ့လေရာ ခပ်လှမ်းလှမ်းသို့ရောက်လျှင် သီချင်းဆိုသံနှင့် ပုဒလွသံကို ကြားရလေ၏။ အဝင်ဝသို့ရောက်လျှင် အပြင်ဘက်တွင် မျက်ရည်စက်လက်ဖြင့် တစ်ယောက်တည်း ထွက်ထိုင်နေသည့် ယုချွန်းကို တွေ့ရလေ၏။ သူ့ကိုမြင်သည့်အခါတွင် ယုချွန်းမှာ အငိုရပ်သွားလေ၏။

“ဩော် သခင်လေးက လာမှ လာပေသေးသကိုး၊ ကဲ ကြွတော်မူပါရှင့်။ ဘယ်များ ရွှေစကြာဖြန့်တော်မူနေသလဲမသိဘူး”

"မောင်ဘယ်ရောက်ခဲ့သလဲဆိုတာ သိရဲ့လား" ဟု ပေါက်ယုက ပြုံး၍မေးလေ၏။

ယုချွန်းမှာ မည်သို့မျှမပြောဘဲ မျက်ရည်များသုတ်လျက်ရှိလေ၏။

ပေါက်ယုသည် ခန်းဆောင်ထဲသို့ ဝင်လာခဲ့ပြီးလျှင် မယ်မယ်နှင့် မိခင်ဖြစ်သူ သခင်မဝမ်ကို ဂါရဝပြုလေ၏။ သူတို့အားလုံးမှာ နတ်ငှက်တစ်ကောင်ကို ကောက်ရသည့်နှယ် ဝမ်းမြောက်ဝမ်းသာ ဖြစ်လျက် ရှိကြလေ၏။ ပေါက်ယုက နတ်ငှက်မယ်ကို နှုတ်ဆက်ကာ မွေးနေ့ဆုတောင်း စကားပြောလေ၏။

မယ်မယ်နှင့် သခင်မဝမ်က

"ပေါက်ယု နင်ရှုးနေသလားဟင်။ ဘာဖြစ်လို့ ဘယ်သူ့ကိုမှအသိမပေးဘဲ ထွက်သွားရတာလဲ။ တော်တော်ကမြင်းသ။ နောက်တစ်ခါဒီလိုထွက်သွားယင် မောင့်ခမည်းတော် ပြန်လာတော့ တိုင်ဦးမယ်။ အဲ့ဒီအခါကျတော့ အရိုက်ခံ"

ထိုနောက် မယ်မယ်သည် အခိုင်းများကိုလှည့်၍ ဆူပူကြိမ်းမောင်းလျက် ရှိလေ၏။

"သူခိုင်းတာတွေကို နင်တို့ အကုန်လျှောက်လုပ်ပေးနေရသလားဟင်။ သူသွားချင်ရာကို နင်တို့ကလိုက်ပို့၊ လူကြီးတွေကိုဘာမှ မပြောဘူးပေါ့ ဟုတ်လား။ ဟင် လာစမ်း ပေါက်ယု၊ ဘယ်ကိုသွားနေတာလဲ။ ထမင်းတို့ဘာတို့ကော စားပြီးပလား။ ဘာတွေကိုတွေ့ပြီး အထိတ်တလန့်ဖြစ်လာခဲ့သလဲ"

ပေါက်ယုက

"ပေကျင်း ကိုယ်တော်လေးရဲ့ အလွန်နှစ်သက်တဲ့ ကိုယ်လုပ်တော်တစ်ယောက် မနေ့ကဆုံးလို့ ကျွန်တော်သွားမေးတာပါ မယ်မယ်။ ကိုယ်တော်လေးက တော်တော်စိတ်ထိခိုက်ပြီး ငိုနေတော့ မောင်လဲ ရုတ်တရက် မပြန်ရဲတာနဲ့ ထိုင်နေရတယ်။ ဒါ့ကြောင့်ကြာသွားတာပါ"

"ကောင်းပြီ၊ နောက်တစ်ခါ မယ်မယ်မသိဘဲ အပြင်ကိုထွက်တယ်ဆိုယင်တော့ မောင့် ခမည်းတော်ကြီးကို တိုင်ပြီး အရိုက်ခိုင်းရလိမ့်မယ်။ ဒါပဲ"





ပေါက်ယုက မယ်မယ့်စကားကိုနားထောင်မည်ဖြစ်ကြောင်း ကတိပေးလေ၏။ မယ်မယ်သည်မကျေနပ်သေးဘဲ ပေါက်ယုအား ထော်များနှင့် သူငယ်တော်များကို ရိုက်ရန် အမိန့်ပေးလေ၏။ ဤတွင် အားလုံးက ဝိုင်း၍ တောင်းပန်ကြလေ၏။

"တော်ပါတော့မယ်မယ်ရယ်၊ ပြန်ရောက်လဲလာပြီပဲ။ ဒီလောက်စိတ်ပူစရာမလိုတော့ပါဘူး။ ပျော်ပျော်ပါးပါးနေပါ"

မယ်မယ်မှာ ပေါက်ယု အပြင်သို့သွားနေသည့်အတွက် စိတ်တိုနေခြင်း ဖြစ်သည့်အလျောက် ပေါက်ယုပြန်လာသည့်အခါတွင် စိတ်တိုသည်တို့ ပျောက်ကာ ရွှင်လန်းစ ပြုလာခဲ့လေပြီ။ မယ်မယ်သည် ပေါက်ယုကို ဆူပူကြိမ်းမောင်းခြင်းမပြုတော့ဘဲ လမ်းတွင် အစားအသောက်စားခဲ့ခြင်း ရှိမရှိ၊ ထိတ်လန့်ဖွယ်တို့ကိုတွေ့ခဲ့ခြင်းရှိမရှိစုံစမ်းမေးမြန်းလေ၏။ ထိုနောက် မာလာလည်း ရောက်လာသဖြင့် သူတို့သည် ပြဇာတ်ပွဲကို ဆက်လက်ကြည့်နေကြလေ၏။

ထိုနေ့က ကပြသည့်ဇာတ်မှာ "ဆူးအပ်တစ်ချောင်း၏ဇာတ်လမ်း" ဆိုသည့် ဇာတ်ထုပ်ဖြစ်ရာ အလွမ်းကောင်းလှသဖြင့် မယ်မယ်နှင့်ဒေါ်လေးဆွေ့တို့မှာ မျက်ရည်အရွှဲသားဖြင့်ဖြစ်နေကြလေ၏။ အခြားသူများကမူ ထိုဇာတ်ကိုကြည့်၍ ရယ်သူရယ်ကြလျက် ဇာတ်ကောင်များကိုကျိန်ဆဲသူကကျိန်ဆဲလျက်ရှိကြလေ၏။

နောက်မည်သို့ဖြစ်သည်ကိုသိလိုလျှင် နောက်တစ်ခန်းကိုဆက်ဖတ်ပါလော။

## အခန်း (၄၄)

အဖြစ်မှန်ကို ရုတ်တရက်သိရသဖြင့် နတ်ငှက်မယ်စိတ်ဆိုးခြင်း။

မမျှော်လင့်ဘဲ ကျေနပ်မှုရသဖြင့် ပင်အဲ အလှပြင်ခြင်း။

ဇာတ်ပွဲတွင် ပေါက်ယုသည် မိန်းမများနှင့်အတူထိုင်၍ ကြည့်နေလေ၏။ မယားရေနစ်သေသဖြင့် လင်ဖြစ်သူက ရေလှူဒါန်းပူဇော်သည့် အခန်းသို့ ရောက်လျှင် ထိုက်ယုက ပေါက်ကြည်ဘက်သို့လှည့်၍

"ညှို့လိုက်တဲ့ ဝမ်ရှိပင်းနော်၊ ကိုယ့်မိန်းမသေလို့ ရေလှူချင်တာများ မြစ်ကမ်းနားသွားပြီး မြစ်ထဲကရေကို ခပ်နေရသေးသတဲ့လား။ သူ့မိန်းမဟာ ရေနစ်သေလို့ မြစ်နဲ့ပတ်သက်နေတယ်ဆိုသာတော့ မှန်ပါရဲ့။ ဒါပေမယ့် ရေပဲ ဘယ်ရေဖြစ်ဖြစ် အတူတူပေါ့။ ဘယ်ရေဖြစ်ဖြစ် ရေတစ်ဖလားခပ်လိုက်ပြီး လှူလိုက်ယင် ပြီးတဲ့ကိစ္စပဲ။ မြစ်နားကို သွားနေရသေးတယ်"

ပေါက်ကြည်က မည်သို့မျှပြန်မပြောဘဲ ပွဲကိုဆက်ကြည့်နေ၏။ ပေါက်ယုသည် နတ်ငှက်မယ်၏မွေးနေ့တွင် ဆုတောင်းသောက်ရန် အရက်ချိုကို အကျိုခိုင်းလိုက်လေ၏။





ယနေ့မှာ အထူးပွဲဖြစ်သဖြင့် နတ်ငှက်မယ်အား မည်သည့်တာဝန်ကိုမျှမယူစေဘဲ တစ်နေကုန် စိတ်ရှိလက်ရှိလွတ်လပ်စွာ ပျော်ခွင့်ပေးထားလေ၏။ မယ်မယ်သည် ကောင်းစွာ နေသိုင်မကောင်းသေးသည့်အတွက် စားသောက်ပွဲတွင်မပါနိုင်ဘဲ အတွင်းခန်းရှိ ထိုင်ဖုံ တစ်ခုပေါ်တွင် လဲလျောင်းရင်းက ဒေါ်လေးဆွေ့နှင့်အတူ ဇာတ်ပွဲကိုကြည့်လျက်ရှိလေ၏။ တစ်ခါတစ်ရံတွင်လည်း ဒေါ်လေးဆွေ့နှင့် စကားစမြည် ပြောဆိုနေရင်း မိမိအနီးတွင်ချထားသည့် လက်ဖက်ရည် စားပွဲခုံကလေးပေါ်တွင် တင်ထားသော အစ်ထဲမှ သရေစာများကို ယူစားလျက်ရှိ၏။ မိမိအတွက် ပြင်ပေးထားသည့် ထမင်းပွဲနှစ်ပွဲကိုမူ မယ်မယ်သည် စားသောက်ပွဲတွင် ဝင်ခွင့်မရသည့် အစေတော်များနှင့် အခိုင်းမိန်းမများကို ခွဲဝေပေးလိုက်လေ၏။ ထို့ပြင် ခါတိုင်းကဲ့သို့ မိမိအနီးတွင် အဆောင်အယောင်အခမ်းအနားတို့ဖြင့် ရပ်မနေဘဲ ဝရန်တာသို့သွားကာ ထိုင်စားရန်၊ ပွဲကို လွတ်လွတ်လပ်လပ်ကြည့်ရန်လည်း အမိန့်ပေးလိုက်လေ၏။

သခင်မဝမ်နှင့် သခင်မဆင့်တို့မှာ မယ်မယ်၏ ခန်းဆောင်မှာ စားပွဲမြင့်ကြီးအနီးတွင်ထိုင်၍ ပွဲကြည့်လျက်ရှိပြီး မိန်းမပျိုများမှာ အပြင်ဆောင်ရှိစားပွဲများတွင်ထိုင်၍ ကြည့်နေကြ၏။

မယ်မယ်က မမယုကိုခေါ်၍

"ဒီနေ့ဟာ ငှက်မယ်ရဲ့မွေးနေ့နော်။ ဒီတော့ ငှက်မယ်ကို အထူးနေရာမှာထိုင်ပါစေ။ ပြီးတော့ ငှက်မယ်အလုပ်ကြိုးစားတာတွေကိုဂုဏ်ပြုတဲ့အနေနဲ့ ဒီနေ့တော့ သူ့ကို လွတ်လပ်ခွင့်ပေးလိုက်ပြီး ညည်းကပဲ အိမ်သည်အဖြစ် ဧည့်ခံပေတော့"

"ဟုတ်ကဲ့မယ်မယ်၊ ကျွန်မအစွမ်းကုန်ကြိုးစားပြီး အကောင်းဆုံး လုပ်ပါ့မယ်၊ စိတ်ချပါ။ ဒါပေမယ့် ငှက်မယ်က ဒီလိုအထူးနေရာတွေမှာ ထိုင်လေ့မရှိတော့ မထိုင်ချင်ဘူးလို့ပြောပါတယ်။ အဲဒီမှာနေယင် ထိုင်လို့လဲအားမရဘူးတဲ့။ ပြီးတော့ အဲဒီမှာထိုင်ပြီး ဘာမှလဲ မသောက်ဘူးမယ်မယ်"

"ညည်းတိုက်လို့မသောက်ယင် ငါကိုယ်တိုင် မွေးနေ့ဆုတောင်းရင်း သောက်အောင်တိုက်ရမှာပေါ့အေ"ဟု ဆိုကာ မယ်မယ်သည် နတ်ငှက်မယ်အနီးသို့ထလာခဲ့လေ၏။

နတ်ငှက်မယ်က ကြားဝင်၍

"သူအား ကားခေါ်ပြောတာမယ်မယ်၊ သူပြောတာမယ်နဲ့၊ငှက်မယ် သုံးလေးခွက် သောက်ပြီးပြီ"

မယ်မယ်က နောက်ပြောင်သည့်သဘောဖြင့် မမယုအားလှမ်း၍

"မရဘူး။ မိယု သူ့ကိုဆွဲခေါ်ခဲ့စမ်း။ ပြီးတော့ သူ့နေရာမှာ အထိုင်ခိုင်း၊ တစ်ယောက်တစ်လှည့်စီ သွားပြီး ခွက်မြှောက် ဆုတောင်းသောက်ကြစမ်း၊ သူငြင်းသေးတယ်ဆိုယင် ငါကိုယ်တိုင် လာတိုက်မယ်"

မယုသည် ရယ်ကာမောကာ ဖြင့် နတ်ငှက်မယ်ကိုဆွဲခေါ်လာပြီး လျှင် စားပွဲထိပ်ရှိ အထူးနေရာတွင် အထိုင်ခိုင်းလေ၏။ ထို့နောက် ချိုင့်ခွက်ကြီးတစ်လုံးထဲသို့ အရက်ချိုများကိုငှဲ၍ ယူလာလေ၏။

"ဒီနှစ်ကုန်ကစပြီး နောက်တစ်နှစ်ကုန်သည်အထိ ငှယ်မယ်ဟာ မယ်မယ်ကိုရော၊ ဒေါ်လေးဝမ်ကိုရော၊ မယုကိုရော ရှိသေလေးစားစွာနဲ့ တာဝန်ကျေအောင် လုပ်ပေးခဲ့မယ်။ ဒီနေ့မယုမှာ ငှက်မယ်ကို ပေးဖို့ မွေးနေ့လက်ဆောင်ဆိုလို့ ဘာမှမပါလာဘူး။ ဒါကြောင့် အရက်ချိုချိုင့်ခွက်ကြီးနဲ့ တစ်လုံးငှဲလာခဲ့တယ်။ ရော့၊ လိမ္မာတယ်ဆိုယင်တစ်ခွက်လုံး ကုန်အောင်သောက်လိုက်"

"မယုတို့ကငှက်မယ်ကိုချီးမွမ်းသဘောကျတယ်ဆိုယင်၊ပြီးတော့လဲ ငှက်မယ်ဒါတွေကို အကုန်သောက်ရမယ်ဆိုယင် ဒူးထောက် ထိုင်နေကြလေ။ အဲဒီတုန်းမှာ ငှက်မယ်အကုန်သောက်လိုက်မယ်"

"အံ့မယ်လေးမငှေငှက်မယ်၊ ဒီလောက်လဲသေးကြီးမနေနဲ့ဦးနော်။ ဒီလိုကံကောင်းပြီး စန်းပွင့်တဲ့အခါမျိုးဆိုတာ ရခဲတိခြင်း။ဒီလောက်စန်းပွင့်ပြီး ဒီလောက်ကံကောင်းတဲ့နေ့မျိုး နောင်လာဦးမယ်လို့ ဘယ်သူမှ ပြောနိုင်တာမဟုတ်ဘူး၊လာချင်မှလာတော့မှာ။ ဒါကြောင့် ကံကောင်းတန်း၊ စန်းတတုန်းမှာ ပျော်ချင်တိုင်း ပျော်လိုက်စမ်း။ ရော့နှစ်ခွက် ●ာက်လိုက်"

နတ်ငှက်မယ်မှာ ရှောင်လွှဲ၍မရတော့ဘဲ ပြောသည့် အတိုင်း အရက်ချိုကို နှစ်ခွက်ဆင့်၍သောက်လိုက်လေ၏။ ထို့နောက်တွင် မိန်းမပျိုများကလည်း သူ့ထံလာ၍ ဆုတောင်းကြပြန်သဖြင့် သူတို့အထဲမှ





အရက်ကို အနည်းငယ်စီမြည်းလိုက်ရလေသေး၏။ မယ်မယ်စိတ်လက်ရွှင်မြူးနေသည့်အခါ၌ ပစ္စည်းထိန်း လိုင်တီ၏ မိန်းမသည် အခိုင်းခိုင်းမကြီးများနှင့် အစေတော်သူငယ်မလေးများကို ခေါ်လာပြန်ကာ ခွက်မြှောက်ဆုတောင်းကြသည်တွင် နတ်ငှက်မယ်မှာလည်း ငြင်း၍မရတော့ဘဲသောက်ရပြန်လေ၏။ ယုန်ယွမ်းနှင့် လက်အောက်အစေခံ သူငယ်မကလေးများက နောက်ထပ်ရောက်လာပြီး ခွက်မြှောက်ဆုတောင်းကြပြန်သည့်အခါတွင်ကား နတ်ငှက်မယ်မှာ အတော်မူးနေလေခဲ့လေပြီ။

"ကဲ၊ တော်ကြပါတော့ဟယ်။ နောင်များမှ နင်တို့နဲ့ ငါအတူ အရက်ချိုသောက်ပါ့မယ်။ ခုတော့ ချမ်းသာပေးကြပါ" ဟု နတ်ငှက်မယ်က တောင်းပန်လေ၏။

ဤတွင် ယုန်ယွမ်းက

"ဩော် ကျွန်မတို့က မျက်နှာမရှိလို့ပေါ့ ဟုတ်လား။ မယ်မယ်တောင် ကျွန်မတို့နဲ့အတူ သောက်သေးတာပဲ၊ မလေးငှက်မယ်လဲ ခါတိုင်း ဒီလိုမဟုတ်ပါဘူး။ ခါတိုင်းဆိုယင် မလေးငှက်မယ် ဘယ်တုန်းက ငြင်းဘူးလို့လဲ။ ခုတော့ လူတွေစုံတယ်၊ ဒီတုန်းမှာ ဒီကျွန်မတွေနဲ့ အရောတဝင် လုပ်လို့မဖြစ်ဘူး၊ သခင်မပီပီ နေမှပဲဆိုပြီး ကျွန်မတို့နဲ့ အတူမသောက်ဘူးပေါ့ ဟုတ်လား။ ဟုတ်ပါတယ်၊ ဟုတ်ပါတယ်၊ ဒီလိုဆိုယင် ကျွန်တော့ လာပြောမိတာ မှားပါတယ်။ ကိစ္စမရှိပါဘူး၊ မသောက်ချင်ယင်လဲ နေပါစေတော့"

ယုန်ယွမ်းက ပြန်ရန် တစ်ဘက်သို့ လှည့်လိုက်၏။ နတ်ငှက်မယ်က

"ကဲ လာလာ၊ညည်း တော်တော် နားပူနားဆာ လုပ်တဲ့ကောင်မ၊ လာ သောက်မယ်"

နတ်ငှက်မယ်သည် အရက်ချိုအိုးကို ကောက်ယူကာ ခွက်အပြည့်လောင်းထည့်လိုက်ပြီးနောက် ဆက်တိုက် မော့ချလိုက်လေ၏၊ ထိုအခါကျမှ ယုန်ယွမ်းသည် ပြုံးလျက် ပြန်သွားလေ၏။

နေရာတွင် ပြန်ထိုင်လိုက်သည့် အခါ၌ နတ်ငှက်မယ်၏ခေါင်းထဲတွင် အရက်ချို၏ တန်ခိုးသည် ပြစပြုလာလေပြီ။ နှလုံးမှာ လျင်မြန်စွာ ခုန်လျက်ရှိသည့်အတွက် အဆောင်သို့ပြန်ပြီး အနားယူရန် နတ်ငှက်မယ်

ဆုံးဖြတ်လိုက်လေ၏။ မျက်လှည့်ဆရာများဝင်လာသည့်အခါတွင် ထိုက်သင့်သည့် ဆုကြေးကို ချီးမြှင့်လိုက်စေလိုကြောင်း မမယုကို မှာကြားခဲ့လေ၏။

မမယုက ခေါင်းညိတ်ပြပြီး မိမိအားမည်သူကမျှ တားဆီးခြင်း မပြုသည့်အတွက် နတ်ငှက်မယ်သည် စားပွဲမှထကာ နောက်ဖေးပေါက်မှ ထွက်လာခဲ့လေ၏။ သခင်မကို စောင့်ကြည့်နေသည့် ပင်အဲသည် နောက်မှလိုက်လာကာ နတ်ငှက်မယ်၏လက်မောင်းကို တွဲခေါ်လာလေ၏။ အမိုးမိုးထားသည့် စင်္ကြံကလေးအနီးသို့ ရောက်သည့်အခါတွင် အမှောင်ကိုကွယ်၍ ရပ်နေသည့် နတ်ငှက်မယ်၏ အငယ်တန်းအစေတော် သူငယ်မလေးတစ်ယောက်ကို မြင်သည့်အခါတွင် အစေတော် သူငယ်မလေးသည် ထွက်ပြေးလေ၏။ သူ့လုပ်ပုံကြောင့် နတ်ငှက်မယ်သည် သင်္ကာမကင်း ဖြစ်လာကာ ထိုသူငယ်မလေးကိုရပ်ရန်အော်ပြောလေ၏။ အစတွင် သူငယ်မကလေးသည် မကြားယောင် ပြုလျက်ရှိသော်လည်း ပင်အဲကပါ ကူ၍ အော်ခေါ်ပေးသည့်အခါတွင် ပြန်လှည့်လာလေ၏။

နတ်ငှက်မယ်မှာ ပို၍ သင်္ကာမကင်း ဖြစ်လာခဲ့ကာ ဝင်းစခန်းဆောင်ဆီသို့ ပင်အဲနှင့်အတူ လာခဲ့ကာ အစေတော်သူငယ်မကလေးအား တံခါးကို အပိတ်ခိုင်းလိုက်လေ၏။ ထိုနောက် နတ်ငှက်မယ်သည် လှေခါးထစ်ပေါ်တွင် ထိုင်ချလိုက်ပြီးလျှင် သူငယ်မလေးကိုလည်း ဒူးထောက် အထိုင်ခိုင်းလေ၏။

"သွား၊ အတွင်းဆောင်က သူငယ်တော်လေးနှစ်ယောက်ကိုခေါ်ပြီး ကြိုးနဲ့ကြိမ်ယူခဲ့စမ်းလို့ ပြောလိုက်။ ဒီကောင်မကို ခပ်စပ်စပ်ကလေး ရိုက်ပေးရမယ်"ဟု ပင်အဲကို ခပ်ထန်ထန်ဖြင့်ခိုင်းလိုက်လေ၏။

သူငယ်မကလေးမှာ ကြောက်လန့်သဖြင့် ခေါင်းကို မြေကြီးနှင့် ထိကာ ငိုယိုတောင်းပန်လျက်ရှိလေ၏။

"ညည်း ငါလာတာကိုမြင်ယင် အရိုအသေပေးပြီး ရပ်နေပါလား။ ဘာဖြစ်လို့ထွက်ပြေးရတာလဲ။ ငါက သရဲမို့လို့လား။ ပြောစမ်း၊ ဘာဖြစ်လို့ထွက်ပြေးသလဲ"





သူငယ်မကလေးက ငိုရှိုက်လျက်ရှိရာမှ

"မမြင်လို့ပါ သခင်မလေး။ ကျွန်မတို့အဆောင်မှာ ဘယ်သူမှ မကျန်ခဲ့တာကို အမှတ်ရတာနဲ့ ပြန်ပြေးတာပါ"

"ကောင်းပြီ၊ ဒီလိုဆိုယင် အဆောင်မှာဘယ်သူမှမရှိဘဲနဲ့ ညည်းက ဘာကိစ္စ ဒီဘက်ကိုထွက်လာခဲ့ရတာလဲ။ တို့ကိုညည်းမမြင်ဘူးလား။ ညည်းကို လှမ်းခေါ်တာ အကြိမ်ပေါင်း မရေနိုင်ဘူး၊ ကြားလျက်သားနဲ့ ညည်း အတင်းပြေးတာ။ ခေါ်သေပြေးလေပဲ။ ဒီလောက်ကလေး ခေါ်တာကို မကြားရအောင် တို့ကလဲ အဝေးကြီး မဟုတ်ဘူး။ ညည်းကလဲ နားပင်းနေတာမဟုတ်ဘူး၊ ကောင်မ မဘော်တော်လူပါးဝတဲ့ကောင်မ"

နတ်ငှက်မယ်သည် အစေတော်သူငယ်မကလေး၏ပါးကိုတစ်ချက် ရိုက်ချလိုက်ရာ ပြင်းထန်လွန်းသည့်အတွက် သူငယ်မကလေးမှာနောက်သို့ ယိုင်သွားလေ၏။ နတ်ငှက်မယ်သည် နောက်တစ်ချက်ရိုက်လိုက်ပြန်၏။ ထိုအချိန်၌ကား သူငယ်မကလေး၏ပါးမှာ ဖူးဖူးရောင်ကာ ညိုမည်းလာခဲ့လေပြီ။

"မလေးငှက်မယ်၊ လက်တွေဘာတွေနာကုန်ပါ့မယ်"ဟု ပင်အဲက ပြောလေ၏။

"ဒါဖြင့် ငါ့အစား ရိုက်စမ်း။ ပြီးတော့ ဘာကြောင့်ထွက်ပြေးသလဲဆိုတာကို ရအောင်မေး၊ မပြောယင် ပါးစပ်ကိုဆုတ်ပြဲပစ်"

သူငယ်မကလေးက ရိုးရိုးထွက်ပြေးခြင်းဖြစ်ကြောင်း ပြောလျက်ရှိသဖြင့် နတ်ငှက်မယ်က သူ့ပါးကို သံပူကပ်ပစ်မည်ဟု ခြိမ်းခြောက်ခြင်း ပြုလေရာ ထိုအခါကျမှပင် သူငယ်မကလေးက မျက်ရည်လည်ရွဲဖြင့် အမှန်ကို ဖွင့်ဟဝန်ခံလေ၏။

"သခင်လေး ကျိုလျှံ အိမ်ကို ပြန်ရောက်နေပါတယ်။ သူက သခင်မလေးငှက်မယ်ကို သွားစောင့်ချည်လို့ခိုင်းလိုက်လို့ပါ။ မလေးငှက်မယ်ပြန်လာယင် မြန်မြန်ပြေးလာပြီး သူ့ကိုလာပြောတဲ့၊ သခင်လေးက မလေးငှက်မယ် စောစောစီးစီးတော့ပြန်လာမှာမဟုတ်ဘူးလို့ ထင်နေပါတယ်"

အကြောင်းတစ်စုံတစ်ရာရှိလိမ့်မည်ဟု နတ်ငှက်မယ် တွက်လိုက်လေ၏။

"ညည်းကို ဘာ့ကြောင့်အကြည့်ခိုင်းရတာလဲ။ ငါပြန်လာမှာကို ဆောသူက ဘာဖြစ်လို့ စိုးရိမ်နေရတာလဲ၊ အကြောင်းရှိရမှာပေါ့။ ငါ့ကို မှန်မှန်ပြောစမ်း၊ မှန်မှန်ပြောရင် ညည်းကိုသက်ညှာမယ်။ မှန်မှန်မပြောလို့ကတော့ ခုစားယူပြီး ညည်းပါးစပ်ကိုဆုတ်ဖြဲပစ်မယ်၊ သိရဲ့လား"

အခစေတော်သူငယ်မကလေးသည် တစ်ကိုယ်လုံး တုန်သွားရာမှ ငိုရှိုက်လျက်

"ပြောပါမယ်သခင်မလေးရဲ့၊ ကြောက်ပါပြီ။ ဒါပေမယ့် ကျွန်မကပြောတယ်ဆိုတာကိုတော့ သခင်လေးကိုမပြောပါနဲ့"

ပင်အဲသည် နတ်ငှက်မယ်အား တစ်ဘက်က ချော့မော့ရင်း တစ်ဘက်ကလည်း သူငယ်မကလေးကို မြန်မြန်ပြောရန် ပြောဆိုလျက်ရှိ၏။

"သခင်လေးကျိုလျိုဟာ ဇာတ်ပွဲက ခပ်စောစော ပြန်လာပြီး အိပ်တယ်ရှင့်။ အိပ်ရာကနိုးလာတော့ သခင်မလေးဘာလုပ်နေတယ်ဆိုတာကို သွားကြည့်ချည်စမ်းလို့ တစ်ယောက်ကိုလွှတ်လိုက်တယ်ရှင့်။ သူကပြန်လာတော့ သခင်မလေးတို့ စားသောက်ပွဲစ ရုံကလေးရှိသေးတယ်တဲ့၊ တော်တော်နဲ့ပြီးမှာ မဟုတ်သေးဘူးလို့ ပြောတယ်ရှင့်။ ဒီတင် သခင်လေးက သေတ္တာထဲက ငွေစနှစ်စရယ်၊ ဆံထိုးနှစ်ချောင်းရယ်၊ ဖဲနှစ်အုပ်ရယ် ယူပြီး တော့ ပေါက်အဲမိန်းမကိုသွားပေးချည်တဲ့၊ ဘယ်သူမှ မမြင်ပေ စေနဲ့တဲ့။ ပြီးတော့ ဒီကိုလာဖို့လဲ ပြောခဲ့လို့ ဆိုပြီး လွှတ်လိုက်တယ်ရှင့်။ ပေါက်အဲမိန်းမက အဲဒီပစ္စည်းတွေကိုယူလိုက်ပြီး ဒီကိုလိုက်လာတယ်ရှင့်။ ပြီးတော့ သခင်မလေးကို စောင့်ကြည့်ချည်လို့ လွှတ်လိုက်တာနဲ့ လာကြည့်နေရတာရှင့်။ ဒီရောက်တော့ ဘာဖြစ်မှန်း ကျွန်မလဲမသိဘူးရှင့်"

နတ်ငှက်မယ်သည် ဒေါသကြောင့်တုန်ယင်လျက်ရှိရာမှ ဖြုန်းခနဲထလိုက်ပြီးနောက် မိမိတို့အဆောင်ဘက်သို့ ထသွားခဲ့လေ၏။ ဝင်းတံခါးဝတွင် အခစေတော်သူငယ်မကလေးတစ်ယောက်ရပ်နေသည်ကိုမြင်ရပြီး နတ်ငှက်မယ်လာသည်ကို မြင်လိုက်သည်နှင့် ချာခနဲလှည့်ကာ အဆောင်ဘက်သို့ပြေးသည်ကို မြင်လိုက်ရပြန်၏၊ နတ်ငှက်မယ်က ထိုသူငယ်မကလေးကို





အမည်တပ်၍ ခေါ်လိုက်၏။ ထိုသူငယ်မကလေးကား ခပ်စောစောက သူငယ်မကလေးထက် ဉာဏ်ရှိသည်ဟု ဆိုရမည်ဖြစ်သေး၏။ ပြေး၍မရတော့ကြောင်းကို သိသည့်အခါတွင် ပြန်လှည့်လာသေး၏။

"မလေးဆီကို သတင်းသွားပို့မလို့ရှင့်။ မလေးရောက်လာတာနဲ့ အတော်ပဲ" ဟု ပြုံး၍ပြောလေ၏။

"ညည်းက ဘာကို သတင်းပို့မလို့လဲ"

"သခင်လေးကျိုလျို ပြန်ရောက်လာပြီတော့"

သူငယ်မကလေးက ခပ်စောစောက အဖြစ်အပျက်ကို ပြန်ပြောမည်ပြုစဉ် နတ်ငှက်မယ်က စက်ဆုပ်စွာ တံတွေးထွေးလိုက်ပြီးနောက်

"ခုမှလာပြောရအောင် တစ်ချိန်လုံး ညည်းဘာလုပ်နေလို့လဲ။ မိတော့မှ ဒီစကားကို ပြောတာမဟုတ်လား"

နတ်ငှက်မယ်သည် ထိုသူငယ်မကလေးကိုလည်း ပါးကိုရိုက်ချလိုက်ပြန်ရာ သူငယ်မကလေးမှာ နောက်သို့ ယိုင်ကျသွားလေ၏။ ထိုနောက် နတ်ငှက်မယ်သည် ခြေဖျားထောက်၍ တလင်းပြင်ကို ဖြတ်လာပြီးလျှင် ပြတင်းဝတွင်ရပ်၍ အထဲမှ စကားပြောဆိုနေသည်ကို ချောင်း၍ နားထောင်နေလေ၏။

"သခင်လေးရဲ့ လျှာကြမ်း အာကြမ်း မယားကြီးသေသွားယင်ကော"

အထဲမှရယ်မော၍ မေးလိုက်သော မိန်းမသံတစ်သံကို ကြားလိုက်ရလေ၏။

"သူသေတော့ရော ဘာဖြစ်သလဲ။ သူ့လို အာကြမ်းလျှာကြမ်း တစ်ယောက်ကို ရှာယူမှာပေါ့" ဟု ကျိုလျိုက ဖြေလေ၏။

"သူသေသွားယင် ပင်အဲကို မယားအရာမြှောက်လို့ ရသားပဲ။ သူ့ဆိုယင် ကိုယ်စိတ်တိုင်းကျ ကိုင်နိုင်တာပေါ့"

"ခုတလောမှာ ငှက်မယ်က ငါ့ကို ပင်အဲအနားတောင်ကပ်ခွင့်မပေးဘူး၊ ဒီတော့ ပင်အဲကလဲ ဘယ်ကျေနပ်မလဲဟ။ သူ့အနားကိုကပ်စေချင်တာပေါ့။ သူ့သခင်မကို မပြောရဲလို့သာ အသာနေရတာ။ အင်း ဒေါသကြီးတဲ့မိန်းမကို ရတဲ့ယောကျ်ားများ တယ်ကံဆိုးတာပဲ"

သူတို့စကားမှာ မိမိကို နှိမ့်ချသလောက် ပင်အဲ့ကို ချီးမြှောက်ပြော ဆိုရာရောက်လျက် ရှိလေရာ ပင်အဲသည် ထိုစကားများကို ကြားရာ မိမိ နောက်ကွယ်တွင် အတင်းပြောဦးမည်ဟု တွေးမိသည့်အတွက် နတ်ငှက် မယ်မှာ အကြီးအကျယ် ဒေါသထွက်ကာ တစ်ကိုယ်လုံး ဆတ်ဆတ်တုန် လျက်ရှိလေ၏။ ယခုအချိန်၌ ခေါင်းထဲတွင် အရက်ရှိန် ပို၍တက်လာကာ နတ်ငှက်မယ်သည် ဘာကိုမျှ မစဉ်းစားနိုင်တော့ဘဲ နောက်သို့လှည့်၍ ပင် အဲ၏ပါးကိုလည်း ရိုက်ချလိုက်ပြန်လေ၏။ ထို့နောက် တံခါးကို ခြေ ထောက်ဖြင့် ကန်ဖွင့်လိုက်ကာ အခန်းထဲသို့ ခြေသံပြင်းပြင်းဖြင့် ဝင်လာ ခဲ့လေ၏။ နတ်ငှက်မယ်သည် စကားတစ်လုံးမျှမပြောတော့ဘဲ ပေါက်အဲ ၏ မိန်းမပါးကို ဆွဲ၍ ပါးရိုက်တွန်းထုတ်လိုက်ပြီးလျှင် ကျိုလျံမထွက် နိုင်အောင် တံခါးဝတွင်ပိတ်၍ ရပ်နေလိုက်လေ၏။

''မိန်းမယုတ်မ၊ ကိုယ့်သခင်မရဲ့လင်ကိုခိုးပြီး ကိုယ့်သခင်မကို ကိုယ် ပြန်သတ်ဖို့ကြံစည်တဲ့ကောင်မ။ပင်အဲ ညည်းရောလာဦး။ ညည်းတို့ မိန်းမ ယုတ်မတွေနဲ့တင်ခိုးမတွေ တစ်ကျိတ်တည်းတစ်ဉာဏ်တည်းပေါ့ဟုတ်လား။ အပေါ်ယံကျတော့ ငါ့ကိုလိုလားသယောင်ယောင်နဲ့၊ ငါကျေနပ်အောင် လုပ်ပြနေတယ်''

နတ်ငှက်မယ်သည် ပင်အဲ၏ပါးကိုလည်း နောက်တစ်ခါ ရိုက်ပြန် လေ၏။ ပင်အဲမှာ မတရားအရိုက်ခံရသော်လည်းတိုင်တန်းရမည့်သူမရှိဘဲ မျက်ရည်စက်လက်ဖြင့် ကျိတ်ခံနေရလေ၏။

''ဟဲ့ ကောင်မ၊ ညည်းဘာသာညည်း ကမြင်းကြော ထရုံတင် မကဘူး။ ခုတော့ ငါ့ကိုဆွဲထည့်တယ်။ ဟင်၊နင့်ကြောင့် ငါပါ အချောင် ပါးရိုက်ခံရတယ်'' ဟုဆိုကာ ပင်အဲသည် ဒေါသထွက်ထွက်ဖြင့် ပေါက်အဲ ၏မိန်းမကို ကုတ်ခြစ်ကာ ပါးကိုလည်းရိုက်လေ၏။

ကျိုလျံသည် အရက်လေးထွေထွေဖြင့် မြူးပြီးအိမ်သို့ ပြန်လာ ခဲ့ရာ တခြားမိန်းမကိုခေါ်၍ ပျော်ပါးနေစဉ် အလစ် မိလိုက်သည့် အတွက် ဘာမျှမတတ်နိုင်ဘဲ ခေါင်းငုံ့ခံနေရလေ၏။ ယခု ပင်အဲက ပါဝင်၍ရိုက်သည်ကို မြင်ရသည့်အခါတွင် နဂိုကလည်း အရက်မူးနေ သည့်အတွက် ကျိုလျံမှာ ဒေါသထွက်လာလေ၏။ နတ်ငှက်မယ်အား





ပေါက်အဲ၏မိန်းမကို ရိုက်သည့်အခါတွင် မကျေနပ်သည့်တိုင် အသာ ကုပ်၍ ကြည့်နေရသော်လည်း ပင်အဲကပါ ဝင်ရိုက်သည်ကို မြင်သည့် အခါ၌ ကျိုလျံသည် ပင်အဲဆီသို့ပြေးလာကာ ပိတ်ကန်လိုက်လေ၏။

''သောက်ကောင်မ၊ မိန်းမယုတ်မ။နင်ကရိုက်ရအောင် နင်က ဘာ မို့လို့တုံး''

ကျိုလျံက သူ့ကိုရိုက်တော့မည်ဟု သိသည့်အခါတွင် ပင်အဲသည် ကြောက်လန့်တုန်လှုပ်စွာဖြင့်

''သခင်မလေးတို့ဘာသာ သခင်မလေးတို့ပြောချင်ရာပြော ပေါ့။ ဘာဖြစ်လို့ကျွန်မကို ထည့်ပြောရတာလဲ''ဟု မျက်ရည်စက်လက်ဖြင့် ပြော ဆိုလျက်ရှိလေ၏။

ပင်အဲက ကျိုလျံကိုကြောက်ရွံ့နေသည်ကို မြင်ရသည့် အခါ၌ နတ်ငှက်မယ်သည် ပို၍ ဒေါသထွက်လာလေ၏။ ထို့ကြောင့် ပင်အဲဘက် သို့လှည့်ကာ ပါးကို ဘယ်ပြန်ညာပြန်ရိုက်ရင်း ပေါက်အဲ၏မိန်းမကို ပါး ရိုက်ရန် အတင်းခိုင်းလျက်ရှိလေ၏။ ပင်အဲသည် စိတ်ဆိုးဆိုးဖြင့် သူ့ ကိုယ်သူသတ်သေမည်ဆိုကာ ခန်းဆောင်ထဲမှထွက်၍ ဓားကိုပြေးယူသည် တွင် အစေတော်များ၊ အခိုင်းမိန်းမများက ဝိုင်း၍ဆွဲထားရလေ၏။

ပင်အဲက သူ့ကိုယ်သူသတ်သေမည်ဟု ပြောဆိုနေသည့် အခါ၌ နတ်ငှက်မယ်သည် ကျိုလျံ၏ရင်ဘတ်ကို ခေါင်းဖြင့်ပစ်ဆောင့်ရင်း

''ရှင်တို့အားလုံး တစ်ကျိတ်တည်းတစ်ဉာဏ်တည်းတွေ၊သိရဲ့လား။ ခု ကျွန်မမိသွားတော့ ကိုယ့်ကိုယ်ကိုယ် သတ်သေမယ်လေး ဘာလေးနဲ့ ခြိမ်းခြောက်နေကြတာ။ သတ်လိုက်ပါ။ ဒီကောင်မကို သတ်လိုက်တာ အေးပါတယ်''

ကျိုလျံသည် ဒေါက်အမျက် ခြောင်းခြောင်းထွက်ကာ နံရံတွင် ချိတ်ထားသည့်ဓားလွယ်ကြီးကို ဖြုတ်ယူလိုက်လေ၏။

''သူ့ကိုယ်သူသတ်မသေရဘူးဟ၊ ငါကိုယ်တိုင်သတ်မယ်။ငါကိုယ် တိုင် နင်တို့အားလုံးကို သတ်ပစ်မယ်။ ပြီးတော့မှ ငါ့ဘာသာငါ သတ်သေ မယ်''ဟု အော်ဟစ်လျက်ရှိလေ၏။

ထိုသို့ အော်ဟစ်ဆူပူလျက်ရှိကြစဉ် မမယုနှင့်အခြားသူများရောက်လာကြလေ၏။

"ဟဲ့ ဘယ်လိုဖြစ်ကြတာလဲ၊ စောစောတုန်းက ကောင်းကောင်းမွန်မွန် ရှိလျက်သားနဲ့။ ခုမှဘာဖြစ်ကြတာလဲ"

သူတို့ရောက်လာသည့်အခါတွင် နဂိုကမူးနေသည့် ကျိုလျံသည် ပို၍ ရဲလာကာ နတ်ငှက်မယ်ကိုသတ်ပစ်မည်ဟု အော်ဟစ်လျက်ရှိလေ၏။ နတ်ငှက်မယ်မှာသူတို့ရောက်လာသည့်အခါတွင် မျက်ရည်ကိုသုတ်ကာ မယ်မယ့်ကို တိုင်ရန် ထွက်သွားလေ၏။

ထိုအချိန်၌ ဇာတ်ပွဲသည်ပြီးသေပြီ။ နတ်ငှက်မယ်သည်မယ်မယ့်ထံ ပြေးလာကာ ရင်ခွင်ထဲသို့ ပစ်လှဲလိုက်ရင်း

"မယ်မယ် ငှက်မယ်ကိုကယ်ပါဦး။ မောင်မောင်က ငှက်မယ်ကို သတ်မလို့တဲ့"

မယ်မယ်၊ သခင်မဝမ်နှင့် သခင်မဆင့်တို့က အကျိုးအကြောင်းကို မေးကြလေ၏။

နတ်ငှက်မယ်က ရှိုက်လျက်ဖြင့်

"ငှက်မယ်က အဝတ်အစားလဲမလို့ အိမ်ကိုခဏပြန်သွားတယ် မယ်မယ်ရဲ့။ အိမ်နားရောက်တော့ အိမ်ထဲကစကားပြောသံကြားတာနဲ့ သူတို့ကို အနှောင့်အယှက်ဖြစ်မှာစိုးလို့ပြတင်းပေါက်မှာအသာရပ်နေတယ်။ ကျိုလျံနဲ့ပေါက်အဲရှဲမိန်းမရယ် မယ်မယ်ရဲ့၊ငှက်မယ်ကိုအဆိပ်ခတ်သတ်ပြီးငှက်မယ် နေရာမှာ ပင်အဲကိုထားဖို့ ကြံစည်နေကြတယ်။ ငှက်မယ် စိတ်ဆိုးပေမယ့် သူတို့ဘာမှမပြောရပါဘူး။ ဒါနဲ့ ငှက်မယ်က ပင်အဲပါးကို ရိုက်မိတယ်။ ငှက်မယ်ကိုဘာ့ကြောင့်ဒီလိုအကောက်ကြံရသလဲလို့ မေးမိတယ်မယ်မယ်ရဲ့။ ဒီတွင်ကျိုလျံက သူ့မယားငယ်ကို ထိရပါ့မသားဆိုပြီး သတ်မယ်ပုတ်မယ် တကဲကဲလုပ်နေတယ် မယ်မယ်ရဲ့"

မယ်မယ်နှင့်အခြားသူများသည် နတ်ငှက်မယ်၏စကားကိုယုံကြည်သွားကြလေ၏။

"အလိုလေး၊ ကြောက်စရာပါလားတော်။ အဲဒီကောင်မကိုခေါ်ခဲ့စမ်း"





ထိုစဉ် ကျိုလျံသည် ဓားလွယ်ကြီးကိုကိုင်၍ပြေးဝင်လာရာ သူ့နောက်မှလည်း လူတွေလိုက်လာကြလေ၏။ မယ်မယ်မှာ ခါတိုင်းဆိုလျှင် အလိုလိုက်တတ်သည့်အတွက်ကြောင့်လည်းကောင်း၊ မိခင်ဖြစ်သူ သခင်မဝမ်နှင့်ဒေါ်လေးဆင့်တို့မှာလည်း ဘာမျှမတတ်နိုင်မှန်း သိကြသည့်အတွက်ကြောင့်လည်းကောင်း၊ ကျိုလျံသည် ဆူပူကြိမ်းမောင်းကာ ရမ်းချင်တိုင်း ရမ်းလျက်ရှိလေ၏။

ဒေါ်လေးဆင့်နှင့်သခင်မဝမ်တို့က သူ့ကိုရှေ့မှဆီး၍ပိတ်ထားကာ

"ဟဲ့ ကျိုလျံ၊နင်ရူးနေသလားဟင်။ မယ်မယ့်ရှေ့မှာနင်ဒီလောက် မိုက်ရိုင်းရသလားဟင်"

ကျိုလျံသည် သူတို့ကို တစ်ချက်စွေကြည့်လိုက်ရင်း

"မယ်မယ် အလိုလိုက်လို့ သူဒီလောက် ကဲနေတာပေါ့။ ခုတော့ ကျွန်တော့်ကိုတောင် စော်ကားလာပြီ။ ဆဲသရော၊ ဆိုသရော၊ ဟင်း၊ လူပါးဝလို့"

သခင်မဆင့်က သူ့လက်ထဲမှ ဓားလွယ်ကို ဒေါသတကြီးဖြင့် ဆွဲယူလိုက်ကာ သူ့သားကြီးကျိုလျံကို အပြင်သို့ မောင်းထုတ် လိုက်လေ၏။ သို့ရာတွင် ကျိုလျံက မသွားဘဲ ဆူပူကြိမ်းမောင်းလျက်ရှိလေ၏။

မယ်မယ်က

"အင်း၊ သူက တို့ကိုဂရုစိုက်တာ မဟုတ်ပါဘူး။ သွား၊ သူ့အဖေကို ခေါ်ချည်စမ်း"

ထိုအခါတွင်မှ ကျိုလျံသည် ကုပ်ချောင်းချောင်းဖြင့် ထွက်သွားလေ၏။ သို့ရာတွင် ဒေါသထွက်နေသဖြင့် အိမ်သို့မပြန်သေးဘဲအပြင်ဘက် စာကြည့်ဆောင်ဝင်းထဲသို့ ထွက်သွားလေ၏။

ထိုအတောအတွင်း၌ သခင်မဆင့်နှင့်သခင်မဝမ်တို့က နတ်ငှက်မယ်ကို ဆူပူကြိမ်းမောင်းလျက်ရှိကြလေ၏။ မယ်မယ်က ပြုံးလိုက်လျက်

"ဒီလောက်လဲ အရေးတကြီး ထားမနေပါနဲ့အေ။ကျိုလျံက ငယ်လဲ ငယ်သေးတယ်။ ဒါမျိုးကတော့ ဘယ်တတ်နိုင်ပါ့မလဲ။ လူငယ်ဆိုတာ ဒီအတိုင်းပါပဲ။ 'အမှန်ကတော့ မယ်မယ်က ငှက်မယ်ကို အရက်များများ တိုက်လိုက်လို့ ဒီလိုဖြစ်ရတာပါ။ အရက်ချိုက ချဉ်ရည်ဖြစ်သွားပြီးပေါ့"

ဤတွင် အားလုံးက ရယ်လိုက်ကြလေ၏။ မယ်မယ်က နတ်ငှက်မယ်အား

"စိတ်မညစ်ပါနဲ့အေး မနက်ဖြန်ကျယင် ညည်းကို ဆောင်းပန်အောင် မယ်မယ် မပြောပါမယ်။ ဒီနေ့တော့ သူလဲ ရှက်နေလိမ့်မယ်၊ အိပ်ကို မပြန်နဲ့တော့။ ပင်အဲဆိုတဲ့ကောင်မကတော့ အစတုန်းကတော့ ကောင်းရှာသားပဲ၊ ခု ဒီကောင်မ ဘယ်လိုကနေ ဘယ်လိုဖောက်သွားသလဲမပြောတတ်ဘူး"

မမယုက လေသံအေးအေးဖြင့်

"ပင်အဲကိုလဲ အပြစ်ဆိုစရာမရှိပါဘူး မယ်မယ်ရယ်။ ငှက်မယ်က သူ့ကို သက်သက်မဲ့တာပါ။ လင်နဲ့မယား နှစ်ယောက်စလုံးက တစ်ယောက်ကိုတစ်ယောက်မလုပ်ချကြတော့ ကြားထဲက ပင်အဲကိုပဲ မဲ့ကြတော့တာပေါ့။ သူ့ခမြာ သနားပါတယ်၊ ဆူမနေပါတော့ မယ်မယ်ရယ်"

"ဪ ဒီလိုလား။ ပင်အဲဟာ ဒီလိုအစားထဲက မဟုတ်ပါဘူးလို့တော့ မအောက်မေ့မိသား။ ခုတော့ သူ့ခမျာ ခံစားခံရတာပေါ့။ တဲ့ ဟူးပို၊ သွား၊ ပင်အဲကို ငါ့အမြွှာလွှတ်လိုက်တယ်လို့ သွားပြောချည်စမ်း။ ဒီနေ့ ဖြစ်တာဟာ ကြားထဲက အပြစ်မရှိဘဲ ခံရတယ်ဆိုတာ မယ်မယ် သိတယ်လို့ပြောခဲ့။ မနက်ဖြန်ကျယင် ငှက်မယ်ကို အတောင်းပန်ခိုင်းပေးမယ်လို့ ငါမှာလိုက်တယ်ဆိုတာလဲပြောခဲ့၊ ဒီနေ့တော့ ကိုယ့်သခင်မမွေးနေ့မို့ ကောင်းကောင်းနေလို့"

ထိုအတောအတွင်း၌ လီဝမ်းသည် ပင်အဲကို မဟာနန္ဒာဥယျာဉ်အတွင်းသို့ ခေါ်လာကာ ချော့မော့နှစ်သိမ့်လျက်ရှိသည့်တိုင် ပင်အဲမှာ တရှုပ်ရှုပ်ငိုလျက်ရှိလေ၏။

ပေါက်ကြည်က

"ပင်အဲရယ်၊ နင်လဲ အသိဉာဏ်ရှိတဲ့ မိန်းကလေးတစ်ယောက်ပဲ။ နင့်ကို မလေးငှက်မယ် အမြဲတမ်းဘယ်လိုဆက်ဆံတယ်ဆိုတာ နင်လဲအသိသားပဲ။ ဒီနေ့တော့ အရက်ကလဲ ကော်ဘော်များသွားတော့ ဒေါသ





ထွက်သွားတာပေါ့။ ညည်းကိုမှမမဲရယင်လဲ သူ့မှာ ဘယ်သူ့ကိုသွားမဲရမှာလဲ။ ခုတော့ သူမှားရမလားဆိုပြီး လူတွေကလဲ ရယ်ကုန်ကြပါပြီ။ ခုမှ ညည်းအခဲမကျေဖြစ်နေတယ်ဆိုယင် တစ်သက်လုံး သူ့ဆိုးမျိုးကိုခံခဲ့တာဟာ ဆောင်ပန်ဆောင်လုပ်ခဲ့တယ်လို့ထင်စရာ ဖြစ်သွားတော့မှာပေါ့"

ထိုအခိုက်တွင် ဟူးပိုမှာ မယ်မယ် ပြောခိုင်းသည့်အတိုင်း သွားရောက်ပြောရာမှ ပြန်လာခဲ့သော မယ်မယ့်စကားကြောင့် ပင်အဲမှာ စိတ်ပြေသွားပြီဖြစ်ကြောင်း သိရလေ၏။ သို့ရာတွင် ပင်အဲသည် ငှက်မယ်၏အဆောင်သို့ကား ပြန်မသွားတော့ချေ။

အတန်ကြာမျှနားနေကြပြီးလျှင် ပေါက်ကြည်နှင့် အခြား မိန်းမပျိုများသည် မယ်မယ်နှင့် နတ်ငှက်မယ်ထံ ရောက်လာကြလေ၏။ ထိုနောက် ပေါက်ယုက ပင်အဲအား သူ၏ နှိမောင်းပျော်ဖွယ်ရိပ်သာသို့ လာရန်ဖိတ်သည်တွင် မာလာက အပေါက်ဝမှဆီးကြိုနှုတ်ဆက်လေ၏။

"ကိုယ်အလျင်လာမေးမလို့၊ ဒါပေမယ့် မမယုနဲ့ သခင်မလေးတွေက အလျင်ရောက်သွားတာနဲ့ မလာဖြစ်တော့ဘူး" ဟု မာလာက ပြုံး၍ပြော၏။

ပင်အဲလည်း ပြန်ပြုံးကာ

"ကောင်းကင်မှာ နေသာနေရာတာနေပြီး မုန်တိုင်းတိုက်လာတာလေ။ တကယ်ကတော့အေး ငါ့ကို ဒီလိုလုပ်ရအောင် ငါဘာမှလုပ်ရတာ မဟုတ်ပါဘူး"

"ခါတိုင်းဆိုယင်တော့ မလေးငှက်မယ်ဟာ ညည်းအပေါ်မှာ ကောင်းပါတယ်ဟယ်။ ဒီနေ့မှသာစိတ်ဆိုးတာပါ"

"ငါက ငါ့သခင်မကို ဒီလောက်စိတ်ဆိုးတာ မဟုတ်ပါဘူးအေး၊ ဟိုကောင်မကိုပါ။ သက်သက်မဲ့ ငါ့နာမည်ကိုဆွဲသည့်တယ်။ ဒီအထဲ တို့သခင်လေးကလဲမှန်ထူပြီး ငါ့ကို ရိုက်တယ်။ သူ့မကောင်းမကျတော့ ဘာမှမလုပ်ဘူး"

ပင်အဲသည် သူ့အပြစ်ကိုသူတွေး၍ အမှတ်ရလာပြန်ကာ နောက်တစ်ကျော့ငိုပြန်လေ၏။

"ဒီလောက်လဲ စိတ်မထိခိုက်ပါနဲ့ ပင်အဲရယ်။ သူတို့ကို မယ်မယ်က အတောင်းပန်ခိုင်းပါလိမ့်မယ်။ သူတို့ကိုယ်စား မောင်ကလဲတောင်းပန်ပါတယ်"

ပေါက်ယုက ပြောလေ၏။ ပင်အဲက ငိုရာမှ ပြုံးလိုက်ရင်း

"သခင်လေးနဲ့ ဘာဆိုင်တာမှတ်လို့။ သခင်လေးက ဘာဖြစ်လို့ တောင်းပန်ရမှာလဲ"

"ဩော်၊ မောင်တို့က ဆွေမျိုးတွေမဟုတ်လား။ သူတို့ တစ်ယောက်ယောက်စော်ကားမိတယ်ဆိုယင် ကြားထဲက မောင်တို့မှာတောင်းပန်ဖို့ ဝတ္တရားရှိတာပေါ့။ ကြည့်စမ်းပါဦး၊ အဝတ်အစားအသစ်တွေလဲ ပေရေကုန်ပြီ၊ နှမြောစရာကောင်းလိုက်တာ။ မာလာ့အဝတ်အစားတွေကို ခဏလဲထားလိုက်ပါလား။ ပင်အဲရဲ့အဝတ်တွေကို ရေမှုတ်ပြီး မီးပူတိုက်ခိုင်းထားလိုက်။ ဆံပင်တွေ ဘာတွေကိုလဲ ဖြီးစမ်းပါဦး"

ပေါက်ယုသည် အစေတော် သူငယ်မကလေးအချို့အား ရေနှင့် မီးပူအိုးယူလာရန် ခိုင်းလိုက်လေ၏။

ပေါက်ယုသည် မိန်းကလေးများအား မည်သို့ ဂရုစိုက်ကြောင်းကို လူပြောသူပြောဖြင့်သိခဲ့ခြင်းဖြစ်၏ ပင်အဲသည် ကျိလျံ၏အနှစ်သက်ဆုံး အမြွှောင်မယား ဖြစ်၍ပြီး နတ်ငှက်မယ်၏ လူယုံတော်သည်းဖြစ်သည့်အတွက် ပေါက်ယုသည် သူ့အကြောင်းကို ကောင်းစွာ မသိချေ။ သို့ရာတွင် ပင်အဲအား ကောင်းစွာ ဂရုမစိုက်ခဲ့မိသည့်အတွက် နောင်တရလျက်ရှိလေ၏။ ယနေ့တွင်မူ ပေါက်ယုက သူ့ကို ဂရုတစိုက်ရှိပုံကို မြင်ရသည့်အပြင် 'ဩော် ဟုတ်ပေသားပဲ။ သခင်လေးပေါက်ယုဟာ တော်တော်ကြင်နာသနားတတ်ပေတာပဲ' ဟု ပင်အဲသည် တစ်ကိုယ်တည်း ပြောမိလေ၏။

မာလာသည် သူကိုယ်တိုင် တစ်ခါတစ်ရံမှသာ ဝတ်လေ့ရှိသည့် အဝတ်အစားသစ်များကို သေတ္တာထဲမှ ထုတ်လာလေရာ ပင်အဲလည်း မျက်နှာသစ်ကာ အဝတ်အစားများကို လဲရလေ၏။





ပေါက်ယုက အနားမှထိုင်နေရင်း

"မျက်နှာကို နံ့သာလေး ဘာလေးလူး၊ နှုတ်ခမ်းနီလေး ဘာလေးလဲဆိုးလိုက်ပါဦး။ နို့မို့ယင် မလေးငှက်မယ်ကို ခုထက်ထိ စိတ်ဆိုးမပြေသေးလို့ ထင်နေလိမ့်မယ်။ ပြီးတော့ ဒီနေ့က သူ့မွေးနေ့မဟုတ်လား။ မယ်မယ်က တစ်ယောက်ယောက်လွှတ်ပြီး ပြေရာပြေကြောင်းဖြစ်အောင် လုပ်ပေးမှာပါ"

ပင်အဲသည် သူပြောသည်ကို သဘောပေါက်သွားကာ နံ့သာလူးရန် အနီးပတ်ဝန်းကျင်ကို လှမ်းကြည့်သော်လည်း ဘာကိုမျှမတွေ့ရချေ။ ပေါက်ယုသည်မှန်တင်ခုံသို့သွားကာ လေးနာရီပန်းမှုန့်ကို ထောင်း၍လုပ်ထားသည့် နံ့သာချောင်း ဆယ်ချောင်း ထည့်ထားသော ဆွန်ဟောမင်းခေတ်ကလုပ်သည့် ကြွေအစ်ကလေးတစ်ခုကို လုပ်ကြည့်လိုက်လေ၏။ ထို့နောက် ထိုကြွေအစ်ကလေးကို ပင်အဲအား လှမ်းပေးလိုက်လေ၏။

"ရော့၊ ခဲမှုန့်တွေကို လုပ်ထားတာ မဟုတ်ဘူး။ လေးနာရီပန်းစေ့တွေကို ထောင်းပြီး ရေမွှေးနဲ့ ရောထားတာ"

ပင်အဲသည် နံ့သာမှုန့်များကို လက်ဖဝါးပေါ်သို့တင်ကြည့်လိုက်ရာ နံ့သာမှုန့်များမှာပေါ့ပါးပြီး ပန်းရောင်လဲ့လဲ့သမ်းလျက်ရှိကာ မွှေးကြိုင်လျက်ရှိသည်တွေ့ရလေ၏။ ပင်အဲသည် ပါးကိုပွတ်လိုက်ရာ နံ့သာမှုန့်မှာ ခါတိုင်းနံ့သာမှုန့်များကဲ့သို့ ခပ်ကြမ်းကြမ်း စေးကပ်ကပ်မဟုတ်ဘဲ ပါးပြင်တွင် ညက်နေသည်ကိုတွေ့ရ၏။ ကျောက်စိမ်းဖြူသေတ္တာကလေးဖြင့် ထည့်ထားသည့် နှုတ်ခမ်းဆိုးဆေးမှာလည်း ခါတိုင်းလို ပန်းစက္ကူချပ်တွေမဟုတ်ဘဲ နှင်းဆီဝတ်လွှာ ဖတ်ကလေးများကဲ့သို့ နူးညံ့လျက်ရှိသည်ကို တွေ့ရလေ၏။

ပေါက်ယုက

"ဈေးထဲမှာရောင်းတဲ့ နှုတ်ခမ်းဆိုးဆေးတို့၊ ပါးဆိုးဆေးတို့က မသန့်ရှင်းဘူး။ အရောင်ကလဲမှိန်သေးတယ်။ ခုဆိုးဆေးက အကောင်းဆုံးဆူးပန်းပွင့်တွေကိုပေါင်း၊ အဆီထုတ်ပြီး နှင်းဆီအဆီနဲ့ ရောထားတာ။ သိပ်မတို့ရဘူး၊ အပ်ဖျားကလေးနဲ့တို့၊ လက်ဝါးပေါ်မှာအစက်ချ ပွတ်၊

ရေကာလေးနဲ့ဆွတ်ပြီး နှုတ်ခမ်းကိုဆိုးရတယ်။ လက်ဝါးပေါ်မှာ ကျန်ခဲ့တာကို ပါးမှာလိမ်းလို့ရတယ်''

ပင်အဲသည် သူပြောသည့်အတိုင်း ဆေးစက်ကလေးကိုလက်ဝါးပေါ်တွင်တင်ပြီး ရေနှင့်ရောချွပ်တ်ရာ အရောင်မှာနီရဲလျက်ရှိပြီး အနံ့မှာလည်း မွှေးကြိုင်လျက်ရှိသည်ကို တွေ့ရလေ၏။

ထိုနောက် ပေါက်ယုသည် အနီးရှိပန်းအိုးထဲတွင်စိုက်ထားသည့် ဆောင်းဦးသဇင်ခက်ကလေး တစ်ခက်နှစ်ခက်ကို ဝါးကတ်ကြေးကလေးဖြင့်ဖြတ်ယူလိုက်ကာ ခေါင်းတွင်ပန်ရန် ပေးလိုက်လေ၏။

ထိုစဉ် အစေတော်တစ်ယောက်ကိုလွှတ်ကာ လိဝမ်းက အခေါ်ခိုင်းသည့်အတွက် ပင်အဲသည် လိုက်သွားရ၏။

ပင်အဲမှာ တခြားသောအစေတော်များနှင့်မတူ၊ အသိဉာဏ် ထက်မြက်ရုံမျှမက ရုပ်ချောသည့်မိန်းမပျိုကလေးတစ်ယောက်ဖြစ်သည့်အတွက် သူ့ကို ယခုမှ သတိထားမိလေခြင်းဟု ပေါက်ယုသည် စိတ်မကောင်းဖြစ်လျက်ရှိလေ၏။ ထိုနေ့က ချင်ချွန်း၏မွေးနေ့ဖြစ်သည့်အတွက် ပေါက်ယုသည် စိတ်ညစ်ညစ်ဖြင့် အိပ်ရာထဲတွင်ခွေလျက်ရှိစဉ် ယခုကဲ့သို့ မမျှော်လင့်ဘဲ ပင်အဲကို ဂရုစိုက်ခွင့်ရလိုက်သဖြင့် အကြီးအကျယ် ကျေနပ်သွားကာ ပျော်လျက်ရှိလေ၏။ ထို့ကြောင့် ပေါက်ယုသည် ဘယ်သို့မျှမထွက်တော့ဘဲ အိပ်ရာပေါ်တွင်လှဲရင်း ကြည်နူးလျက်ရှိလေ၏။

''အင်း အစ်ကိုကျိလျံဟာ လိင်ကိစ္စလောက်ကိုပဲ ဂရုစိုက်တာပဲ။ မိန်းကလေးတွေကို ဘယ်လို ညှာတာသနားရမယ်ဆိုတာကို ဘာမှ နားမလည်ဘူး။ ခု ပင်အဲကိုကြည့်ပါဦး၊ ဘယ်လောက် သနားစရာကောင်းသလဲ။ သူ့မှာဆွေမျိုးလဲမရှိ၊ မိဘလဲမရှိ၊ ညီအစ်ကိုမောင်နှမရယ်လို့လဲ မရှိရှာဘူး။ ကျိလျံနဲ့ မလေးငှက်မယ်ကိုပဲ ပြုစုနေရပြီး ကျိလျံရဲ့ ကာမဆန္ဒကိုဖြည့်၊ မလေးငှက်မယ်ရဲ့ အနိုင်ကျင့်တာကို ခံနေရရှာတယ်။ ဒါတောင်မှ သူ့မှာ မျက်နှာကောင်းမရရှာဘူး။ ဒီနေ့လို အနိုင်ကျင့်တာမျိုးကို ခံရရှာသေးတယ်။ ကံတရားများ ရက်စက်လိုက်တာနော်၊ သူ့ခမျာ ထိုက်ယုထက်တောင် အဖြစ်ဆိုးရှာသေးတယ်''





ထိုသို့တွေးကာ စိတ်မကောင်းဖြစ်လျက်ရှိရာမှ မျက်သည်များသည် ပါးပြင် ပေါ်သို့ စီးကျလာကြလေ၏။ မာသာနှင့်အခြားသူများအခန်းဆောင်ထဲမှထွက်သွားသည့်အခါတွင်မူ ပေါက်ယုသည်ကြုံကြုံပါအောင်ငိုကြွေးမိလေ၏။ ပင်အဲ၏ အဝတ်ကို အရက်ဖျန်းထားသည်မှာ ခြောက်သွေ့သွေ့ကပ်ပြီဖြစ်သဖြင့် ပေါက်ယုသည် ပင်အဲ၏ အဝတ်များကိုယူကာ ကိုယ်တိုင်မီးပူတိုက်ပေးပြီးနောက် သေသပ်စွာ ခေါက်ထားလေ၏။ မီးပူတိုက်နေစဉ် ပင်အဲမေ့ကျန်ရစ်ခဲ့သည့် လက်ကိုင်ပဝါကလေးကိုတွေ့ရလေ၏။ လက်ကိုင်ပဝါတွင် မျက်ရည်တို့ စွန်းလျက်ရှိသည်ကို တွေ့ရသဖြင့် ဇလုံထဲတွင်ထည့်၍လျှော်ကာလှန်းပေးလေ၏။ ထိုနောက်တွင်မူ ပျင်းပျင်းရှိသဖြင့် စပါးချိုတဲသို့ထွက်လာကာ အခြားသူများနှင့် စကားစမြည်ပြောဆိုပြီးနောက် မီးထွန်းချိန်သို့ရောက်သည့်အခါတွင် အဆောင်သို့ ပြန်လာခဲ့လေ၏။

ထိုနေ့ညဉ့်ပင်အဲသည် လိဝမ်း၊နတ်ငှက်မယ်တို့နှင့်အတူမယ်မယ်၏အဆောင်တွင်အိပ်လေ၏။ သို့ဖြင့် ထိုနေ့ညနေ ကျိလျံအိမ်သို့ပြန်လာသည့်အခါတွင် ငြိမ်ချက်သားကောင်းကာ တိတ်ဆိတ်နေသည်ကို တွေ့ရလေ၏။ သို့ရာတွင် သူတို့ကိုသွားခေါ်ရန်မှာလည်း မဖြစ်နိုင်သည့်အတွက် ကျိလျံသည် ထိုနေ့ညက တစ်ယောက်တည်း အိပ်ရလေ၏။ နောက်တစ်နေ့မနက် နေမြင့်မှအိပ်ရာက နိုးလာသည့်အခါတွင် ကျိလျံသည် မနေ့ကဖြစ်ခဲ့သည့် ကိစ္စအတွက် စိတ်မကောင်းဖြစ်ကာ နောင်တရလျက် ရှိလေ၏။ ထို့ကြောင့် သခင်မဆင့် ရောက်လာသည့်အခါတွင် ကျိလျံသည် မနေ့က သူ့အဖြစ်အတွက် စိတ်မကောင်းဖြစ်ကာ ဘာမျှမပြောတော့ဘဲ သခင်မဆင့်နှင့်အတူ မယ်မယ်၏အဆောင်သို့ ဝင်လာခဲ့လေ၏။ မယ်မယ်၏အဆောင်သို့ရောက်သည့်အခါတွင် ကျိလျံသည် အသာလိုက်လာကာ မယ်မယ့်ရှေ့တွင် ဒူးထောက်ပြီး မနေ့ကကိစ္စကို တောင်းပန်ခြင်းပြုလေ၏။

''ဘယ်လိုဖြစ်တာလဲ''ဟု မယ်မယ်ကမေးလေ၏။ ကျိလျံပြုံးလိုက်လျက်

"မနေ့ကသောက်တာများသွားပြီး မယ်မယ်စိတ်မကောင်းအောင် လုပ်မိပါတယ်မယ်မယ်၊ ခု ကျွန်တော် အပြစ်ဒဏ်ခံဖို့လာတာပါ"

မယ်မယ်က စက်ဆုပ်ရွံရှာစွာ တံတွေးထွေးလိုက်ပြီးလျှင်

"လူမိုက်၊ အရက်သောက်ပြီးကိုယ့်မယားကိုရိုက်ရတယ်လို့ပဲ။ အိပ်ရာပေါ်မှာ အသေကောင်လိုစန့်စန့်ကြီးအိပ်နေယင်လဲ တော်သေးရဲ့။ ငှက်မယ်ဟာ ဘယ်သူ့ကိုမှ ကြောက်တတ်တဲ့ မိန်းမစားမဟုတ်ဘူး။ ဆတ်ဆတ်ကြဲ ထဲက။ ခုတော့ နင်မနေ့က ကြိမ်းလိုက် မောင်းလိုက်၊ ခြောက်လှန့်လိုက် လုပ်လိုက်တာ သူ့ခမျာ တုန်နေတာပဲ။ ငါသာရှိယင် နင် ငှက်မယ်ကို သတ်များသတ်မသွားမသိဘူး။ ကဲ နင် ဘယ်လိုလုပ်ချင်သလဲ ပြောစမ်း"

ကျိလျံမှာ မည်သို့မျှမပြောနိုင်တော့ဘဲ မယ်မယ်ပြောသည်ကို ခေါင်းငုံ့၍ ခံနေလေ၏။

"ကြည့်စမ်း၊ ငှက်မယ်ဟာ ဘယ်လောက်လှတဲ့ မိန်းမလဲ။ ပင်အဲကော ဘယ်လောက်လှသလဲ။ ဒီလောက်လှတဲ့မိန်းမနှစ်ယောက်ကို ရထားတာတောင် နင်မကျေနပ်သေးဘူးလားဟင်။ နင်ဟာ အမြဲတမ်း အလေလိုက်လို့ပဲ မသုံးနိုင်တော့ဘူးလား။ အိမ်ခန်းထဲကိုလဲ ဘယ်က အစုတ်ပလုတ်တွေခေါ်လာမှန်းမသိဘူး။ ကြည့်စမ်းပါဦး၊ အပျက်မတစ်ယောက်အတွက် ကိုယ့်မယားနဲ့ကိုယ့်အမြောင်ကို ရိုက်လိုက်နှက်လိုက်တာ။ နင်မရှက်ဘူးလား။ လူကုံထံသားဖြစ်လျက်နဲ့ နင်လုပ်နေပုံတွေကို နင်မရှက်ဘူးလား။ မိဘဆွေမျိုးဂုဏ်ကို ဖျက်မယ့်ကောင်။ ထ၊ ငါ့ရှေ့မှာဒူးထောက်မနေနဲ့။ နင့်မိန်းမကို နင်တောင်းပန်ပြီး အိမ်ကိုပြန်ခေါ်သွား။ ဒီလိုဆိုယင် ငါကျေနပ်မယ်။ ဒီလိုမဟုတ်ယင်တော့ နင့်ကို ဘယ်နည်းနဲ့မှ မကျေနပ်နိုင်ဘူး။ ငါ့ရှေ့မှာတောင် လာပြီး ဒူးမထောက်နဲ့တော့"

မယ်မယ်က ထိုသို့ကြိမ်းမောင်းလျက်ရှိစဉ် ခါတိုင်းကဲ့သို့ လှပစွာ ပြင်ဆင်ထားခြင်းမရှိဘဲ ညှိုးငယ်စွာ ရပ်နေသော နတ်ငှက်မယ်ကို ကျိလျံ လှမ်းကြည့်လိုက်မိလေ၏။ နတ်ငှက်မယ်၏မျက်လုံးများမှာ ငိုထားသည့်အတွက် မို့လျက်ရှိပြီး မျက်နှာမှာလည်း နံ့သာလူးထားခြင်း၊ ပါးနီဆိုးထားခြင်းမရှိဘဲ ဖျော့တော့ ပြောင်တင်းလျက်ရှိကာ သနားစရာကောင်းနေရုံမျှမက ခါတိုင်းထက်ပင် ချစ်စရာကောင်းသည်ဟု ထင်မှတ်မိလေ၏။





ဟုတ်တယ်၊ ငါ ငှက်မယ်ကို တောင်းပန်ရမယ်။ တောင်းပန်မှ မယ်မယ် ကျေနပ်မှာ' ဟုလည်း တွေးလျက်ရှိလေ၏။

ကျိလျံက ပြုံးလိုက်လျက်

"နားကကြားတယ်ဆိုယင်နားထောင်ရမယ်ဆိုတဲ့စကားရှိပါတယ် မယ်မယ်။ ဒါပေမယ့် ကျွန်တော်က တောင်းပန်လိုက်ယင် ငှက်မယ်ဟာ ခါတိုင်းထက်ခေါင်းမာသွားမှာကို စိုးရိမ်တယ်"

"မဖြစ်နိုင်တာကွယ်။ ငှက်မယ်ဟာ အလွန်အကင်းပါးပြီး စဉ်းစားဉာဏ်ရှိတဲ့ မိန်းမလေးကွယ့်။ နောင်မှာ သူ ဒီလို ဘယ်တော့မှ အုတ်အော်သောင်းတင်း ဖြစ်အောင် လုပ်မှာမဟုတ်ဘူး။ နောင်မှာ မင်းကို စော်ကားမိတယ်ဆိုယင် ငါကပဲ သူ့ကို အတောင်းပန်ခိုင်းမှာပေါ့"

ကျိလျံသည်မတ်တတ်ရပ်လိုက်ပြီးနောက် နတ်ငှက်မယ်ကို ဦးညွှတ်ပြလိုက်လေ၏။

"ကိုယ့်အပြစ်ပါ။ ကိုယ့်ကို ခွင့်လွှတ်ပါ" ဟု ပြောလိုက်သည်တွင် အားလုံးက ရယ်ကြလေ၏။

မယ်မယ်ကပြုံးလိုက်ရင်း

"ကဲ ငှက်မယ်။ ရန်ဖြစ်နဲ့တော့နော်။ ဒီတစ်ခါဖြစ်ယင် ညည်းကိုအရိုက်ပဲ"

ထိုနောက် မယ်မယ်သည် ပင်အဲကို အခေါ်ခိုင်းလိုက်ပြီးလျှင် ကျိလျံ၊ နတ်ငှက်မယ်တို့အား ပင်အဲနှင့် ကျေအေးအောင်လုပ်ပေလေ၏။ ကျိလျံက လိုလိုချင်ချင်ဖြင့်ပင် ရှေ့သို့တက်လာကာ

"မနေ့က ပင်အဲကို နိုင်ထက်စီးနင်းလုပ်သလို ဖြစ်သွားတာဟာ ငါ့အပြစ်ပါ ပင်အဲ။ ငါ့ကြောင့် နင့်မှာ မလေးငှက်မယ်က အထင်လွဲပြီး ရိုက်မောင်းပုတ်မောင်းလုပ်တာကိုလဲခံလိုက်ရတယ်။ ဒါကြောင့် ငါနဲ့ရော နင့်သခင်မငှက်မယ်အတွက်ရော ငါတောင်းပန်ပါတယ်" ဟု ပြောကာ ကျိလျံသည် ဦးညွှတ်လေ၏။ ဤတွင် မယ်မယ်နှင့်နတ်ငှက်မယ်တို့က ပြည်း ရယ်ကြလေ၏။

ထိုနောက် မယ်မယ်က နတ်ငှက်မယ်အား ပင်အဲကို တောင်းပန်ရန် ပြော၏။ သို့ရာတွင် ပင်အဲက နတ်ငှက်မယ်အား ထိုင်၍ကန်တော့ကာ

"မလေးရဲ့မွေးနေ့မှာ မလေးစိတ်ထိခိုက်အောင် လုပ်မိတဲ့အတွက် ခွင့်လွှတ်ပါမလေး။ ကျွန်မ တောင်းပန်ပါတယ်"ဟု ပြော၏။

နတ်ငှက်မယ်မှာ မနေ့က သူအရက်မူးပြီး မိမိအပေါ်တွင် သစ္စာရှိခဲ့သည်ကိုမျှ ထောက်ထားခြင်းမရှိဘဲ ကြားလူ တစ်ယောက်၏ စကားကြောင့် ပင်အဲအပေါ်တွင်နှိုင်ထက်စီးနင်းလုပ်ခဲ့မိသည်တို့ကိုတွေးမိသဖြင့် ရှက်နေလေ၏။ ပင်အဲက သူ့ကို ထိုင်ကန်တော့သည့်အခါတွင် နတ်ငှက်မယ်သည် သူ့ကိုဆွဲထူလိုက်၏။ စိတ်ထိခိုက်သဖြင့် မျက်ရည်များသည် ပါးပြင်ပေါ်သို့ စီးကျလာကြလေ၏။

ပင်အဲမှာလည်း ငိုလျက်ရှိလေ၏။

"မလေးကို ကျွန်မပြုစုလုပ်ကျွေးခဲ့တဲ့ သက်တမ်းတစ်လျှောက်မှာ မလေးဟာ ကျွန်မကို လက်ဖျားနဲ့တောင် မတို့ခဲ့ဖူးဘူးနော်။ မနေ့က မလေး ကျွန်မကိုရိုက်တဲ့အတွက် မလေးကို ကျွန်မစိတ်မဆိုးပါဘူး၊ အပြစ်လဲ မတင်ပါဘူး၊ ဟိုကောင်မကြောင့်ဖြစ်ရတာပါ။ ဟိုကောင်မစကားကို ကြားတော့လဲ စိတ်ဆိုးမိမှာပေါ့"

မယ်မယ်က သူတို့သုံးယောက်အား သူတို့အဆောင်သို့လိုက်ပို့ရန် လက်ပါးစေများကို အမိန့်ပေးလိုက်လေ၏။

"ဒီကိစ္စကို နောက် ဘယ်သူမှမပြောစေနဲ့။ ပြောတဲ့လူရှိယင် ငါ့ကိုလာပြော။ ဘယ်သူပြောပြော၊ ပြောတဲ့လူကို ငါကိုယ်တိုင်ကြိမ်နဲ့ရိုက်ပစ်မယ်"

သူတို့သုံးယောက်သည် မယ်မယ်၊ သခင်မဝမ်နှင့် သခင်မဆင့်တို့ကို နောက်တစ်ကြိမ်ကန်တော့ကာ အထိန်းတော်ကြီးများလိုက်ပို့သဖြင့် ပြန်သွားကြလေ၏။

သူတို့ချည်းရှိသည့်အခါတွင် နတ်ငှက်မယ်က

"ပြောစမ်း၊ ငှက်မယ်က အာကြမ်းလျှာကြမ်းဆို၊ ဆတ်ဆတ်ကြဲဆို။ ဘာကြောင့် ဒီလိုပြောရတာလဲ၊ ဟိုကောင်မကပြောတော့ မောင်မောင်ကပါ ဘာဖြစ်လို့ သံယောင်လိုက်ရတာလဲ။ ငှက်မယ် ဘယ်လောက်ပဲဆိုးဆိုး ဘယ်ပြောပြော၊ နေ့ပေါင်းတစ်ထောင်မှာ ငှက်မယ်ကောင်းတဲ့ နေ့





တစ်နေ့တော့ရှိရမှာပဲ။ ခုတော့ ငှက်မယ်ကို ဟိုအပျက်မလောက်မှ တန်ဖိုးမရှိသယောင်ပြောတယ်။ ငှက်မယ် ဘယ်လိုလုပ်ပြီး မျက်နှာပြောင်တိုက်ရမှာလဲ"ဟု ဆိုကာ နတ်ငှက်မယ်သည် နောက်တစ်ခါငိုပြန်လေ၏။

ကျိလျှံက

"မင်းကို ငါဒီထက် ဘာလုပ်ပေးရဦးမှာလဲကွ၊ မနေ့က စော်ကားတော့ မင်းက။ ဒါပေမယ့် လူတွေရှေ့မှာ ဒူးထောက်တောင်းပန်ခဲ့ရတာက ငါကတောင်းပန်ခဲ့ရတာ။ ဒီလောက်ဆိုယင်မင်းကျေနပ်လောက်ရောပေါ့၊ မင်း ငါ့ကိုဘော့ဂျီမတိုက်နဲ့။ ဘာလဲ ခုနောက်တစ်ခါ မင်းကိုဒူးထောက်တောင်းပန်ရဦးမှာလား။ ဒီလောက်ထိတော့ လွန်ပြီကွာ"

နတ်ငှက်မယ်ကအငိုရပ်သွားကာ ခစ်ခနဲတစ်ချက်ရယ်လိုက်၏။

"အေး ဒီလိုလဲ နေစမ်းပါဦး မိန်းမခုယ်။ ဘယ်လိုချော့ရမယ်မှန်းတောင် မသိအောင်ဖြစ်နေပြီ"

ထိုအတောအတွင်း အခိုင်းမိန်းမကြီးတစ်ယောက် ရောက်လာကာ ပေါက်အဲ မိန်းမမှာ ကြိုးဆွဲချသေသွားပြီဖြစ်ကြောင်း ပြော၏၊ သူတို့နှစ်ယောက်မှာ ထိုသတင်းကြောင့် များစွာအံ့အားသင့်သွားကြလေ၏၊ သို့ရာတွင် နတ်ငှက်မယ်သည် ချက်ချင်းတွန့်ဆည်လိုက်လေ၏။

"သေလဲသေပေါ့။ ဘာတတ်နိုင်မှာလဲ"

သို့ရာတွင်ထိုသို့ပြောဆိုနေစဉ် လင်ချီရှောင်၏မိန်းမရောက်လာကာ နတ်ငှက်မယ်အနီးသို့ကပ်၍

"ပေါက်အဲမိန်းမတော့ ကြိုးဆွဲချသေသွားတယ် မလေး။ အဲဒါ သူ့ဆွေမျိုးတွေက မလေးကိုတရားစွဲမလို့ ပြောနေကြတယ်"

နတ်ငှက်မယ်က လှောင်ရယ်ရယ်လိုက်လျက်

"ကောင်းတာပေါ့၊ ဒီကလဲ ရုံးပြင်ကန္တားကိုရောက်ဖူးချင်နေတာနဲ့ အတော်ပဲ"

"ကျွန်မတို့ကတော့ နင်တို့သွားမလုပ်နဲ့၊ ကိုယ်က ငွေတို့ဘာတို့လဲ တတ်နိုင်တာ မဟုတ်ဘူးလို့ ခြောက်လှန့်ပြီး ပြီးတန်ကာ ပြီးသွားအောင် လုပ်နေကြတာပဲ။ ကျွန်မအထင်တော့ ငွေလေး တစ်ထုပ်နှစ်ထုပ်ပေးလိုက်ယင် ကိစ္စပြီးသွားမယ်ထင်တာပဲ"

"ဒီမှာ ဒေါ်ဟဝှာ၊ ကျွန်မမှာ ပေးစရာခြူးတစ်ပြား မရှိဘူး။ ရှိယင်လဲ မပေးနိုင်ဘူး။ တရားစွဲရုံမကလို့ သာသနာပိုင်ကိုသွားလျှောက်ချင် လျှောက်ချည်ဦး။ သူတို့ကိုလဲ သွားပြီးခြောက်မနေပါနဲ့၊ လုပ်ချင်ရာ လုပ်စမ်းပါစေ။ သင်းတို့ အမှုနိုင်ယင်နိုင်ပေါ့၊ မနိုင်လို့ရှိယင် ခြိမ်းခြောက်ငွေညှစ်မှုနဲ့ ငှက်မယ်က ထပ်စွဲဦးမယ်"

ကျီလျှံက သူ့ကိုလှမ်းကြည့်လိုက်သည့်အခါတွင် လင်ချိုရှောက်၏ မိန်းမသည် မည်သို့ဆက်ပြောရမည်မသိဘဲ အပြင်သို့ထွက်လာကာ ရပ်၍ စောင့်နေလေ၏။

"မောင်မောင် အခြေအနေကို သွားစနည်းနာကြည့်လိုက်ဦးမယ်" ဟု ကျီလျှံက နတ်ငှက်မယ်ကို ပြောလေ၏။

"ဒါပဲနော်၊ ပြောလိုက်ပါပေရဲ့။ လျော်ကြေးပေးမယ်လေး ဘာလေးနဲ့တော့ မပြောခဲ့နဲ့"

ကျီလျှံသည် လင်ချိုရှောက်နှင့်တွေ့ဆုံ၍ ထိုကိစ္စကိုတိုင်ပင်ပြီးလျှင် လူအချို့ကိုလွှတ်၍ အစေ့စပ်ခိုင်းကာ ငွေစင်နှစ်ပိဿာပေးခြင်းဖြင့်ထိုကိစ္စကို နှုတ်ပိတ်လိုက်လေ၏။ ထို့ပြင် စိတ်ပြောင်းသွားမည်စိုးသည့်အတွက် ကျီလျှံသည် မြေမြန်တော်မှူးကို ဝမ်ဇုဟုန်ဆီသို့လွှတ်ကာ အသုဘကိစ္စကို စီစဉ်ပေးရန် အကြောင်းကြားလိုက်လေ၏။ ထိုအကြောင်းကို သေသူ၏ ဆွေမျိုးများ ကြားသည့်အခါတွင် မကျေနပ်သည့်တိုင် ကြောက်သဖြင့် ဘာမျှမပြောရဲတော့ဘဲ ကျိတ်၍သာခံကြရလေ၏။

ကျီလျှံသည် မိမိတို့၏အိမ်စားရိတ်ထဲမှ ငွေစင်နှစ်ပိဿာကိုလည်း ခေါင်းစဉ်တစ်ခုခုပြု၍ နှုတ်ထားလိုက်ရန် လင်ချိုရှောက်ကို ပြောလေ၏။ ထို့ပြင် လင်ဖြစ်သူ ပေါက်အဲကိုလည်း ငွေပေးပြီး နောင်တွင် မိန်းမတစ်ယောက် ရှာ၍ပေးမည်ဖြစ်ကြောင်း ပြောခိုင်းလိုက်လေ၏။ ပေါက်အဲမှာ လျော်ကြေးရရုံမျှမက ကူညီစောင့်ရှောက်မှုရသည့်အတွက် ဘာမျှမပြောတော့ချေ။

နတ်ငှက်မယ်မှာ ထိုကိစ္စကြောင့် ရင်ထဲတွင် ဗလောင်ဆူလျက်ရှိသည့်တိုင် ဣန္ဒြေမပျက်ဟန်ဆောင်လျက်ရှိလေ၏။ မည်သူမျှမရှိသည့်အခါတွင် ပင်အဲ၏ လက်ကိုဆုပ်ကိုင်ကာ နူးညံ့ချိုသာစွာဖြင့်





"မနေ့က ငါမူးသွားတယ် ပင်အဲရယ်၊ ငါ့ကိုစွမယူနဲ့နော်။ ဘယ်မှာ ခိုက်မိသွားသလဲ၊ မှန်းစမ်းကြည့်ရအောင်"

"ကိစ္စမရှိပါဘူး မလေးရယ်၊ မလေးရိုက်တာ မနာပါဘူး"

"မမယူနဲ့သခင်မလေးတို့လာပါတယ်" ဟူသော အသံကို အပြင်မှ ကြားလိုက်ရလေ၏။

လာရောက်သည့်အကြောင်းကိုသိလိုလျှင် ဆက်၍ဖတ်ပါလေ။

